မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီး

၏

# ခန္ဓာအာယတနဓာတ်သစ္စာ

# လင်္ကာကျမ်း

နှင့်

စစ်ကိုင်းမြို့နယ် မင်းကွန်းတောင်ရိုး

ပထမဓမ္မနာဒ ဆရာတော်ဘုရားကြီး ၏

# ဓာတ် ၆-ပါး သိမ်းဆည်းပုံကျမ်း

တို့ကို

မင်းကွန်း တိပိဋကဓရ ဆရာတော်

## ဖွင့်ဆိုဟောကြားတော်မူချက်

---

မင်းကွန်း တိပိဋကဓရ ဆရာတော်

ရေးသားပြန်ဆိုတော်မူသော

# ရာဟုလောဝါဒသုတ္တန်များ

နှင့်

# ဝိဇယသုတ္တန် မြန်မာပြန်

မုံရွာမြို့ လယ်တီဆရာတော်ဘုရားကြီး၏

၂၀၉၇၀

# ခန္ဓာအာယတနဓါတ်သစ္စာ လင်္ကာကျမ်း

နှင့်

စစ်ကိုင်းမြို့နယ် မင်းကွန်းတောင်ရိုး

ပထမဓမ္မနာဒ ဆရာပော်ဘုရားကြီး၏

# ဓါတ်·၆·ပါးသိမ်းဆည်းပုံကျမ်း

တို့ကို

မင်းကွန်းတိပိဋကဓရဆရာတော်

ဖွင့်ဆိုဟောကြားတော်မူချက်

မင်းကွန်းတိပိဋကဓရဆရာတော်

ရေးသားပြန်ဆိုတော်မူသော

# ရာဟုလောဝါဒသုတ္တန်များ

# ဝိဇယသုတ္တန်မြန်မာပြန်

အကြိမ် - ပထမ အကြိမ်
စုပေါင်းရိုက်နှိပ်ခြင်း

အုပ်ရေ - ၅၀၀၀

၁၉၇၀ - စက်တင်ဘာလ

ရန်ကုန်မြို့၊ ကမ္ဘာအေး သာသနာရေးဦးစီးဌာန အတွက် ဇော်ဦး ပုံနှိပ်တိုက် (၀၂၆၁၁) ဦးကျော်ဆန်း၊ (ရဲဘော်ကျော်ဆန်း)က ပုံနှိပ်၍ လက်ထောက်ညွှန်ကြားရေးမှူး ဦးမြင့်မောင် မှတ်ပုံတင် အမှတ်(၀၂၅၂၇)က ထုတ်ဝေသည်။

ကျေးဇူးရှင်
လယ်တီဆရာတော်ဘုရားကြီး

**ခန္ဓာ, အာယတန, ဓာတ်, သစ္စာ လင်္ကာကျမ်း**

မာတိကာ

# မာတိကာ

ပထမ ဓမ္မနာဒ ဆရာတော် ဘုရားကြီး

## ခေတ် ၆-ပါး သိမ်းဆည်းပုံကျမ်း

မာတိကာ

မာတိကာ

စဉ် စာမျက်နှာ

တိပိဋကဓရဓမ္မဘဏ္ဍာဂါရိကဆရာတော်

ဦးဝိစိတ္တသာရာဘိဝံသ

# မဟာရာဟုလောဝါဒသုတ္တန်များနှင့်ဝိဇယသုတ္တန်မြန်မာပြန်

## မာတိကာ

# မာတိကာ

စဉ် | စာမျက်နှာ

မုံရွာမြို့

ကျေးဇူးရှင် လယ်တီ ဆရာတော်ဘုရားကြီး

ပြုစုရေးသားတော်မူအပ်သော

# ဆ္ဆာ ဒသာယတနု ဂါတိ သဥ္စာ

# သက်ာကျမ်း

နှင့်

ပိဋကဓရ ဓမ္မာဘိဝံသ ကြ

အရှင် ဝိစိတ္တသာရာဘိဝံသ

ဖွင့်ဆိုဟောကြားတော်မူအပ်သော

# ဓမ္မဒေသနာ

နိဒါန်း

## နမော ဗုဒ္ဓာယ

(သိဒ္ဓမ်)။ ။

ဤကျမ်းစာ ဖြစ်ပေါ်လာရခြင်း၏ အကြောင်းရင်းများမှာ

လူဝတ်ကြောင် ဒကာ-ဒကာမများ အဘိဓမ္မာ ဉာဏ်မျက်စိရရှိဖို့ ရန် တိုတိုကျဉ်းကျဉ်းနှင့် လိုရင်း ထိထိမိမိ သိနိုင်ဖို့ရန် အရှင်အနုရုဒ္ဓာ မထေရ်သူမြတ်သည် "အဘိဓမ္မတ္ထသင်္ဂဟ" အမည်ရှိသော လက်သန်း အဋ္ဌကထာ သင်္ဂြိုဟ်ကျမ်းကို ရေးသားစီရင်တော်မူခဲ့ပါသည်။ (အဋ္ဌ ကထာအသွား ရေးသားသည့် ကျမ်းစာများအနက်မှ စာသားနည်းပါး သော အဋ္ဌကထာသွား ကျမ်းစာများကို စာပေပရိယတ္တိ နယ်ပယ်၌ 'လက်သန်းအဋ္ဌကထာ' ဟူ၍ ခေါ်ဝေါ်သုံးစွဲအပ်ပါသည်)။

ထိုသင်္ဂြိုဟ်ကျမ်းမှာ ပါဠိဘာသာဖြင့် စီရင်ရေးသားခဲ့သော ကျမ်းဖြစ်၍ ပါဠိဘာသာကို အလေ့အလာ နည်းပါးသော လူ ပုဂ္ဂိုလ်များအတွက် ထိုသင်္ဂြိုဟ်ကျမ်းဖြင့် အဘိဓမ္မာဉာဏ်မျက်စိ ပွင့်လင်းဖို့ရန် ခဲယဉ်းသကဲ့သို့ ရှိကြရလေသည်။

တဖန် ဗုဒ္ဓဘာသာ မြန်မာလူမျိုးများ အဘိဓမ္မာဉာဏ်မျက်စိ ပွင့်လင်း ကြွစေရန် ကျေးဇူးရှင် လယ်တီဆရာတော် ဘုရားကြီးသည် "ပရမတ္ထ သံခိပ်ကျမ်း"ကို ရေးသားချီးမြှင့်တော် မူပြန်လေသည်။ထို"ပရမတ္ထသံခိပ် ကျမ်း" သည်လည်း လင်္ကာပုဒ်ပေါင်း ၆၆၀ ရှိသဖြင့် လူဝတ်ကြောင် ဒကာ-ဒကာမများ အရဆောင်နိုင်ရန် မလွယ်ကူသကဲ့သို့ ဖြစ်ရပြန်လေ သည်။

သို့ဖြစ်၍ ဗုဒ္ဓဘာသာ မြန်မာလူမျိုးများ အန္ဓပုထုဇဉ်အဖြစ်ကို လွန်မြောက်၍ ကလျာဏပုထုဇဉ်အဖြစ်သို့ ရောက်ရှိကြရန် လယ်တီဆရာတော်ဘုရားကြီးသည် တဖန် လင်္ကာ ၁၀ပုဒ်မျှဖြင့် ခန္ဓာတရား အာယတနတရား ဓာတ်တရား သစ္စာတရားတို့၌ အဝါးဝ နားလည်သွားကြစေရန် ခန္ဓာ,အာယတန, ဓာတ်, သစ္စာလင်္ကာကျမ်း" စာအုပ်ငယ်ကို ထပ်မံရေးသား ချီးမြှောက်တော် မူပြန်လေသည်။ သို့သော် ယင်းစာအုပ်ငယ်မှာ မတွင်ကျယ်ပဲ ရှိခဲ့ပြန်လေသည်။

ဘုန်းကြီးမှာ ရန်ကုန်မြို့ အဘိဓမ္မာ ပြန့်ပွားရေး အသင်းကြီး၏ ဩဝါဒါစရိယ တပါးဖြစ်သည့်အလျောက် ပိုင်လက်ဝယ် ရှိနေသော "ခန္ဓာ, အာယတန,ဓာတ်, သစ္စာလင်္ကာကျမ်း" စာအုပ်ငယ်ကို အဘိဓမ္မာပြန့်ပွားရေးအသင်းမှ ဓမ္မဒါနအဖြစ် ရိုက်နှိပ် လှူဒါန်းပေးအပ် ပိုက်ကွန်းခဲ့ပါသော်လည်း အကြောင်းမညီညွတ်၍ ပရိုက်နှိပ် ဖြစ်သေးသဖြင့် လူထုလက်ဝယ်သို့ ဤစာအုပ်ငယ် အရောက်နှေးခဲ့ရပြန်ပါသည်။

(၁) ထိုသို့ရှိစဉ် ရန်ကုန်မြို့ "ပဋ္ဌာန ပြန့်ပွားရေးအဖွဲ့" ဝင်များဖြစ်ကြသော ဦးသန်းအောင် "သပိုင်း"နှင့် ဦးသော်ဇံ "ကုက္ကိုင်း"တို့က ဦးဆောင်၍ ၁၃၂၆ ခုနှစ်ကပင် လင်္ကာစာသွား အပိုဒ်ဖွင့်များ မူရင်းအတိုင်းပင် တကြိမ်ရိုက်နှိပ်၍ဓမ္မဒါန လှူဒါန်းခဲ့ဘူးပါသည်။

(၂) ဘုန်းကြီးသည် ယင်း"ခန္ဓာ,အာယတန, ဓာတ်, သစ္စာလင်္ကာကျမ်းငယ်"တွင် ပါရှိသော စာကိုယ် လင်္ကာများကို အကြောင်းအားလျော်စွာ တရားပွဲများ၌ ဖွင့်ဆိုဟောကြားခဲ့ပါသည်။ ထိုတွင် ခန္ဓာငါးပါးနှင့် သက်ဆိုင်သော လင်္ကာ ၇ ပုဒ်ကို တချိန်က တရားပွဲ တခုတွင် ဖွင့်ဆိုဟောကြားခဲ့သည်ကို အသံဖမ်းကြိုးခွေဖြင့် ဖမ်းယူသွားခဲ့ရာ အဘိဓမ္မာ ပြန့်ပွားရေးအသင်းဝင် သူတော်စင်တစုတို့၏စိတ်၌ "လင်္ကာသက်သက်မျှကိုသာ ပုံနှိပ်၍ ဓမ္မဒါနပြုရခြင်းထက် ဖွင့်ဆိုဟောကြားအပ်သော 'ဖေဘာပိဏ္ဏုပမသုတ္တန်' ဓမ္မဒေသနာများကိုပါ ဓမ္မဒါန ပြုရပါမူ ပိုမိုကောင်းမွန်လေစွ" ဟု အသင့် နှလုံးသွင်းမိကြသောကြောင့် ဘုန်းကြီးကိုယ်တိုင် ဩဝါဒါစရိယ အလှည့်ကျရောက်သဖြင့် အခမ်းအနားဖွင့်လှစ်ပေးရသော ၁၈ ကြိမ်မြောက် အဘိဓမ္မာ အခါတော်နေ့ ပူဇော်ပွဲတွင်

ဘုန်းကြီး၏ ဓမ္မစ္ဆန္ဒပြည့်ဝစေရန် ပူဇော်သောအားဖြင့် ရန်ကုန်မြို့ အဘိဓမ္မာပြန့်ပွားရေး အသင်းကြီးက ၁၃၂၈ ခုနှစ် သီတင်းကျွတ်လပြည့် နေ့ နေ့စွဲဖြင့် ပထမအကြိမ်ပုံနှိပ်၍ ဓမ္မဒါန ပြုခဲ့ပါသည်။

(၃) ထိုဓမ္မလက်ဆောင်ကို ရရှိကြသူ မြင်းခြံမြို့မှ နှစ်ကျိပ်ရှစ်ဆူ ဂေါပကအဖွဲ့ဥက္ကဋ္ဌ ဦးမောက်နှင့် ကောင်းမှုရှင် သူတော်စင် တစုတို့က ၁၃၂၉ ခုနှစ် နယုန်လပြည့်နေ့ နေ့စွဲဖြင့် ဒုတိယအကြိမ် ထပ်မံရိုက်နှိပ်၍ ဓမ္မဒါန ပြုကြပြန်ပါသည်။

(၄) ယခုတဖန် အသစ်ထပ်မံ၍ ရိုက်နှိပ်ရန်အကြောင်း ပေါ်ပေါက် လာပြန်သည်မှာ ရန်ကုန်မြို့ သမိုင်းရပ် “ကျိုက်ဝိုင်း” မဟာတိလောကာရုံ ကျောင်းတိုက်၌ ၁၃၃၀ ခု၊ ကဆုန်လဆန်း ၁၂ ရက်နေ့တွင် စာသင် တိုက်ဖွင့်ပွဲကျင်းပရာထိုအစည်းအဝေး၌ဘုန်းကြီးသြဝါဒပေးနည်းညွှန်ရန် ဆ[illegible] ဒ[illegible]နှစ်ဘက်တို့မှ တောင်းပန်လျှောက်ထားကြသဖြင့် “အနာဂတ် သာသနာအတွက် ဆ[illegible] ဒ[illegible] နှစ်ဘက်လုံးကပင် လိုအပ်ချက် အဝဝ ပြည့်စုံစေလိုသည့် အာသာသန္တဖြင့် မှုသစ်ချကာ ရှက်ဆောင်လိုကြ ကြောင်း” ကြားတင် သိရှိ ယားရသည့်အလျောက် “ဤကျောင်းတိုက်၌ သီတင်းသုံးကြမည့် သီဘင်းသုံးဖော် သံဃာတော်တို့သည် ‘နိဿရဏတ္ထ [illegible]ပရိယတ္တိသို့=ဝါ ပရိယတ္တိမှ ပဋိပတ္တိသို့’ ဟူသော ဆောင်ပုဒ်ဖြင့် စာပေ ပရိယတ္တိအသိဉာဏ်နှင့် အကျင့်=ပဋိပတ်တို့ကို တထပ်တည်းသိရှိကျင့်သုံး မှုကို ယခုကဲ့သို့ စာသင်တိုက်ဖွင့်စကပင် စတင်ကာ သင်ကြား လေ့ကျင့် ပေးနိုင်စေရန်နှင့် ဆ[illegible]ကောင်း ရရှိကြသော ဒကာ ဒကာမအပေါင်းတို့ အားလည်း ဤမူဖြင့်သာ ယခုကပင် အသိဉာဏ်ပေးကာ ဆရာ ဒကာ နှစ်ဦးသားတို့ အဘူဘကွ ကျင့်သုံးကြစေလိုကြောင်း” စာသင်တိုက်ဖွင့်ပွဲ သြဝါဒအဖြစ်ဖြင့် သတိပေးစကား ပြောကြားခဲ့ပါသည့်ပြင်

ဒကာ ဒကာမများအတွက်လည်း ပရိယတ္တိ, ပဋိပတ္တိ,ပဋိဝေဓ=သဒ္ဓမ္မ သုံးဖြာ သာသနာတော်ကို စောင့်ရှောက်ကြမည့် ပုဂ္ဂိုလ်များ ဖြစ်ကြ သည့်အလျောက် “[illegible]ကိုဘ အသင်း” အမည်ဖြင့် ဆောင်ရွက်ကြရန် အသင်းအမည်ကိုပါ ရွေးချယ်ပေးခဲ့ပါသည်။

ဤတွင် ဆရာ ဒကာ သဘောတူဖွဲ့စည်းပြီးကြသော ဓမ္မရက္ခိတအသင်းဝင် သူတော်စင် အပေါင်းတို့အတွက် ပဋိပတ်ဘက်တွင် လေးနက်စွာ ကျင့်သုံးလိုက်နာရမည့် ကျင့်စဉ် နည်းလမ်းကောင်းအနေဖြင့် လက်ကိုင်လေ့လာနာယူ ကျင့်သုံးထိုက်သော လက်စွဲစာအုပ်တခုကို ညွှန်ကြားပေးပါရန်အကြောင်း ဓမ္မရက္ခိတအသင်း၏ဥက္ကဋ္ဌ ဒါယကာ ဦးသန်းအောင်က တောင်းပန်လျှောက်ထားလာရာ ယင်း 'ဒါယကာ ဦးသန်းအောင်' တို့ပင် အကြိမ်ကြိမ်ရိုက်နှိပ်ပြီး ဓမ္မဒါန ပြုခဲ့ဘူးသော (၁) ပထမမ္မေနာဒ ဆရာတော်ဘုရား၏ "ခေတ်ခြောက်ပါး သိမ်းဆည်းပုံကျမ်း" (၂) မဟာဗုဒ္ဓဝင်ကျမ်းမှ ထုတ်နုတ်ဖော်ပြအပ်သော "ရာဟုလောဝါဒသုတ္တန်များနှင့်ဝိဇယသုတ္တန် မြန်မာပြန် ကျမ်း"နှင့် (၃) ဤ "ခန္ဓာ,အာယတန, ဓာတ်,သစ္စာ လက်ာကျမ်း"တို့ကိုပင် ပြန်လည် ရိုက်နှိပ် အသုံးပြုကြရန် ညွှန်ကြားလိုက်ပါသည်။

ဓမ္မမာမက သူတော်စင်အပေါင်းကို့သည် အစဉ်အတိုင်း ရိုက်နှိပ်ဖြန့်ဝေမည့် ကျမ်းစာသုံးစောင်ကို လေ့လာနာယူ သင်ကြား နှလုံးသွင်း ပွားများကြ၍ ဓမ္မပီတိအရသာကို ဝလင်စွာ သုံးစွဲ နိုင်ကြပါစေကုန်သတည်း။

ဦးဝိစိတ္တသာရာဘိဝံသ

-၁၃ ၅ ၃၈



အဂ္ဂမဟာပဏ္ဍိတ နှင့် ဒီလစ် (စာပေပါရဂူ) ဘွဲ့တံဆိပ်တော်ရ

လယ်တီဆရာတော်ဘုရားကြီးပုံတော်

## ခန္ဓာ အာယတန ဓာတ်သစ္စာလင်္ကာကျမ်း

နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

### ရူပက္ခန္ဓာ

### လင်္ကာ ၁

ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာသင်္ခါရ၊ ဝိညာဏဟု၊ အစုငါးတန်၊
ငါးရပ်ခန်တည်း၊ ဘောက်ပြန်ထွေပြား၊ ဖြစ်တတ်ငြားရှ်၊ စကားပုံသော၊
ရုပ်ခေါ်ပေ၏၊ မြေဓာတ် ရေဓာတ်၊ မီးလေဓာတ်ဟု၊ လေးရပ်ဘုတ်ကြီး၊
ပွားစီးအနက်၊ စက် သော ဃာ ဇိ၊ ကာငါးလိမ္မူ၊ အကြည်ရူပ၊
ပသာဒတည်း၊ ရူပသဒ္ဒ၊ ဂန္ဓရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ငါးဖြာဒအာရုံ၊
နှစ်ယုံဘာဝ၊ ဟဒယနှင့်၊ ဇီဝသြဇာ၊ ဆယ့်ရှစ်မှာမူ၊ လေးဖြာဟောတုံ၊
ကြောင်းစတုကြောင့်၊ ဖြစ်မှုပေါ်လော၊ သဘောသီးသီး၊ ကိုယ်စီပြီး၍၊
ရုပ်ကြီးရူပ၊ နိပ္ဖန္နတည့်။ ။ထိုမှတပါး၊ ကလာပ်ခြားမျှ၊ အာကာသနှင့်၊
ကာယဝစီ၊ နှစ်လီကိုယ်နှုတ်၊ လှုပ်မှု ရှားမှု၊ နှစ်ခုဝိညတ်၊ ရူပဿလဟု၊
မုဒုကမ္မည၊ ဝိကာရခေါ်၊ ရုပ်သုံးဖော်ကား၊ ပေါ့ပါးနူးညံ့၊ ကြံ့ခိုင်
မှုရာ၊ တဖြာဆိုမှ၊ ဥပစယ၊ အစပွားတိုး၊ အရိုးပြည့်မှီ၊ တည်စဉ်သန္တတိ၊
ရင့်ဘိဇရာ၊ ပျက်မှာအနိစ္စ၊ ဤလေးဝမ္မ၊ လက္ခဏရုပ်၊ ခေါ်သမုတ်၏၊
ရုပ်ပေါင်းဆယ်တန်၊ အနိပ္ဖန်တည့်၊ နိပ္ဖန်ဆယ့်ရှစ်၊ ပေါင်းတုံလစ်က၊
ရှစ်ခုစွန်းကယ်၊ ရုပ်နှစ်ဆယ်သည် အကျယ်ရူပက္ခန္ဓာတည်း။

## အဓိပ္ပာယ်သရုပ်

လွန်စွာပွားစီးတတ်သောကြောင့် မဟာဘုတ်ခေါ်သည်။ ။မြေဓာတ်, ရေဓာတ်, မီးဓာတ်, လေဓာတ်=မဟာဘုတ်လေးပါး။ ။စက္ခု,သောတ, ဃာန, ဇိဝှါ, ကာယ = ပသာဒရုပ် ငါးပါး။ ။ရူပါရုံ, သဒ္ဒါရုံ, ဂန္ဓာရုံ, ရသာရုံ, ဖောဋ္ဌဗ္ဗာရုံ = အာရုံဂေါစရရုပ် ငါးပါး။ ။ဤငါးပါးတွင် ဖောဋ္ဌဗ္ဗာရုံ ဆိုသည်ကား မြေဓာတ်, မီးဓာတ်, လေဓာတ် ဤမဟာဘုတ် သုံးပါးကိုပင် ဆိုသည်။ ။ဣတ္ထိဘာဝရုပ် ပုမ္ဘာဝရုပ်=ဘာဝရုပ် ၂ ပါး။ ။ဟဒယ ဝတ္ထုရုပ် တပါး။ ဇီဝိတရုပ် တပါး။ ဩဇာဟူသော အာဟာရရုပ်တပါး။ ။ပေါင်း နိပ္ဖန္နရုပ် တဆယ့်ရှစ်ပါး။ ။အာကာသ ဓာတ် တပါး။ ။ကာယဝိညတ်ရုပ်, ဝစီဝိညတ်ရုပ်=ဝိညတ်ရုပ် နှစ်ပါး။ ။ ရူပဿလဟုတာရုပ်, ရူပဿမုဒုတာရုပ်, ရူပဿကမ္မညတာရုပ်=ဝိကာရရုပ် သုံးပါး။ ။ဥပစယရုပ်,သန္တတိရုပ်,ဇရတာရုပ်,အနိစ္စတာရုပ်=လက္ခဏာရုပ် လေးပါး။ ပေါင်း အနိပ္ဖန္နရုပ် ဆယ်ပါး။ ။နိပ္ဖန္နရုပ် တဆယ့်ရှစ်ပါးနှင့် ပေါင်းသော် ရူပက္ခန္ဓာအကျယ် နှစ်ဆယ့်ရှစ်ပါးဖြစ်၏။

## လင်္ကာ ၂

စက် သော ဃာ ဇီ၊ ကာ အကြည်နှင့်၊ နှစ်လီဘာဝ၊ ဟဒယက၊ ဇီဝ အာယု၊ ရုပ် ၉ ခုမှာ၊ ကမ္မဇာကည့်၊ ငွက်ဖြာဝိညတ်၊ စိတ်ဖြစ်မှတ်လော့၊ သဒ္ဒတခု၊ စိတ်ဥတုဖြစ်၊ ဟလစ်ဝိကာ၊ ရုပ်သုံးဖြာမူ၊ ဩဇာဥတု၊ စိတ်ဖြင့် ရှုလော့၊ လေးခုဘူတ၊ ဝဏ္ဏဂန္ဓ၊ ရသဩဇာ၊ အာကာသဓာတ်၊ ၉ ရုပ် ရုပ်ပေါင်း၊ အကြောင်းလေးပါး၊ ဖြစ်တတ်ငြား၏၊ လေးပါးလက္ခဏာ၊ အလွတ်ကျရှင့်၊ မဟာဘူတ၊ ဝဏ္ဏဂန္ဓ၊ ရသဩဇာ၊ ရုပ်ရှစ်ဖြာကား၊ မကွာမကွဲ၊ အမြဲတူကွ၊ ဖြစ်ပျက်မှုသည်၊ အဋ္ဌကလာပ်၊ ခေါ်ပညတ်၏၊ ကလာပ်ရုပ်ခဲ၊ ရှစ်ခုထဲတွင်၊ဇီဝယှဉ်က၊ဇီဝိတနဝ၊ခေါ်ဆိုရ၏၊နဝထိုမှာ၊ စက်,သော,ဃာနှင့်၊ ဇီ ကာ ပဉ္စ၊ဘာဝ၊ ၂ ခု၊ ဝတ္ထုဟဒယ၊ လောင်းပြန် ကလျှင်၊ ဒသကလာပ်၊ ရှစ်ရုပ်ပွားတိုး၊ ကလာပ်ကိုးမှာ၊ ကမ္မဇာတည်း၊ ရှစ်ဖြာမူလ၊ အဋ္ဌကတွင်၊ သဒ္ဒတရုပ်၊ ဝိညတ်နှစ်ဖြာ၊ ဝိကာရသုံး၊ဖွဲ့စည်း

ရုံးက၊ စိတ္တဇကလာပ်၊ ရှစ်စည်းမှတ်လော့၊ ကလာပ်မူလ၊ အဋ္ဌကနှင့်၊ သဒ္ဒနဝ၊ ဝိကာရတေး၊ကလာပ်လေးမူ၊ ဥတုယူလော့၊ မူလအဋ္ဌ၊ ဝိကာရပွား၊ နှစ်စည်းအားမှာ၊ အာဟာရဇ၊ ကလာပတည်း၊ ပေါင်းဆနှစ်ဆယ်၊ သုံးစည်းကယ်သည် အကျယ်ရုပ်စု ရုပ်ခဲတည်း။

## အစိပ္ပာယ် သရုပ်

မဟာဘုတ်လေးပါး, ဝဏ္ဏ, ဂန္ဓ, ရသ, ဩဇာ=ဤရုပ်ရှစ်ခုအပေါင်းသည် မကွာမကွဲ အစဉ်မြဲသော ရုပ်ခဲရှစ်စုဖြစ်၍ အဋ္ဌကလာပ်မည်၏။ အကြောင်းလေးပါးနှင့် ဆက်ဆံသော မူလကလာပ်ရင်းတည်း။ ။ကမ္မဇကလာပ် ၉ စည်းကား ယင်း မူလအဋ္ဌကလာပ်တွင် ဇီဝိတရုပ်ကိုထည့်၍ ဇီဝိတနဝက ကလာပ်တစည်းရ၏။ ယင်းနဝက ကလာပ်တွင် စက္ခု, သောတ, စသည်တို့ကို တခုစီထည့်၍ စက္ခုဒသက ကလာပ်, သောတဒသက ကလာပ်, ဃာနဒသက ကလာပ်, ဇိဝှာဒသက ကလာပ်, ကာယဒသက ကလာပ်, ဣတ္ထိဘာဝဒသက ကလာပ်, ပုမ္ဘာဝ ဒသက ကလာပ်, ဟဒယဝတ္ထုဒသက ကလာပ်ဟူ၍ ဒသက ရှစ်စည်းရ၏။ ပေါင်း ကမ္မဇကလာပ် ကိုးစည်းဖြစ်၏။

စိတ္တဇကလာပ် ရှစ်စည်းကား မူလလေးစည်း အပွားလေးစည်း။ မူလလေးစည်းကား အဋ္ဌကလာပ်တစည်း။ယင်းတွင် သဒ္ဒထည့်၍ သဒ္ဒနဝက ကလာပ်တစည်း။ ကာယဝိညတ်ထည့်၍ ကာယဝိညတ် နဝက ကလာပ် တစည်း။ သဒ္ဒနှင့် ဝစီဝိညတ်ထည့်၍ သဒ္ဒဝစီဝိညတ်ဒသက ကလာပ် တစည်း။ အပွားလေးစည်းကား မူလလေးစည်းတွင် ဝိကာရရုပ် ၃ ခုစီ လောင်း၍ ဧကာဒသက ကလာပ်တစည်း၊ ဒွါဒသက ကလာပ်နှစ်စည်၊ ..ာရသက ကလာပ်တစည်း ပေါင်း အပွားလေးစည်း။

ဥတုဇကလာပ် လေးစည်းကား မူလနှစ်စည်း, အပွားနှစ်စည်း။ မူလနှစ်စည်းကား အဋ္ဌကလာပ်တစည်း။သဒ္ဒနဝက ကလာပ်တစည်း။ ။အပွားနှစ်စည်းကား မူလ နှစ်စည်းတွင် ဝိကာရရုပ် ၃ ခုစီလောင်း၍ ဧကာဒသက ကလာပ်တစည်း၊ ဒွါဒသက ကလာပ်တစည်း။

အာဟာရဇကလာပ် နှစ်စည်းကား မူလ အဋ္ဌကလာပ်တစည်း။ ကောဒသ ဝိကာရအပွားတစည်း။ ။ကလာပ် ပေါင်း ၂၃ စည်း။ သတ္တဝါတို့၏ ကိုယ်သန္တာန်မှာ ထို ၂၃ စည်းလုံးကို ထိုက်သည်အားလျော်စွာ ရထိုက်၏။ အသက် မရှိကြသော အဝိညာဏက ဝတ္ထုတို့မှာ ဥတုဇ အဋ္ဌကလာပ်တစည်း၊ ဥတုဇ သဒ္ဒနဝက ကလာပ်တစည်း၊ ဤဥတုဇ မူလနှစ်စည်းကိုသာ ရထိုက်၏။

## ဝေဒနာက္ခန္ဓာနှင့် သညာက္ခန္ဓာ

### လင်္ကာ ၃

ခံစားစံစား၊ စကားနှစ်ထွေ၊ တရားနေမှာ၊ ဝေဒနာဓာတ်၊ ခန္ဓာမှတ်လော့၊ သုံးရပ်ဝေခွဲ၊ဆင်းရဲဒုက္ခ၊ သုခချမ်းသာ၊ဥပေက္ခာဟူ၊ လျစ်လျူခံစား၊ မထင်ရှားတည်း၊ ငါးပါးအလို၊ တပုံဆိုသော်၊ ကိုယ်စိတ်နှစ်ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲလော့၊ တနဲယို့ပြင်၊အဖြင်အကြား၊ အနံ့အားနှင်၊ စားလျက်တွေ့ထိ၊ ကြွသိ ဖြ–ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲငြား၊ ဆယ့်ရှစ်ပါးတည်း၊ သုံးပါးကာလ၊ ပွားထတုံသေး၊ ငါးဆယ်လေးတည်း၊ တရေးသဏ္ဌာန်၊ နှစ်ပွားပြန်က၊ တရာ့ရှစ်ပင်၊ အကျယ်မြင်လော့။ ။ထို့ပြင်သညာ၊ ခန္ဓာမှာကား၊ လိပ်မာကတ်သိ၊ ခေါ်ကြဘိရှင်၊ လူ၏ဘောင်မှာ၊ လူတကာနဲ၊ လိမ်မာမြဲပူ၊ မှတ်စွဲဖြာဖြာ၊ ဤသညာပင်၊နတ်မှာနတ်ယျောက်၊ လိမ်မာမြောက်၏၊ အောက်အပါယ်သား၊ ကျဲနွားမြင်းဆင်၊ မြင်မြင်သမျှ၊ အနန္တလည်း၊ ဘာဝဘာဝ၊ သိတတ်ကြ၏၊လောကအလုံး၊ မြော်မဆုံးလျှင်၊ အသုံးတွင်စွာ၊ အလိမ်မာဟု၊ အချာအချုပ်၊ ခေါ်သမုတ်၏၊ မှုဆိုးတံငါ၊ သူ့အဂ္ဂဋ္ဌ၊ လိမ်မာကျွမ်းကျင်၊ သညာပင်တည်း၊ သို့စဉ်နည်းပြ၊ သိကုန်ကြလော့၊ ရူပသညာ၊ စသည်ဖြာသား၊ သညာအပြား၊ အကျဉ်းအားဖြင့်၊ ခြောက်ပါးလာရှိ၊ ပွားပြန်ကိုမူ၊ မြဲသိ, ရေသိ၊ နေလသိက၊ စသည်သွယ်သွယ်၊ မဆုံးဖွယ်သည် အကျယ်သညာက္ခန္ဓာတည်း။

## အစိပ္ပာယ်သရုပ်

ခံစားမှု စစားမှုသည် ဝေဒနာက္ခန္ဓာ မည်၏။ ထိုဝေဒနာက္ခန္ဓာ သည် သုခဝေဒနာ, ဒုက္ခဝေဒနာ, ဥပေက္ခာဝေဒနာဟူ၍ ၃-ပါးရှိ၏။ ကိုယ်၏ချမ်းသာခြင်း, စိတ်၏ချမ်းသာခြင်း, ကိုယ်၏ဆင်းရဲခြင်း, စိတ်၏ ဆင်းရဲခြင်း, လျစ်လျူရှုခြင်းဟူ၍ ဣန္ဒြိယ ဘေဒအားဖြင့်ငါးပါးရှိ၏။ ။ မျက်စိအတွေ့၌ ခံစားခြင်း, နှာခေါင်းအတွေ့၌ ခံစားခြင်း, လျှာအတွေ့၌ ခံစားခြင်း, ကိုယ်အတွေ့၌ခံစားခြင်း, စိတ်မနောအတွေ့၌ ခံစားခြင်းဟူ၍ ဒွာရဖဿအပြားအားဖြင့် ၆-ပါးရှိ၏။ ထို ၆ ပါးတွင် စက္ခုအတွေ့၌ ခံစားခြင်းမှာ အမြင် ချမ်းသာခြင်း, အမြင် မချမ်းသာခြင်း, အမြင် လျစ်လျူရှုခြင်းဟူ၍ ၃-ပါး ပြားပြန်၏။ ထိုနည်းအတူ နားအတွေ့၌ ခံစားခြင်း စသည်တို့မှာလည်း ၃-ပါး ၃-ပါးစီ ပြားပြန်ရကား ဝေဒနာက္ခန္ဓာ အပြားတဆယ့်ရှစ်ပါး ဖြစ်၏။ ရှေး၌လည်း ခံစားခဲ့လှပြီ၊ နောက်၌လည်း ခံစားလတ္တံ့၊ ယခုလည်း ခံစားတုန်း ခံစားဆဲဟူသော ကာလ ၃-ပါးနှင့် မြှောက်ပွားသော် ဝေဒနာက္ခန္ဓာအပြား ၅၄-ဖြစ်၏။ သူခံစားမှု ၅၄၊ ငါခံစားမှု ၅၄-ဟူ၍ ပုဂ္ဂိုလ်သန္တာန် ၂-ပါးနှင့်မြှောက် ပွားသော် ဝေဒနာက္ခန္ဓာအပြား ၁၀၈-ပါး ဖြစ်၏။

သညာဆိုသည်ကား လောက၌ တက်သိလိမ်မာခြင်း, သိကြား လိမ်မာခြင်း, ကျွမ်းကျင်လိမ်မာခြင်းကို ဆိုသတည်း။ ထိုကျွမ်းကျင် လိမ်မာ ခြင်းဟူသော အလိမ်မာမျိုးသည် ကုသိုလ်အရာ အကုသိုလ်အရာ နှစ်ပါး၌ ပင်ဆို၏။ မုဆိုးအလုပ်မျိုးမှာ မုဆိုးသည် ကျွမ်းကျင်လိမ်မာ၏။ တံငါ အလုပ်မျိုးမှာ တံငါသည် ကျွမ်းကျင်လိမ်မာ၏။ လူသတ်မှုမှာ သူသတ် ယောကျ်ားသည် ကျွမ်းကျင်လိမ်မာ၏။ ကြောင်အမှုမှာ ကြောင်, ကျား အမှုမှာကျား, ကျီးအမှုမှာ ကျီးသည် ကျွမ်းကျင်လိမ်မာ၏ စသည်ဖြင့် သညာက္ခန္ဓာနယ် ကြီးကျယ်ပုံကိုလည်းကောင်း၊ သတ္တဝါ၏ အရေး အရာတွင် သညာက္ခန္ဓာ အလိမ်မာသည် အချာအချုပ်ကြီးဖြစ်နေပုံကို လည်းကောင်း အကုန်ပြော်မြင်ကြလေ။ ။ရူပသညာ, သဒ္ဒသညာ, ဂန္ဓသညာ, ရသသညာ, ဖောဋ္ဌဗ္ဗသညာ, ဓမ္မသညာဟူ၍ အာရုံ အပြား အားဖြင့် ၆-ပါးပြား၏။

## သင်္ခါရက္ခန္ဓာ

### လင်္ကာ ၄

ကာယဝစီ၊ မနောပြီသည်၊ သုံးလီကမ္မ၊ သင်္ခါရမှု၊ ဓမ္မထင်ရှား၊
ငါးဆယ်ပြား၏၊ တွေ့ငြားဖဿ၊ ဆော်ထစေတနာ၊ ဧကဂ္ဂါမှု၊ တည်
ကြည်ဟူ၏၊ သက်မှုဇီဝိ၊ မနသိကာရ၊ နှလုံးထားတည့်၊ ငါးပါးဓမ္မ၊ စိတ်
တိုင်းရ၏။ ။တက္ကကြံခြင်း၊ ဖွဲ့ရစ်ခြင်းမှာ၊ ဝိစာရမှတ်၊ ဆုံးဖြတ်ဓိမောက္ခ၊
ဝီရိယနှင့်၊ ဆန္ဒပီတိ၊ ထင်ရှားဘိ၏။ ။မသိမလင်း၊ မထိုးထွင်းချက်၊
မောဟနက်တည့်၊ ရှက်ကြောက်မရှိ၊ အဟိရိက၊ နောတ္တပ္ပမည်၊ မတည်
ကြည်က၊ ဥဒ္ဓစ္စမှု၊ ဤလေးခုကား၊ အကုသိုလ်တွင်၊ စိတ်တိုင်းယှဉ်၏။
လိုချင်လောဘ၊ မာနထောင်လွှား၊ မြင်မှားဒိဋ္ဌိ၊ ကြမ်းဘိဒေါသ၊ မစ္ဆေရ
ဝန်တို၊ မနာလိုဣဿာ၊ တဖြာကုက္ကုစ္စ၊ နောင်တပူပင်၊ မရှင်မကြည်၊
ထိုင်းမှိုင်းသည်မှာ၊ နှစ်မည်ထိမိဒ္ဓ၊ စိတ်ထဲဒွိဟ၊ နှစ်ခွနေဘိ၊ ဝိစိကိစ္ဆာ၊
သဒ္ဓါကြည်လေ့၊ မမေ့သတိ၊ ရှက်ကြောက်ဘိမှာ၊ ဟိရီဩတ္တပ်၊ မကပ်
ငြိ၊ မကြမ်းဘိနှင့်၊ အသိတရား၊ ဟိတ်သုံးပါးဟူ၊ လျစ်လျူနေလတ်၊
တတြမဇ္ဈတ္တတာ၊ နှစ်ဖြာပဿဒ္ဓိ၊ ငြိမ်းဘိကိုယ်စိတ်၊ ပေါ့ရိပ်လဟု၊
မုဒုနူးညံ့၊ ကျမ်းခံ့ကမ္မညု၊ ကျွမ်းကျင်ပါဂုည်၊ ဖြောင့်တုံဥဇု။ ။နှုတ်ဒု
ကာဒု၊ ကြဉ်မှုသုံးဖြာ၊ ဝါစာကမ္မန္တ၊ အာဇီဝနှင့်၊ သတ္တအများ၊ သနား
သမှု၊ ဝမ်းမြောက်မှုဟု၊ ကရုမုဒိ၊ ငါးဆယ်ငှိ၏၊ သုစရိတ၊ ဒုစ္စရိတ၊
ဒါန, သီလ, ဘာဝနာ၊ စသည်ဖြာသား၊ ဝေါဟာသွယ်သွယ်၊ ပဆုံး
ဖွယ်သည် အကျယ်သင်္ခါရက္ခန္ဓာတည်း။

### အဓိပ္ပာယ် သရုပ်

သင်္ခါရက္ခန္ဓာသည် အကျဉ်းအားဖြင့် ကိုယ်အမှု, နှုတ်အမှု, စိတ်အမှု တို့ကို ပြုပြင်ခြင်းပေတည်း။ တရားကိုယ်သရုပ် အကျယ်အားဖြင့် ၅၀-ရှိ၏။

ဖဿ, စေတနာ, ဧကဂ္ဂတာ, ဇီဝိတ, မနသိကာရ ဟူ၍ သဗ္ဗစိတ္တသာဓာရဏ ငါးပါး။ ။ဝိတက်, ဝိစာရ, အဓိမောက္ခ, ဝီရိယ, ပီတိ,

ဆန္ဒ ဟူ၍ ပကိဏ်း ၆-ပါး။ ။မောဟ, အဟိရိက, အနောတ္တပ္ပ, ဥဒ္ဓစ္စ လောဘ, ဒိဋ္ဌိ, မာန, ဒေါသ, ဣဿာ, မစ္ဆရိယ, ကုက္ကုစ္စ, ထိန, မိဒ္ဓ ဝိစိကိစ္ဆာဟူ၍ အကုသိုလ် စေတသိက် ၁၄-ပါး။ ။သဒ္ဓါ,သတိ, ဟိရီ, ဩတ္တပ္ပ, အလောဘ, အဒေါသ, အမောဟ, တတြမဇ္ဈတ္တတာ, ကာယပဿဒ္ဓိ, စိတ္တပဿဒ္ဓိ, ကာယလဟုတာ, စိတ္တလဟုတာ, ကာယမုဒုတာ, စိတ္တမုဒုတာ, ကာယကမ္မညတာ, စိတ္တကမ္မညာတာ, ကာယပါဂုညတာ, စိတ္တပါဂုညတာ, ကာယုဇုကတာ, စိတ္တုဇုကတာ ဟူ၍ သောဘဏစေတသိက် ၂၀။ ။သမ္မာဝါစာ, သမ္မာကမ္မန္တ, သမ္မာအာဇီဝ ဟူ၍ ဝိရတိစေတသိက်သုံးပါး၊ ။ကရုဏာ, မုဒိတာ ဟူ၍ အပ္ပမညာ စေတသိက်၊ နှစ်ပါး၊ ။ဤကားတရားကိုယ်အပြား ၅၀-တည်း။ ။သုစရိုက် ဆယ်ပါး၊ ဒုစရိုက်ဆယ်ပါး၊ ဒါန, သီလ, ဘာဝနာစသော ပုညကြိယာဝတ္ထု ဆယ်ပါး၊ ပါရမီဆယ်ပါး စသည်တို့သည်လည်း သင်္ခါရက္ခန္ဓာတို့ပေတည်း။

## ဝိညာဏက္ခန္ဓာ

### လင်္ကာ ၅

အာရုံယူဘိ၊ အသိသဘော၊ စိတ်မနောကို၊ဝိညာဏ်ဆို၏၊ ယင်းဝိညာဏ်ကား မြင်,ကြား, နံ, လျက်၊ ထိ, သိချက်ဟု၊ ၆-ခုအကျဉ်း၊ အကျယ်ခင်းက၊ ကာမ ရူပ၊ အရူပနှင့်၊ လောကုတ္တရာ၊ စိ[illegible]

နှစ်တန်၊ ဥာဏ်ယှဉ်မယှဉ်၊ သင်ရှိမရှိ၊ ရှစ်ပါးသိလော့၊ ဝိပါက်မဟာ၊ ကြိယာလည်း၊ ဆိုနည်းရှစ်စီ၊ သုံးလီပေါင်းဆွေး၊ နှစ်ဆယ့်လေးဟည်း၊ ရှေးတဆယ့်နှစ်၊ တဆယ့်ရှစ်နှင့်၊ ပေါင်းလင်တုံက၊ အကျယ်ရသည် ကာမ ငါးဆယ့်လေးလျှင်တည်း။

## လက်ာ ၆

ဈာန်စိတ်ရူပ၊ဆယ့်ငါးမျှတည့်၊ ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်၊ပဉ္စမဈာန်၊ ငါးတန်အပြား၊ ဈာန်ငါးပါးနှင့်၊ ယှဉ်ပြားအလို၊ ကုသိုလ်စိတ်ငါး၊ ဝိပါက်ငါးနှင့်၊ ငါးပါးကြိယာ၊ ဆယ့်ငါး ဖြာကား၊ ဗြဟ္မာရူပ၊ ဈာန်စိတ်ပေတည်း။

အာကာသာနဉ္စာယတနဈာန်၊ ဝိညာဏဉ္စာယတနဈာန်၊ အာကိဉ္စညာယတနဈာန် နေဝသညာနာသညာယတနဈာန်၊လေးတန်အပြား ဈာန်လေးပါးနှင့်၊ ယှဉ်ပြားအလို၊ ကုသိုလ်စိတ်လေး၊ ဝိပါက်လေးနှင့်၊ လေးပါးကြိယာ၊ ဆယ့်နှစ်ဖြာကား၊ ဗြဟ္မာအရူပ၊ ဈာန်စိတ်ပေတည်း။ သောတာပတ္တိမဂ္ဂ၊ သကဒါဂါမိမဂ္ဂ၊ အနာဂါမိမဂ္ဂ၊ အရဟတ္တမဂ္ဂ၊ အဋ္ဌင်္ဂိက၊ မဂ္ဂအပြား၊ မဂ်လေးပါးနှင့်၊ ယှဉ်ပြားအလို၊ ကုသိုလ်စိတ် လေး၊ ဖိုလ်စိတ်လေးဟု၊ ရှစ်ခုလောကုတ်၊ အကျဉ်းချုပ်၏။ လောကုတ် အကျယ်၊ လေးဆယ်အရေ၊ သရုပ်ပြမူ၊ ပထမဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ ဒုတိယဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ တတိယ ဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ စတုတ္ထဈာန် သောတာပတ္တိ မဂ် စိတ်တပါး၊ ပဉ္စမဈာန် သောတာပတ္တိမဂ်စိတ်တပါးဟူ၍ သောတာ ပတ္တိ မဂ်စိတ်အပြား ငါးပါး၊ ဤနှုန်းအတိုင်းဖြင့်၊ မျက်ပါးသကုန်၊ ဈာန် ပွားတုံက၊ လေးဆယ်ရှုဏ်၊ တရာနှစ်ဆယ်၊ ပါပါးကာမှသည် အကျယ် ဝိညာဏက္ခန္ဓာတည်း။

## အစိပ္ပာယ် သရုပ်

ဤလင်္ကာ ၂-ပိုဒ်တွင် ပထမလင်္ကာ၌ ဖြင်- ဆိုသည်ကား စက္ခု ဝိညာဏ်စိတ်တည်း ကြား-သောတဝိညာဏ်စိတ်၊ နံ-ဃာနဝိညာဏ်

စိတ်၊ လျက်-ဇိဝှာဝိညာဏ်စိတ်၊ ထိ-ကာယဝိညာဏ်စိတ်၊ သိ-ဆိုသည်ကား မနောဝိညာဏ်စိတ်။ ။အကျယ်နည်း၌ သော,ဥယျဉ် ဒိဋ္ဌိ ဆိုသည်ကား သောမနဿဝေဒနာနှင့် ယှဉ်သောစိတ်တပါး၊ ဥပေက္ခာဝေဒနာနှင့်ယှဉ်သောစိတ်တပါးဟူ၍ လောဘမူစိတ်၂ပါးဖြစ်၏။ ။ဒိဋ်ယှဉ်မယှဉ်ဆိုသည်ကား ထိုနှစ်ပါးတို့တွင် တပါးပါးသည် ဒိဋ္ဌိနှင့်ယှဉ်သည်တပါး၊ ဒိဋ္ဌိနှင့်မယှဉ်သည်တပါး ဟူ၍ လောဘမူစိတ် လေးပါးဖြစ်၏။ ။သင်ရှိမရှိဆိုသည်ကား ထိုလေးပါးတို့တွင် တပါးပါးသည် သင်္ခါရရှိသည်တပါး၊ သင်္ခါရမရှိသည်တပါး ဟူ၍ လောဘမူစိတ်ရှစ်ပါးဖြစ်၏။ သင်္ခါရဆိုသည်ကား တိုက်တွန်းမှုကို ဆိုသတည်း။ ။ဒေါသမူစိတ် ၂-ပါးကား ဒေါမနဿဝေဒနာ, ဒေါသ, ပဋိဃတို့နှင့် အမြဲယှဉ်၍ သင်္ခါရရှိသည်တပါး၊ သင်္ခါရမရှိသည်တပါး။ ။မောဟမူစိတ် ၂-ပါးကား ဥပေက္ခာဝေဒနာ အမြဲရှိ၍ ဝိစိကိစ္ဆာနှင့်ယှဉ်သည်တပါး၊ ဥဒ္ဓစ္စနှင့် ယှဉ်သည်တပါး၊ ပေါင်း အကုသိုလ်စိတ် ၁၂-ပါး ဖြစ်၏။

အဟိတ်စိတ် ၁၈-ပါး၌ စက္ခု သောတ ဃာန ဇိဝှာ ကာယ ဝိညာဏ် ဆိုသည်ကား စက္ခုဝိညာဏ်တပါး၊ သောတဝိညာဏ်တပါး၊ ဃာနဝိညာဏ်တပါး၊ ဇိဝှာဝိညာဏ်တပါး၊ ကာယဝိညာဏ်တပါး။ ။သမ္ပဋိစ္ဆိုကား သမ္ပဋိစ္ဆိုင်းကိုဆိုသည်။ ။နှစ်ခုစီဆိုသည်ကား အကုသလဝိပါက် စက္ခုဝိညာဏ်တပါး၊ကုသလဝိပါက်စက္ခုဝိညာဏ်တပါးစသည်ဖြင့် ၂ခုစီယူလေ။ ။သန္တီရဏသုံးခုဆိုသည်ကား အကုသလဝိပါက် ဥပေက္ခာသန္တီရဏစိတ်တပါး၊ ကုသလဝိပါက် ဥပေက္ခာသန္တီရဏစိတ်တပါး၊ ကုသလဝိပါက် သောမနဿ သန္တီရဏစိတ်တပါး = အဟိက်ဝိပါက်စိတ် ၁၅ ပါး။ ။၅-ပါးဒွာရ၊ မနောဒွာဟု၊ အာဝဇ္ဇန်းဒွိဆိုသည်ကား ပဉ္စဒွာရာဝဇ္ဇန်းစိတ်တပါး၊ မနောဒွာရာဝဇ္ဇန်းစိတ် တပါး ဆိုလိုသည်။ ဟသိတုပ္ပာဒ်စိတ်သည် ဘုရားရဟန္တာများပြုံးစိတ်တည်း။ ။ကာမာဝစရ ကုသိုလ်စိတ် ရှစ်ပါးကား သောမနဿနှင့်ယှဉ်သော ကုသိုလ်စိတ် တပါး၊ ဥပေက္ခာနှင့်ယှဉ်သော ကုသိုလ်စိတ်တပါး၊ ထို ၂ပါးသည် ဉာဏ်နှင့်ယှဉ်မယှဉ်အားဖြင့် ၂-ပါး ၂-ပါးစီ ပြားပြန်၏။ထို ၄-ပါးသည် သင်္ခါရရှိမရှိအားဖြင့် ၂-ပါး ၂-ပါးစီပြားပြန်၏၊ကာမကုသိုလ်စိတ်ရှစ်ပါးဖြစ်

၏။ မဟာကုသိုလ်စိတ် ရှစ်ပါးလည်း ခေါ်၏။ (မဟာဝိပါက်စိတ်ရှစ်ပါး မဟာကြိယာစိတ်ရှစ်ပါး ထိုနည်းတူ)။ ကာမသောဘဏစိတ် ၂၄-ပါး ဖြစ်၏။ ။အကုသိုလ်စိတ် ၁၂-ပါး၊ အဟိတ်စိတ် ၁၈-ပါး၊ ကာမ သောဘဏစိတ် ၂၄-ပါး၊ ပေါင်း ကာမစိတ် ၅၄-ပါးဖြစ်၏။ ။ ရူပါဝစရဈာန်စိတ် ၁၅-ပါး၊ အရူပါဝစရဈာန်စိတ် ၁၂-ပါး၊ လော ကုတ္တရာအကျဉ်းမဂ်စိတ် ၄-ပါး၊ ဖိုလ်စိတ် ၄-ပါး၊ လောကုတ္တရာ အကျယ်မဂ်စိတ် ၂၀၊ ဖိုလ်စိတ် ၂၀။ စိတ်ဝိညာဏ်အပြား ၁၂၁ ပါး။

## ခန္ဓာငါးပါး

### လင်္ကာ ၇

သဗ္ဗစိတ္တသာဓာရဏ၊ သဗ္ဗာကုသလ၊ စိတ္တသာဓာရဏ၊ သဗ္ဗ သော ဘဏ စိတ္တသာဓာရဏ၊ ဆက်ဆံယှဉ်ဘက်၊ အနက်သာဓာရဏ၊ ထိုသုံးပ တွင်၊ မောဟစသည်၊ စေလေးမည်မှာ၊ သဗ္ဗာကုသလ၊ အမည်ရ၏။ အမောဟကြဉ်၊ ဆယ့်ကိုးလျှင်မူ၊ မှတ်ယူသဗ္ဗ၊ သောဘဏတည်း၊ သဗ္ဗ စိတ္တ၊ ပကိဏ်းဆကို၊ အညသမာန်း၊ ခေါ်ရိုးဟမ်းတည်း။ ။သမာန်း အည၊ တေရသနှင့်၊ အကုသလ၊ ဓမ္မဆယ့်လေး၊ ပေါင်းထွေး တုံပြန်၊ နှစ်ဆယ့်ခွန်ကား၊ ဝိညာဏ် ဆယ့်နှစ်၊ အကုညစ်၌၊ ဖြစ်ပျက် တူကွ၊ ယှဉ်ကုန်ကြ၏။ ။ဆန္ဒကြဉ်လစ်၊ အဉ်ဆယ့်နှစ်မူ၊ ဆယ့်ရှစ်အဟိတ်၊ ဝိညာဏ်စိတ်မှာ၊ ဖြစ်သည်သာတည်း။ ။ဟာဖြာအခွာ၊ ဝေဟာရနှင့်၊ သောဘဏအပြား၊ နှစ်ဆယ့်ငါးလား၊ ကြွင်းကြွင်းကာမ၊ သောဘဏနှင့်၊ ရူပရူပ၊ လောကုတ်မှာလျှင်၊ အကုန်ယှဉ်၏။ ။ထိုတွင်ထွေလာ၊ ယယာ ရဟ၊ သင်္ဂဟမှာ၊ ကျမ်း၌လာပြီး၊ ပါယ်ရွာလေးရပ်၊ လူနတ်ခုနစ်၊ ဆယ့် တစ်ဌာန၊ ဘုံကာမနှင့်၊ ရူပဗြဟ္မာ၊ ဆယ့်ငါးရွာ၌၊ ခန္ဓာငါး၊ အစုံရ၏၊ အရူပဗြဟ္မာ၊ လေးဘုံမှာမူ၊ ခန္ဓာလေးအင်၊ အသညသတ်၊ ဘုံတရပ်မှာ၊ ရုပ်ခန္ဓာပေ။ ။မြေ၊ ရေ၊ တော၊ တောင်၊ ဘုံဆောင်ပြာသာဒ်၊ ကျောင်း ကျောင်းအိမ်၊ ကြိုး ကြိမ် သစ်ဝါး၊ ဝတ်စား တန်ဆာ၊ ရတနာ ရွှေငွေ၊

သေပြီးအလောင်း၊ သက်မဲ့ပေါင်းမှာ၊ ရုပ်ခန္ဓာတည်း။ ။ပမာရေမြုပ်၊ ရုပ်နှင့်ယှဉ်ဘက်၊ ရေပွက်ဝေဒနာ၊ သညာတံလှပ်၊ တရုပ်သင်္ခါရ၊ ငှက်ပျောကျ၏၊ မေ့ဝိညာဉ်၊ မျက်လှည့်ယှဉ်သည် ငါးအင်နှစ်မဲ့ ခန္ဓာတည်း။

## အဓိပ္ပာယ် သရုပ်

သာဓာရဏသဒ္ဒါသည် အတူတကွ ဖြစ်ဘက် ပျက်ဘက် ယှဉ်ဘက် တွဲဘက် ဆက်ဆံကြခြင်းအနက်ကို ဟောသည်။ ။သဗ္ဗစိတ္တ သာဓာရဏ တပါး၊ သဗ္ဗာကုသလ စိတ္တသာဓာရဏ တပါး၊ သဗ္ဗသောဘဏ စိတ္တ သာဓာရဏတပါး ဟူ၍ သာဓာရဏအပြား သုံးပါးရှိ၏။ ။ဖဿ, စေတနာ, ဧကဂ္ဂတာ, ဇီဝိတ, မနသိကာရဟူသော သင်္ခါရက္ခန္ဓာ တရားငါးပါး။ ဝေဒနာတပါး, သညာတပါး, ဤစေတသိက် တရား ၇ ပါးသည် စိတ်အလုံးစုံတို့နှင့် ဆက်ဆံ သောကြောင့် သဗ္ဗစိတ္တ သာဓာရဏမည်၏။ စိတ်အကျဉ်း ၈၉ ခု၊ အကျယ် ၁၂၁ ခုတို့တွင် ဘယ် စိတ်မှာမဆို ထို ၇ ပါး အမြဲပါရှိ၏။ ။ထိခိုက်ရှနာ၍ ခြေဖဝါးအပြင်၌ ကျင်နာခြင်းဖြစ်ရှေ့ဌာနမှာ ကာယဝိညာဏ်စိတ် ဖြစ်ပေါ်သောအခါ ထို စေတသိက် ၇ ပါးပါရှိ၏။ ခန္ဓာ လေးပါးရှိ၏။ကျင်နာရာဌာနရှိ ရူပက္ခန္ဓာ နှင့် ပေါင်းသည်ရှိသော် ကျင်နာဆဲအခါ၌ ခြေဖဝါးအပြင်မှာ ခန္ဓာ ငါးပါး ရှိနေ၏။ ကျင်နာခြင်း ပျောက်ကင်းသော အခါ၌ နာမ်ခန္ဓာ ၄-ပါး ချုပ်ဆုံး၏။ ရူပက္ခန္ဓာသာ ကျန်၏။ ။မျက်လုံးအိမ်ကွင်းမှာ မြင်မှု ဖြစ်ပေါ်ဆဲအခါ၌လည်း မျက်လုံးမှာ ခန္ဓာငါးပါးရှိနေ၏။ နှာခေါင်း တွင်း လျှာအပြင်တို့၌လည်း ထို့အတူတည်း။ ။မောဟ, အဟိရိက, အနောတ္တပ္ပ, ဥဒ္ဓစ္စ=ဤလေးပါးသည် အကုသိုလ်စိတ် ၁၂ လုံးမှာ အမြဲ ပါသောကြောင့် သဗ္ဗာကုသလစိတ္တသာဓာရဏ မည်၏။ ။အမောဟ ကိုကြဉ်၍ သဒ္ဓါအစ စိတ္တုဇုကတာ အဆုံးရှိသော စေတသိက် ၁၉ ပါး တို့သည် ကာမသောဘဏစိတ် ၂၄ ပါး၊ ရူပစိတ် ၁၅ ပါး၊ အရူပ စိတ် ၁၂ ပါး၊လောကုတ္တရာစိတ် အကျဉ်း ရှစ်ပါး၊ အကျယ်လေးဆယ် တို့နှင့် အကုန် ယှဉ်သောကြောင့် သဗ္ဗသောဘဏ စိတ္တသာဓာရဏ

မည်ကုန်၏။ ။သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇ ပါးနှင့် ပကိဏ်း
စေတသိက် ၆ ပါး=ဤ ၁၃ ပါးကို အညသမာန်း စေတသိက်ခေါ်၏။
ထိုအညသမာန်း စေတသိက် ၁၃ ပါး, အကုသိုလ်စေတသိက် ၁၄ ပါး၊
ဤ ၂၇ ပါးတို့သည် အကုသိုလ်စိတ် ၁၂ ပါး၌ ထိုက်သည်အားလျော်
စွာ ယှဉ်ကြကုန်၏။ ဆန္ဒကြဉ်သော အညသမာန်း ၁၂ ပါး တို့သည်
အဟိတ်စိတ် ၁၈ ပါးတို့၌ ထိုက်သည်အားလျော်စွာ ယှဉ်ကြကုန်၏။
အညသမာန်း ၁၃ ပါး, သောဘဏစေတသိက် ၂၅ ပါး၊ ဤ ၃၈ ပါး
တို့သည် အလုံးစုံသော သောဘဏစိတ် အကျဉ်း ၅၉ ပါး, အကျယ် ၉၁
ပါးတို့၌ ထိုက်သည်အားလျော်စွာ ယှဉ်ကြကုန်၏။ ။ထိုတွင်ထွေလာ၊
ယထာရဟ၊ သင်္ဂဟဆိုသည်ကား အကုသိုလ်စိတ် ၁၂ ပါးတို့၌ စေ
တသိက် ၂၇ ပါး ရသည်ဆိုသော်လည်း ထို ၂၇ ပါးတို့တွင် အချို့
သော စေတသိက် တို့သည် အချို့သော အကုသိုလ် စိတ်၌ ယှဉ်ကြ
ကုန်၏။ ဝိစိကိစ္ဆာ စေတသိက်သည် ဝိစိကိစ္ဆာ သမ္ပယုတ် စိတ်တခု၌
သာ ယှဉ်၏။ ဒေါသ, ဣဿာ, မစ္ဆရိယ, ကုက္ကုစ္စ၊ ဤလေးခုတို့သည်
ဒေါသမူစိတ် ၂ ခုတို့၌သာ ယှဉ်ကုန်၏။ ဒိဋ္ဌိစေတသိက်သည် လောဘမူ
ဒိဋ္ဌိသမ္ပယုတ်စိတ် ၄ ခု၌သာ ယှဉ်၏။ မာနစေတသိက်သည် လောဘမူ
ဒိဋ္ဌိ ဝိပ္ပယုတ်စိတ် ၄ ခု၌သာ ယှဉ်၏။ ထိနမိဒ္ဓစေတသိက် ၂ ပါးသည်
သသင်္ခါရိက စိတ် ငါးခု၌သာ ယှဉ်၏။ လောဘ စေတသိက်သည်
လောဘမူစိတ် ၈ ခု၌သာ ယှဉ်၏။ ဆန္ဒကြဉ်သော အညသမာန်း
၁၂-ခုသည် အဟိတ်စိတ် ၁၈ ခုတို့၌ ယှဉ်သည် ဆိုသော်လည်း ထို
၁၂ ခုတို့တွင် ပီတိ စေတသိက်သည် သောမနဿ သန္တီရဏစိတ်,
ဟသိတုပ္ပါဒ် စိတ်တို့၌သာ ယှဉ်၏။ ။ဝီရိယစေတသိက်သည် မနောဒွါ
ရာဝဇ္ဇန်းစိတ်, ဟသိတုပ္ပါဒ် စိတ်တို့၌သာ ယှဉ်၏။ ဝိတက်၊ ဝိစာရ၊ အဓိ
မောက္ခတို့သည် ဒွေပဉ္စဝိညာဏ် ၁၀ တို့၌ မယှဉ်ကုန်။ ကြွင်းသော
အဟိတ်စိတ် ၈ ခုတို့၌သာ ယှဉ်ကုန်၏။ ။အညသမာန်း ၁၃ ခု, သော
ဘဏစေတသိက် ၂၅ ခု၊ ဤ ၃၈ ခုတို့သည် သောဘဏစိတ် အကျဉ်း
၅၉ ခု၊ အကျယ် ၉၁ ခုတို့၌ ယှဉ်သည်ဆိုငြားသော်လည်း ထို ၃၈ တို့
တွင် ဝိတက်သည် ကာမသောဘဏစိတ်နှင့် ပထမဈာန်စိတ်တို့၌သာ ရ၏။

ဝိစာရသည် ကာမသောဘဏစိတ်နှင့် ပထမဈာန်စိတ် ဒုတိယဈာန်စိတ်
တို့၌သာ ရ၏။ ပီတိသည် ကာမသောမနဿစိတ်နှင့် ပထမဈာန်စိတ်
ဒုတိယဈာန်စိတ် တတိယဈာန်စိတ်တို့၌သာ ရ၏။ ။အဓိမောက္ခ စေတ
သိက်သည် ကာမသောဘဏ ဉာဏသမ္ပယုတ်စိတ် ၁၂ ခုနှင့် ရူပ အရူပ
လောကုတ္တရာစိတ်တို့၌သာရ၏။ ဝိရတီသုံးခုသည် မဟာကုသိုလ်စိတ် ၈ ခု
နှင့် လောကုတ္တရာစိတ်တို့၌သာရ၏။ ။အပ္ပမညာ ၂ ခုသည်မဟာကုသိုလ်
မဟာကြိယာတို့နှင့် ရူပါဝစရ ပထမဈာန် ဒုတိယဈာန် တတိယဈာန်
စတုတ္ထဈာန်စိတ်တို့၌သာ ရ၏။ ။ဤသို့ အစရှိသည်ဖြင့် ထွေထွေလာ
လာ ယထာရဟ ခွဲဖန်ရန် သမ္ပယောဂနည်း သင်္ဂဟနည်း အများရှိ
သည်ကို အဘိဓမ္မာကျမ်းဂန်များမှာ လာရှိတိုင်း မှတ်ယူကြလေ ဆိုလို
သည်။ ၃၁ ဘုံတွင် အသညသတ်ဘုံမှာ ရူပက္ခန္ဓာတပါးသာရ၏။အရူပ
လေးဘုံတို့မှာ ရူပက္ခန္ဓာကို မရ၊နာမက္ခန္ဓာ ၄ ပါးကိုသာရ၏။ ။ကြွင်း
သော ၂၆-ဘုံတို့မှာ ခန္ဓာငါးပါးလုံးကိုရ၏။ သင်္ခါရ ဝဋ္ဋမျိုးတို့မှာ
ဥတုဇရုပ်ခန္ဓာတပါးသာရ၏။ ။ခန္ဓာငါးပါးတို့တွင် ရူပက္ခန္ဓာသည် ရေ
မြှုပ်နှင့် တူ၏။ ဝေဒနာက္ခန္ဓာသည် ရေပွက်နှင့်တူ၏။ သညာက္ခန္ဓာသည်
တံလျှပ်နှင့် တူ၏။ လင်းလျှပ်လည်း ခေါ်၏။ သင်္ခါရက္ခန္ဓာသည် ငှက်
ပျောတုံးနှင့် တူ၏။ ဝိညာဏက္ခန္ဓာသည် မျက်လှည့်နှင့်တူ၏။

## အာ ယ တ န

### လင်္ကာ ၈

ထွေထွေလာလာ၊ များတကာတို့၊ တည်ရာဖုရာ၊ သက်ရောက်ရာကို၊
အာယတန၊ ခေါ်ဆိုကြ၏၊ ဌာနကာရဏ၊ စသည်အနက်၊ အများ
ထွက်၏၊ စက္ခု သောတ၊ ဃာန ဇိဝှာ၊ ကာယာ မနော၊ သဘောတရား၊
ဤ ခြောက်ပါးမှု၊ ကိုယ်တွင်းဟူဘိ၊ အဇ္ဈတ္တိက၊ အမည်ရ၏၊ ရူပ်သဒ္ဒါ၊
ဂန္ဓာ ရသ၊ ဖောဋ္ဌဗ္ဗနှင့်၊ ဓမ္မဟူသည်၊ ဤ ၆-မည်ကား၊ ဗာဟိရာယတန၊
အမည်ရ၏မနမှာမူ၊ ၆ ဖြာဝိညာဉ်၊ဓမ္မတွင်မူ၊ အာဉ်ပါလစ်၊ ရှေ့ဆယ်

တစ်မှ၊ ကျန်သမျှတည်း။ ။အာဒိတ္တသုတ်၊ ဖော်ပြထုတ်မူ။ ။စက္ခု ဘိက္ခဝေ အာဒိတ္တံ၊ ကေန အာဒိတ္တံ၊ ရာဂဂ္ဂိနာ အာဒိတ္တံ၊ ဒေါသဂ္ဂိနာ အာဒိတ္တံ၊ မောဟဂ္ဂိနာ အာဒိတ္တံ၊ ဇာတိယာ ဇရာယ မရဏေန သောက ပရိဒေဝ ဒုက္ခ ဒေါမနဿုပါယာသေဟိ အာဒိတ္တန္တိ ဝဒါမိ။ သောတံ အာဒိတ္တံ၊ ဃာနံ အာဒိတ္တံ၊ ဇိဝှာ အာဒိတ္တာ၊ ကာယော အာဒိတ္တော၊ မနော အာဒိတ္တော။ ရူပါ အာဒိတ္တာ၊ သဒ္ဒာ အာဒိတ္တာ၊ ဂန္ဓာ အာဒိတ္တာ၊ ရသာ အာဒိတ္တာ၊ ဖောဋ္ဌဗ္ဗာ အာဒိတ္တာ၊ ဓမ္မာ အာဒိတ္တာ၊ ကေန အာဒိတ္တာ၊ ရာဂဂ္ဂိနာ အာဒိတ္တာ၊ ဒေါသဂ္ဂိနာ အာဒိတ္တာ၊ မောဟဂ္ဂိနာ အာဒိတ္တာ၊ ဇာတိယာ ဇရာယ မရဏေန သောက ပရိဒေဝ ဒုက္ခ ဒေါမနဿုပါယာသေဟိ အာဒိတ္တန္တိ ဝဒါမိ၊ ပါဠိတော်လုစ်၊ မီး ဆယ့်တစ်ကို၊ ဆယ့်နှစ်အာယတန၊ မြောက်ပွားကမူ၊ တရာ့သုံးဆယ်၊ နှစ်ပါးကယ်သား၊ အကျယ် မီးပေါင်း၊ ပေါင်းတုံ ရှောင်းသည်။ ။ထောင်းထောင်း တောက်လောင်မစဲတည်း။

## အစိပ္ပာယ် သရုပ်

အာယတနဆိုသည်ကား လူအများတို့ သက်ရောက်ရာ လှေဆိပ်ကြီး သင်္ဘောဆိပ်ကြီး ဈေးရုံကြီး ဇာတ်ရုံကြီးများကဲ့သို့ တယောက်သောသူ၏ ကိုယ်ခန္ဓာမှာ ဆိုင်ရာ ဆိုင်ရာ အာရုံတရား အာရုံယူသောတရားတို့၏ တည်ရာ စုဝေးရာ သက်ရောက်ရာဖြစ်သော အနက်ကို ဆိုသည်။ ။ထို အာယတန သဒ္ဒာသည် တည်ရာဌာန အနက်, အကြောင်းကာရဏအနက် စသည်ဖြင့် များသောအနက်ရှိ၏။ ။စက္ခာယတန,သောတာယတန,ဃာနာယတန,ဇိဝှာယတန,ကာယာယတန,မနာယတန ဟူ၍ အဇ္ဈတ္တိက အာယတန ၆-ပါး။ သတ္တဝါတို့၏ သန္တာန်၌သာ ရကောင်းသောကြောင့် အဇ္ဈတ္တိကခေါ်သည်။ ။ရူပါယတန, သဒ္ဒါယတန, ဂန္ဓာယတန,ရသာယတန, ဖောဋ္ဌဗ္ဗာယတန, ဓမ္မာယတန ဟူ၍ ဗာဟိရာယတန ၆-ပါး။ ။အဇ္ဈတ္တိကာယတနတို့မှ အပ ဖြစ်သောကြောင့် ဗာဟိရ ခေါ်သည်။ ။စက္ခုပသာဒရုပ် စသည်သည် စက္ခာယတန စသည် မည်၏။

ရူပက္ခန္ဓာအကျယ်မှာ လာရှိခဲ့ပြီ။ ။ဝိညာဏက္ခန္ဓာကြီးကို မနာယတန ဆိုသည်။ ။ဝေဒနာက္ခန္ဓာ၊ သညာက္ခန္ဓာ၊ သင်္ခါရက္ခန္ဓာ၊စုနှင့် အာပေါ ဓာတ်တခု၊ ဘာဝရုပ် ၂-ခု၊ ဟဒယဝတ္ထုရုပ်တခု၊ ဇီဝိတရုပ်တခု၊ အာ ဟာရရုပ်တခု၊ အာကာသဓာတ်တခု၊ ဝိညတ်ရုပ် ၂-ခု၊ ဝိကာရရုပ် ၃-ခု၊ လက္ခဏာရုပ် ၄-ခု ဟူသော သုခုမရုပ် ၁၆-ခု၊ အသင်္ခတ မဟာနိဗ္ဗာန် ကြီး၊ ဤတရားစုကို ဓမ္မာယတနဆိုသည်။ ။ရာဂမီး၊ ဒေါသမီး၊ မောဟမီး၊ ဇာတိမီး၊ ဇရာမီး၊ မရဏမီး၊ သောကမီး၊ ပရိဒေဝမီး၊ ဒုက္ခမီး၊ ဒေါမနဿမီး၊ ဥပါယာသမီး၊ ဤကား မီး ၁၁-ပါးတည်း။ ။လောကီအာယတန ၁၂- ပါးတို့တွင်တပါးတပါးမှာ မီး ၁၁-ပါး ၁၁ ပါးစီ တောက်လောင်လျက် ရှိ၏။ ။တပါး တပါးမှ မီး ၁၁-ပါးစီ ထွက်နိုင်၏။ ။အာဒိတ္တသုတ် ပါဠိ တော်ကြီးအတိုင်း မှတ်လေ။

## ဓာတ်

## လင်္ကာ ၉

သတ္တဝါအလို၊ပုဂ္ဂိုလ်အကြိုက်၊မလိုက်မစား၊မငဲ့ငြားပဲ၊ ကြောင်းအား လျော်စွာ၊ သူ့ခြင်းရာနှင့်၊ သူ့သဘာဝ၊ သူ့ကိစ္စကို၊ ဆောင်ကြသမှု၊ အကြောင်းပြု၍၊ ဓာတ်ဟုသညာ၊အစဉ်လာ၏။ ။မနာယတန၊ တခုမျှကို၊ သတ္တဝိညာဏဓာတ်၊ ဝေဖန်လတ်က၊ ဓာတ်၏ အချက်၊ဆယ့်ရှစ်ထွက်၏။ စက္ခုဝိညာဏ်ဓာတ်၊ သောတဝိညာဏ်ဓာတ်၊ ဃာနဝိညာဏ်ဓာတ်၊ ဇိဝှာ ဝိညာဏ်ဓာတ်၊ ကာယဝိညာဏ်ဓာတ်၊ မနောဓာတ်၊ မနောဝိညာဏ် ဓာတ်၊ ခုနစ်ရပ်တွင်၊ ပဉ္စဝဇ္ဇန်း၊ သမ္ပဋိစ္ဆိုင်း၊ ပေါင်းရေး သုံးရုပ်၊ မနော ဓာတ်တည့်၊ ကြွင်းလတ်သဘော၊ မနောဝိညာဏ်၊ခုနစ်ဆယ်ခြောက်၊ရတုံ မြောက်၏။ ။အလျောက်ဘာဝ၊ ပြင်ဓာတ်ကျ၍၊ သတ္တဇီဝ၊ အတ္တမဟုတ်၊ ရုပ်ဓာတ်နာမ်ဓာတ်၊ ပေါင်းစပ်ပူးတွဲ၊ အခဲအစု၊ ဝတ္ထုကြီးငယ်၊ အထယ် အသိပ်၊နိမိတ်သဏ္ဌာန်၊ဟန်ပန်လုံးစုံ။ ကင်းဆိတ်တုံ၍၊ "စက္ခုဉ္စ ပဋိစ္စ ရူပေ စ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ၊ တိဏ္ဏံ သင်္ဂတိ ဖဿော၊ ဖဿပစ္စယာ ဝေဒနာ၊

ဝေဒနာပစ္စယာ တဏှာ၊ တဏှာပစ္စယာ ဥပါဒါနံ၊ ဥပါဒါနပစ္စယာ ဘဝေါ၊ ဘဝပစ္စယာ ဇာတိ၊ ဇာတိပစ္စယာ ဇရာ မရဏ သောက ပရိဒေဝဒုက္ခဒေါမနဿုပါယာသာ သမ္ဘဝန္တိ။ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ။ ။သောတဉ္စ ပဋိစ္စ သဒ္ဒေ စ ဥပ္ပဇ္ဇတိ သောတဝိညာဏံ။လ။ ဃာနဉ္စ ပဋိစ္စ ဂန္ဓေ စ ဥပ္ပဇ္ဇတိ ဃာနဝိညာဏံ။ လ။ ဇိဝှဉ္စ ပဋိစ္စ ရသေ စ ဥပ္ပဇ္ဇတိ ဇိဝှာဝိညာဏံ၊ ကာယဉ္စပဋိစ္စ ဖောဋ္ဌဗ္ဗေ စ ဥပ္ပဇ္ဇတိ ကာယဝိညာဏံ။လ။ မနဉ္စ ပဋိစ္စ ဓမ္မေ စ ဥပ္ပဇ္ဇတိ မနောဝိညာဏံ တိဏ္ဏံ သင်္ဂတိ ဖဿော။ လ။ ဧဝမေတဿ ကေဝလဿ ဒုက္ခက္ခန္ဓဿ သမုဒယော ဟောတိ''။ ။ပါဠိအထွက်၊ ဓာတ်ဆောင်ချက်ကို၊ နက်နက် နယ်နယ်၊သိရန်ချယ်သည်။ ။အကျယ်ဓာတုကထာတည်း။

## အဓိပ္ပာယ် သရုပ်

အာယတန ၁၂-ပါးတို့တွင် မနာယတန တပါးကို ဓာတ်အားဖြင့် ဝေဖန်သော် ဝိညာဏဓာတ် ၇-ပါး ပွားသည်ဖြစ်၍ ဓာတ် ၁၈-ပါး ဖြစ်၏။ စက္ခုဓာတ်,သောတဓာတ်,ဃာနဓာတ်, ဇိဝှာဓာတ်, ကာယဓာတ်, ရူပဓာတ်,သဒ္ဒဓာတ်, ဂန္ဓဓာတ်, ရသဓာတ်,ဖောဋ္ဌဗ္ဗဓာတ်, စက္ခုဝိညာဏ ဓာတ်,သောတဝိညာဏဓာတ်,ဃာနဝိညာဏဓာတ်,ဇိဝှာဝိညာဏဓာတ်, ကာယဝိညာဏဓာတ်, မနောဓာတ်, မနောဝိညာဏဓာတ်, ဓမ္မဓာတ် တည်း။ ။ထို ၁၈-ပါးတို့တွင် မနောဓာတ်ဆိုသည်ကား ပဉ္စဒွါရာဝဇ္ဇန်း စိတ်နှင့် သမ္ပဋိစ္ဆိုင်းနှစ်ခု-ဤ ၃-ပါးကို ခေါ်သတည်း။ ။ကြွင်းသော မနောဝိညာဏ်စိတ် ၇၆-ပါးကို မနောဝိညာဏဓာတ် ဆိုသည်။ ။ ပုဂ္ဂိုလ်မဟုတ် သတ္တဝါမဟုတ် အတ္တမဟုတ် ဇီဝမဟုတ်၊ ပုဂ္ဂိုလ်သတ္တဝါ ၏ အလိုသို့လည်း မလိုက်၊အသီးသီး သူ့အခြင်းအရာနှင့် သူ့သဘာဝ၊သူ့ ကိစ္စကိုသာ ဆောင်ရွက်ကြသောကြောင့် ဓာတ်မည်၏။ မြေဓာတ်သည် ခက်မာသော အခြင်းအရာနှင့် တပါးသောရုပ်ဓာတ်တို့၏ တည်ရာ မှီရာ ကိစ္စကိုသာ ရွက်ဆောင်သောကြောင် ဓာတ်မည်၏။ ရေဓာတ်သည်ဖွဲ့စည်း သောအခြင်းအရာနှင့် တပါးသော ရုပ်ဓာတ်တို့၏ ပေါင်းစုထွေးခဲခြင်း

ကိစ္စကိုသာ ရွက်ဆောင်သောကြောင့် ဓာတ်မည်၏။ ဤသို့ စသည်ဖြင့် ပြဆိုဖွယ်ကျယ်ဝန်း၏။ စက္ခုဒွ ပဋိစ္စ ရူပေ စ ဥပ္ပဇ္ဇတိ စက္ခုဝိညာဏံ အစရှိသည်ဖြင့် ဟောတော်မူသော ပါဠိတော်၏အထွက် အနက်သဘောသည်လည်း ဓာတ်တို့၏ဆောင်မှု ပင်တည်း။

## သစ္စာ

## လင်္ကာ ၁၀

အစွန့်ရှည်စွာ၊ ဘယ်မျှကြာလည်း၊ တခါတဖန်၊ မဖောက်ပြန်ပဲ၊ အစဉ်မြဲကို၊ သစ္စာဆို၏။ ထိုသစ္စာကား၊ လေးထွေပြား၏၊ လေးပါးသရုပ်၊ အမှန်ထုတ်သော်၊ ဒုက္ခသစ္စာ၊ သမုဒယသစ္စာ၊ နိရောဓသစ္စာ၊ မဂ္ဂသစ္စာ။ ။ ခန္ဓာငါးလီ၊ ဘုံလောကီကို၊ ဒုက္ခဆိုလေ့။ ။ထိုဒုက္ခပေါင်း၊ ပွားကြောင်းအမူ၊ လောဘစုမှာ၊ သမုဒယ၊ အမည်ရ၏၊ လောဘခပင်း၊ အကြွင်းမရှိ၊ ချုပ်ငြိမ်းဘိသည်၊ သန္တိသဘော၊ အစဉ်ချောကို၊ နိရောဓဟူ။ ။ရှစ်ဆူသီးသီး မဂ္ဂင်ကြီးကို၊ မဂ္ဂင်ဆို၏၊ ထိုမဂ္ဂင်မှာ။ ။သမ္မာဒိဋ္ဌိ = ကောင်းမြတ်သော အမြင်ကိုသာ မြင်ခြင်းတပါး။ သမ္မာသင်္ကပ္ပော = ကောင်းမြတ်သောအကြံကိုသာကြံခြင်းတပါး၊သမ္မာဝါစာ=ကောင်းမြတ်သောစကားကိုသာပြောဆိုခြင်း တပါး။ သမ္မာကမ္မန္တော=ကောင်းမြတ်သော အမှုကိုသာ ပြုလုပ်ခြင်း တပါး။ သမ္မာအာဇီဝေါ=ကောင်းမြတ်သော အသက်မွေးမှုဖြင့်သာ အသက်မွေးခြင်း တပါး။ သမ္မာဝါယာမော=ကောင်းမြတ်သော အလုပ်ကိုသာ အားထုတ်ခြင်း တပါး။ သမ္မာသတိ=ကောင်းမြတ်သောတရားတို့၌ မမေ့မလျော့ခြင်းတပါး။ သမ္မာသမာဓိ= ကောင်းမြတ်သော အာရုံတို့၌ စိတ်၏တည်ကြည်ခြင်းတပါး။ ။ဤရှစ်ပါးတွင်၊ ဖောက်ပြားမရှိ၊ ဖြောင့်မှန်ဘိမူ၊ အရိယသစ္စာ၊ ခေါ်ထိုက်စွာ၏။ ။သစ္စာအနက်၊ ၄-ချက်စီတည့်၊ ဆယ့်ခြောက်ရှိ၏။ ။ပီဠနဋ္ဌော = အကျဉ်းအကျပ် နှိပ်စက်တတ်သော ဒုက္ခသဘော။ သင်္ခတဋ္ဌော = အမြဲမပြတ် ပြုပြင်အပ်သော ဒုက္ခသဘော။ သန္တာပဋ္ဌော = ကြောင့်ကြ စိုက်ရေး၊ လွန်ရှုပ်ထွေး၍၊ အေးခွင် မရ၊

ပူပန်ရသော ဒုက္ခသဘော။ ဝိပရိဏာမဋ္ဌော=နိစ္စမြင့်ရှည်၊ အတည်မမြဲ၊ ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သော ဒုက္ခသဘော။ ။အာယူဟနဋ္ဌော= ဒုက္ခဝဋ္ဋ၊ ဒုက္ခမှုတို့ကိုသာ၊ အမြဲ စုဆောင်းထားတတ်သော သမုဒယ သဘော။ နိဒါနဋ္ဌော=ဒုက္ခလက်စ၊ မပြတ်ရအောင်၊ အမြဲဆောင်နှင်း တတ်သော သမုဒယသဘော။သံယောဂဋ္ဌော=ဒုက္ခစက်မှ မထွက်ရအောင် အမြဲဖွဲ့နှောင်တတ်သော သမုဒယသဘော။ ပလိဗောဓဋ္ဌော=ဒုက္ခစက်မှ မထွက်ရအောင်နှောင့်ယှက်တတ်သောသမုဒယသဘော။နိဿရဏဋ္ဌော= ဒုက္ခစက်မှ ထွက်မြောက် ကျွတ်လွတ်ခြင်းဟူသော နိရောဓ သဘော။ ဝိဝေကဋ္ဌော=တောဘုမ္ဗက၊ ဒုက္ခအယှဉ်း၊ နှောင့်ယှက်ခြင်းမှ၊ ဆိတ်ကင်း ခြင်းဟူသော နိရောဓသဘော။ အသင်္ခတဋ္ဌော=သင်္ခါရဒုက္ခခပင်းမှ ကင်း လွတ်ခြင်းဟူသော နိရောဓသဘော။ အမတဋ္ဌော= အဖန်ဖန် သေကြေ ပျက်ဆုံးခြင်းမှ ကင်းလွတ်ခြင်းဟူသော နိရောဓသဘော။ ။နိယျာနဋ္ဌော= ဒုက္ခဘက်မှ ဆန်တက် ထွက်မြောက်ကြောင်း ဟူသော မဂ္ဂသဘော။ ဟေတွဋ္ဌော=လောကုတ္တရာ ဂုဏ်ကျက်သရေ အပေါင်းတို့ ကောင်းစွာ တည်ရာ၏ အဖြစ်ဟူသော မဂ္ဂသဘော။ ဒဿနဋ္ဌော=သစ္စာလေးအင် နိဗ္ဗာန်လွင်ကို အမြင် ပေါက်ရောက်ခြင်းဟူသော မဂ္ဂသဘော။ အဓိ ပတေယျဋ္ဌော=တဏှာ၏ ကျွန်အဖြစ်မှ စင်စစ်လွတ်ပြီး ကြီးပြဟ်ခြင်း ဟူသော မဂ္ဂသဘော။ ။သစ္စာလေးချက်၊ အနက်သဘော၊ ဟောရန် သွယ်သွယ်၊ မဆုံးဖွယ်သည်။ ။အကျယ်သစ္စကထာတည်း။

## အစိပ္ပာယ် သရုပ်

သစ္စာဆိုသည်ကား ဘဝကမ္ဘာ အသင်္ချေ ကြာသော်လည်း တခါ တရံမျှ မဖောက်မပြန် မှန်ကန်သောသဘောကို ဆိုသည်။ ။ခန္ဓာငါးပါး သည် ပီဠနဋ္ဌ၊ သင်္ခတဋ္ဌ၊ သန္တာပဋ္ဌ၊ ဝိပရိဏာမဋ္ဌ ဟူသော မငြိမ်းချမ်းမှု အချက် အနက်လေးပါးတို့နှင့် အမြဲယှဉ်သည်ဖြစ်၍ အနမတဂ္ဂ သံသရာ တွင် ဘယ်အခါမှာမှ ဒုက္ခဟူသော ပညတ်အချက် ပျက်ကွယ်ခြင်းမရှိပဲ အစဉ်မြဲလေသောကြောင့် ဒုက္ခမည်၏။ ။တဏှာသည် အာယူဟနဋ္ဌ,

နိဒါနဒ္ဓ, သံယောဂဒ္ဓ, ပလိဗောဓဒ္ဓ ဟူသော ဒုက္ခပွားများကြောင်း အချက် အနက်လေးပါးတို့နှင့် အမြဲပြည့်စုံသည်ဖြစ်၍ အနမတဂ္ဂ သံသရာတွင် ဘယ်အခါမှာမှ ဒုက္ခသမုဒယဟူသော ပညတ်အချက် ပျက်ကွက်ခြင်း မရှိပဲ အစဉ်မြဲလေသောကြောင့် သမုဒယသစ္စာမည်၏။နိဗ္ဗာန်သည် နိဿရဏဋ္ဌ, ဝိဝေကဋ္ဌ, အသင်္ခတဋ္ဌ, အမတဋ္ဌ ဟူသော ဒုက္ခခပ်သိမ်း ငြိမ်းရန် အချက် အနက် ၄ ပါးတို့နှင့် အမြဲပြည့်စုံသည်ဖြစ်၍ အနမတဂ္ဂ သံသရာတွင် ဘယ်အခါမှာမှ ဒုက္ခနိရောဓ ဟူသော ပညတ်အချက် ပျက်ကွက်ခြင်း မရှိပဲ အစဉ် မြဲလေသောကြောင့် နိရောဓသစ္စာမည်၏။ ။မဂ္ဂင်ရှစ်ပါးသည် နိယျာနဋ္ဌ, ဟေတွဋ္ဌ, ဒဿနဋ္ဌ, အဓိပတေယျဋ္ဌ ဟူသော နိဗ္ဗာန် ရောက်ကြောင်း လမ်းကောင်း လမ်းမှန် အချက် အနက် ၄ ပါးတို့နှင့် ပြည့်စုံလေခြင်းကြောင့် အနမတဂ္ဂ သံသရာတွင် ဘယ်အခါမှာမှ မဂ္ဂ ဟူသော ပညတ်အချက် ပျက်ကွက်ခြင်းမရှိပဲ အစဉ် မြဲလေသောကြောင့် မဂ္ဂသစ္စာ မည်၏။ ။လူချမ်းသာ နတ်ချမ်းသာ ဗြဟ္မာ ချမ်းသာများသည် အစဉ် မြဲသည်မဟုတ်၊ ပျက်စီးခြင်း အဆုံးရှိနေသောကြောင့် ဖောက်လွဲ ဖောက်ပြန် ဖြစ်တတ်သော ချမ်းသာမျိုး ဖြစ်ချေ၍ သုခသစ္စာမဟုတ်၊ ဒုက္ခသစ္စာသာ ဖြစ်၏။ ထိုချမ်းသာများကို ပေးတတ်သော ကုသိုလ်ကံစုသည်လည်း ဒုက္ခသစ္စာကို ဖြစ်စေတတ်သော ကံမျိုးဖြစ်ချေ၍ ဒုက္ခသစ္စာမျိုး ဖြစ်၏။ ။ပိဋ္ဌနဋ္ဌ အစရှိသော သစ္စာအနက် ၁၆ ချက်တို့၏အကျယ်ကို သိလိုမူကား ငါတို့စီရင်သော သစ္စတ္ထဒီပနီမှာ ယူကြလေ။

**ခန္ဓာ, အာယတန, ဓာတ်, သစ္စာ, လင်္ကာကျမ်းပြီး၏။**



နမော တဿ ဘဂဝတော အရဟတော သမ္မာသမ္ဗုဒ္ဓဿ

ကျေးဇူးရှင် လယ်တီဆရာတော် ဘုရားကြီး

ရေးသားတော်မူအပ်သော

ခန္ဓာ, အာယတန, ဓာတ်,သစ္စာ,လင်္ကာကျမ်းကို
ရန်ကုန်မြို့ အဘိဓမ္မာပြန့်ပွားရေးအသင်း၏ ဩဝါဒါစရိယ
ဗုဒ္ဓသာသနဝိသိဋ္ဌ တိပိဋကဓရ မဟာတိပိဋကကောဝိဒ
တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက

အရှင်ဝိစိတ္တသာရာဘိဝံသ အရှင်သူမြတ်

ဖွင့်ဆိုဟောကြားတော်မူအပ်သော

# ဓမ္မဒေသနာ

"ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာ,သင်္ခါရ၊ ဝိညာဏဟု၊ အစငါးတန်၊ ငါးရပ်ခံတည်း"

ဒီကနေ့ တရားနာ ပရိသတ်တွေကို ပေးမဲ့ တရား လင်္ကာ ဓမ္မ လင်္ကာကတော့ အဲဒီ ခန္ဓာ အာယတန ဓာတ်သစ္စာပါပဲတဲ့။

ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာ, သင်္ခါရ၊ ဝိညာဏဟု၊ အစငါးတန်၊ ငါးရပ်ခံတည်း၊ ဖောက်ပြန်ထွေပြား၊ ဖြစ်တတ်ငြား၍၊ စကားပုံသော်၊ ရုပ်ခေါ်ပေ၏။

မြေဓာတ်, ရေဓာတ်၊ မီးလေဓာတ်ဟု၊ လေးရပ်ဘုတ်ကြီး၊ ပွားစီးအနက်၊ စက်, သော, ဃာ, ဇိ၊ ကာ,ငါးလီမူ၊ အကြည်ရုပ်၊ ပသာဒတည်း။

ရူပ,သဒ္ဒ၊ ဂန္ဓ,ရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ငါးဖြာအာရုံ၊ နှစ်စုံ
ဘာဝ၊ ဟဒယနှင့်၊ ဇီဝ,သြဇာ၊ ဆယ့်ရှစ်မှာမူ၊ လေးဖြာဟေတု၊
ကြောင်းစတုကြောင့်၊ ဖြစ်မှုပေါ်လော၊ သဘောသီးသီး၊ ကိုယ်စီ
ပြီး၍၊ ရုပ်ကြီးရူပ၊ နိပ္ဖန္နတည့်။

ထိုမှတပါး၊ ကလာပ်ခြားမျှ၊ အာကာသနှင့်၊ ကာယဝစီ၊
နှစ်လီကိုယ်,နှုတ်၊ လှုပ်မှုရှားမှု၊ နှစ်ခုဝိညတ်၊ ရူပဿလဟု၊ မုဒု,
ကမ္မည၊ ဝိကာရခေါ်၊ ရုပ်သုံးဖော်ကား၊ ပေါ့ပါးနူးညံ့၊ ကျမ်းခံ့
မူရာ၊ တဖြာထိုမှ၊ ဥပစယ၊အစပွားတိုး၊ အရိုးပြည့်မီ၊ တည်စဉ်
သန္တတိ၊ ရင့်ဘိဇရာ၊ ပျက်မှာအနိစ္စ၊ ဤလေးဝမူ၊ လက္ခဏရုပ်၊
ခေါ်သမုတ်၏။

ရုပ်ပေါင်းဆယ်တန်၊အနိပ္ဖန်တည့်၊ နိပ္ဖန်ဆယ့်ရှစ်၊ ပေါင်းတုံ
လစ်က၊ရှစ်ခုစွန်းကယ်၊ရုပ်နှစ်ဆယ်သည်၊အကျယ်ရူပက္ခန္ဓာတည်း။

**လယ်တီဆရာတော်ဘုရားကြီး ရေးသား စပ်ဆိုတော်မူထားတဲ့အတိုင်း ဘုန်းကြီးတို့ စာပေလောကအနေနဲ့ မျှော်ပြီးကြည့်လိုက်မယ်ဆိုလို့ရှိလျှင် သီဟိုဠ်ခေတ်တုန်းကပါဠိဘာသာကို များစွာ မကျွမ်းကျင်တဲ့ဒကာ ဒကာ မတွေအဖို့ အဘိဓမ္မာတည်းဟူသော သမုဒ္ဒရာကြီး ကူးနိုင်ဖို့ရန်၊အဘိဓမ္မာ ဉာဏ်ချက်စိရှိဖို့ရန် ကျဉ်းကျဉ်းနဲ့ လိုရင်း စိစိမိမိသိနိုင်ဖို့ရန် ဆိုပြီးတော့ ရှင်အနုရုဒ္ဓါမထေရ်သူမြတ်က အဘိဓမ္မတ္ထ သင်္ဂဟကျမ်းတဲ့ – လက်သန်း အဒ္ဓကထာ သင်္ဂြိုဟ်ကျမ်းကို ရေးသားထားခဲ့တယ်၊အဲဒီလို ရေးသားထားခဲ့ တဲ့ သင်္ဂြိုဟ်ကျမ်းဟာ မူလ ရည်သန်ချက်တုန်းကတော့ လူဝတ်ကြောင် ဒကာ ဒကာမတွေဖို့ပါပဲ။ ဒါပေမယ်လို့ ဘုန်းကြီးတို့ သာသနာဘက်က ကြည့်တဲ့အခါကျတော့ အခြေပြုစာသင်သားကလေးများအဖို့ အင်မတန် လိုက်လျောတယ်၊ အင်မတန်မှ သင့်တော်တယ်ဆိုပြီးတော့ ဆရာတော် အရှင်မြတ်များက အဲဒီသင်္ဂြိုဟ်ကျမ်းကို စာသင်သားတို့ရဲ့ သင်ရိုးသင်စဉ် အဖြစ်ဖြင့် အသိအမှတ်ပြုပြီး သင်ရိုးထဲ ထည့်ထားခဲ့တယ်၊ ဘုန်းကြီး သင်စဉ်ထဲမှာ ပါနေတော့ ဒကာ ဒကာမတွေအဖို့ ဒီစာပေသည် ငါတို့ ဖို့ ရေးသားထားခဲ့တာပဲလို့ စိတ်ထဲမှာ မယူဆနိုင်ကြတော့ဘူး၊ဘုန်းကြီး စာပေပဲလို့ အောက်မေ့တယ်။**

အဲဒီသိဟိုဠ်ကလာခဲ့တဲ့ သင်္ဂြိုဟ်အဘိဓမ္မတ္ထသင်္ဂဟကျမ်းဟာလဲ မြန်မာပြည်အနေနဲ့ကြည့်တဲ့အခါကျတော့ ဗုဒ္ဓဘာသာ မြန်မာလူမျိုး ဆိုတာ ဗုဒ္ဓရှင်တော်ဟောကြားတဲ့တရားကို မြန်မာဘာသာနဲ့သာလျှင် ကောင်းကောင်းနားလည်နိုင်တယ်။ အဲဒီလို နားလည်နိုင်တော့ ပါဠိဘာသာနဲ့ ဆိုလို့ရှိရင် ဗုဒ္ဓဘာသာမြန်မာလူမျိုးတွေ အသိခက်တယ်၊ နှုတ်ထဲမှာ အကျက်ရခက်တယ်။ ဒီတော့ ဗုဒ္ဓဘာသာ မြန်မာလူမျိုးတွေကျဉ်းကျဉ်းနဲ့ အဘိဓမ္မာမျက်စိ တပ်ပေးအုံးမှပဲလို့ ဒီအကြံဖြင့် လယ်တီဆရာတော်ဘုရားကြီးက ပရမတ္ထသံခိပ်ကျမ်းရယ်လို့ ရေးပေးတယ်၊ပရမတ္ထသံခိပ်က ပရမတ္ထသံခိပ်ချည်းပဲ ဆရာတော်ဘုရားကြီး ရေးသားတော်မူလို့ ရှိရင် ဒါလောက်ကြီး အန္တရာယ်မများပါဘူး။

ပရမတ္ထဒီပနီဆိုတဲ့ သင်္ဂြိုဟ်ကျမ်းကိုဖွင့်တဲ့ဋီကာ တစောင် ရေးတော်မူလိုက်တဲ့အတွက် ပရမတ္ထဒီပနီလို့ ဆရာတော်ကြီး ပေးတုန်းကတော့ နာမည်ပေးတာပါပဲ၊ ဒါပေတယ်လို့ အရပ်က ဝိုင်းမြှောက် ပြီးတော့ တဘက်နဲ့တဘက် အဆင် မပြေမှုရှိအောင် ဆန့်ကျင်ဘက် ဖြစ်အောင် ပြုလုပ်ပေးတတ်တာကတော့ ပုထုဇဉ်တို့၏ ဓမ္မတာအတိုင်း လယ်တီဆရာတော်ဘုရားကြီး ရေးသားတော်မူတဲ့ ပရမတ္ထဒီပနီ သင်္ဂြိုဟ်ဋီကာကျမ်းကို ပင်လျှင် မြှောက်ထိုးပင့်ကော် ရန်ဖြစ်အောင် တိုက်ပေးသည့်အလား နဂိုက ဋီကာကျော်လို့ရှိတဲ့အပေါ်မှာ ဋီကာမော်လို့ တခါနာမည်တပ်ပေးကြပြန်တယ်၊ ဒီတော့ ဋီကာကျော် ပရိသတ်က မခံနိုင်ဘူး၊ ဋီကာကျော်က ကျော်ရုံကျော်တာ၊ ဋီကာမော်က ဋီကာကျော်ထက် အထက်ကို မော်သွားတယ်ဆိုတဲ့ အဓိပ္ပာယ်ရောက်အောင် လှုံ့ဆော်ပေးတဲ့အတွက် ဋီကာကျော်ပရိသတ်က လယ်တီဆရာတော်ဘုရားကြီးရဲ့ပရမတ္ထဒီပနီကျမ်းပေါ်မှာ တော်တော်ပဲ မခံနိုင် မရပ်နိုင် ဖြစ်ကုန်တယ်။

အဲဒီလို မခံမရပ်နိုင်တဲ့အထဲမှာ ပရမတ္ထသံခိပ်ဆိုတာ ပေါ်လာရတာဖြစ်တော့ ပရမတ္ထသံခိပ်ကိုလဲပဲ မည်၍ မည်မျှကောင်းတယ်ဆိုတဲ့ စဉ်းစားချက် မရှိကြတော့ပဲ အများအားဖြင့် ဋီကာကျော် ပရိသတ်ကနေပြီး ပရမတ္ထသံခိပ်ကို အသုံးပဲ မဝင်တော့သယောင်ယောင် ပရမတ္ထသံခိပ်ကိုပင် ရွတ်ဆိုနေလို့ရှိရင် သီချင်းဂီတာကဗျာကို ရွတ်ဆိုနေရာ ကျသယောင်

ယောင်နဲ့ ခပ်လျောင်လျောင်ပြောကြတော့ ပရမတ္ထသံခိပ်ရဲ့ အင်မတန်ကောင်းတဲ့အနှစ်သာရရှိတဲ့အကြောင်းကို သိလို့လေ့လာကြတဲ့ ဘုန်းကြီးတို့ ဒီတောင်ရိုးက ပရိယတ်များတောင်မှ မြို့က ဆရာတော် သမားတော်တွေလာလို့ရှိရင် ပရမတ္ထသံခိပ်ကို မရွတ်ဝံ့ကြဘူး။ ရွတ်ဖို့ရန် ခပ်ကြန့်ကြန့် ရှိုးတိုးရှန့်တန့် ဖြစ်ကြတယ်၊ ဒါဘာဖြစ်လို့လဲ၊ အကြောင်းရင်း စစ်လို့ရှိရင်ဖြင့် ဋီကာကျော်ခေတ်နဲ့ ဋီကာမော်ခေတ် အပြိုင် ဖြစ်နေတဲ့ အချိန်မှာ ပရမတ္ထသံခိပ်က ပေါ်လာရတာဖြစ်တော့ ဒီအချိန်က ဋီကာကျော်ပရိယတ်က ဋီကာကျော်ရေအဟုန်က– ပုဂံခေတ်ကနေပြီး အစဉ်သဖြင့် အားကြီးအင်တိုက် စီးဆင်းလာတဲ့ ရေအဟုန် ပရိယတ်ကလဲပဲ ဋီကာကျော်ပရိယတ်များနေတဲ့ အချိန်မှာဖြစ်တော့ ပရမတ္ထဒီပနီဘက်က ပရိယတ်ဟာ ကြောက်ပဲ ကြောက်ရမလိုလို ရှိုးတိုးရှန့်တန့် ဖြစ်ရမလိုလို ဖြစ်ပြီးတော့ပရမတ္ထဒီပနီရဲ့ နောက်ပိုင်းက အင်မတန်ကောင်းတဲ့ စာပေပဲလို့ သိမြင်ကြတဲ့အတွက် လေ့လာသင်ကြားနေရင်းဖြစ်ကြသောတောင်ရိုးက သီလရှင်ပရိယတ် သူတော်ကောင်းများပေါ့လေ၊ အများအားဖြင့် အဲဒီပရိယတ် သူတော်စင်တွေဟာ ပရမတ္ထသံခိပ် လေ့လာနေတုန်း၊ ရွတ်ဖတ်နေတုန်း မြူးဆိုမြို့ကဆရာတော် သံဃာတော်၊သို့မဟုတ် မိမိတို့ ဥပစာလောက် ကြားလောက်တဲ့ ဥပစာနယ်အတွင်းမှာ ရဟန်းတော် ၂–ပါး ၃–ပါး ဖြတ်သန်းသွားတယ်ဆိုရင် ဒီက ပရမတ္ထသံခိပ်ရွတ်ရမှာ ကြောက်နေတယ်၊ တခါထဲ တိတ်ကုန်ကြတာပဲ၊ စင်စစ်ကတော့ ဘုရားတရားတော်ကိုသိအောင် ကြိုးစားကြတဲ့နေရာမှာ ဘယ်နည်းနဲ့ပဲ သိသိ သိတာသည် အရေးကြီးပါတယ်။

အဲဒီပရမတ္ထသံခိပ်ကလဲပဲ လက်ာပုဒ်ပေါင်း ၆၆ဝ–ရှိတော့ ပကတိလူ့စိတ်ကြောင် ဒါယကာ ဒါယိကာမတို့ အဖို့ ပရမတ္ထသံခိပ်ကို အရဆောင်ဖို့ရန် မလွယ်ကူပြန်ဘူး။ ဒီတော့ လယ်တီဆရာတော်ဘုရားကြီးက မရနိုင်တဲ့အဆုံးဖြင့် တို့ဒကာ ဒကာမတွေ အန္ဓပုထုဇဉ်အဖြစ်ကိုတော့ဖြင့် အဖြစ် မခံဘူး၊ အန္ဓပုထုဇဉ်အဖြစ်က လွတ်မြောက် ကလျာဏပုထုဇဉ်အဖြစ်သို့ရောက်အောင်ဖြင့် ငါကယ်တင်မှပဲ။ ဒီအကြံဖြင့်

ဒုဝေ ပုထုဇ္ဇနာ ဝုတ္တာ၊ ဗုဒ္ဓေနာဒိစ္စဗန္ဓုနာ။
အန္ဓောပုထုဇ္ဇနောဧကော၊ ကလျာဏေကော ပုထုဇ္ဇနော။

ဆိုတဲ့ဂါထာအဦး နိဒါန်းချီပြီးတော့ "**ခန္ဓာ အာယတနဓာတ် သစ္စာ လင်္ကာကျမ်း**"လို့ စာအုပ်ကလေးမှ ငယ်ငယ်ကလေး ဆရာတော်ဘုရားကြီး စီစဉ်ရေးသားတော် မူခဲ့တယ်။ အဲဒီ စီစဉ်ရေးသားတော်မူတဲ့ စာက ပုဒ်ပေါင်းဘယ်လောက်ရှိတုံး၊ ယခုတင်က ဘုန်းကြီးရွတ်ပြတဲ့ လင်္ကာမျိုး လင်္ကာပုဒ်ပေါင်း ၁၀-ပုဒ်ပဲရှိပါတယ်။ အင်မတန်လဲ ကောင်းပါတယ်။ အင်မတန်လဲကောင်းပါတယ်။ ခန္ဓာ ၅-ပါး, အာယတန ၁၂-ပါး, ဓာတ် ၁၈-ပါး, သစ္စာလေးပါးဆိုတဲ့ ဒီတရားတွေကို လင်္ကာ ၁၀-ပုဒ်ထဲနှင့် နားလည်သွားအောင် ရေးသားထားတော်မူခဲ့တဲ့ စာဖြစ်တယ်။ဒီလို ရေးသားပြန်ကော့ကော လူဒါယကာ ဒါယိကာမတို့အဖို့ ဒီစာအုပ် တွင်ကျယ်သလားလို့ဆိုတော့ စာအုပ်က ငယ်လွန်းပြန်တော့လဲပဲ ဆိုင်ထဲ အကြိုအကြား ခပ်ပျောက်ပျောက် ဖြစ်နေတယ်၊ ဒကာ ဒကာမတွေအဖို့ ရှိမှန်းတောင် တယ်ပြီးတော့ မသိကြဘူး။

ဘုန်းကြီးတို့ ဒီစာအုပ်ကလေးကို တွေ့တဲ့ အချိန်ကစပြီးတော့ ဒကာ ဒကာမတွေအဖို့ အင်မတန်တော်တဲ့စာပေပဲ။ပါဠိမကျက်နိုင် သံခိပ်မကျက်နိုင်တဲ့ ဒကာ ဒကာမတွေ ပုဒ်ပေါင်း ၆၆၀-ကျအောင် မဆောင်ရွက်နိုင်တဲ့သူတော်ကောင်းတွေထဲက အသက်အရွယ် ကြီးရင့်ကြတဲ့ သူတော်ကောင်းတွေသိလရှင်ပရိသတ်သူတော်ကောင်းတွေနဲ့ဖြင့်သိပ်တော်တာပဲလို့ စတွေ့ထဲကိုက စိတ်ထဲမှာ ယုံကြည်ခဲ့တယ်၊ အားထားခဲ့တယ်။ တော်တော်လဲပဲ ဒီစာအုပ်ကလေးက ခေတ်ထဲမှာမရောက်ချင်တဲ့ စာအုပ်နဲ့ တူပါတယ်၊ တချိန်က ဒီစာအုပ်ကလေး မိတ္တူမူ စာအုပ်ကလေးတခုအနေနဲ့ ကိုယ့်လက်ထဲရှိတာကို အဘိဓမ္မာ ပြန့်ပွားရေးအသင်းရဲ့ ဥက္ကဋ္ဌဒကာကျော်ကို အပ်ပြီးတော့ "ဒီဟာဖြင့် အဘိဓမ္မာပြန့်ပွားရေး အသင်းက စာအုပ်တခုအနေနဲ့ မမှုဒါန ပြုသင့်ပါတယ် ဦးကျော်ရယ်" ဆိုပြီးတော့ ဘုန်းကြီးအပ်ဘူးပါတယ်။သူလဲပဲ ဖတ်ရှုကြည့်ပြီးတော့အင်မတန်ပဲ နှစ်နှစ်သက်သက်နဲ့ရှိပြီးတော့"တပည့်တော်တို့ ရိုက်နှိပ်၍ ဓမ္မဒါနအဖြစ်ဝေငှ

လျှော့ပါမယ်”လို့ ဒီလို ဆိုသာ ဆိုလိုက်တယ်၊ ယနေ့ထက် ထိအောင် သူ့ခမျာများလဲ မလျှော့ပါဘူးဖြစ်သေးဘူး။ဒီတော့ဘုန်းကြီးအနေနဲ့ ပြန့်နိုင်သမျှ ခန္ဓာ အာယတန ဓာတ် သစ္စာဒီလင်္ကာကျမ်းကလေးဟာ ပြန့်ပါစေဆိုပြီးတော့လယ်တီဆရာတော်ဘုရားကြီးရဲ့ ခန္ဓာ အာယတန ဓာတ်သစ္စာ လင်္ကာတရားလက်ဆောင်ကို ယနေ့ သူတော်ကောင်းတွေကို ပေးရမယ်။

လင်္ကာအပိုဒ်က မများပါဘူး၊ရူပက္ခန္ဓာအတွက်ဆိုလို့ရှိရင် တပိုဒ်ထဲနဲ့ ရုပ် ၂၈-ပါး နားလည်သွားတယ်။ ပထမ စတည်လိုက်တာက

“ရူပက္ခန္ဓာ၊ ဝေဒနာနှင့်၊ သညာသင်္ခါရ၊ ဝိညာဏဟု၊ အစုငါးတန်၊ ငါးရပ်ခံတည်း”။ ရူပက္ခန္ဓာရယ် ဝေဒနာက္ခန္ဓာရယ် သညာက္ခန္ဓာရယ် သင်္ခါရက္ခန္ဓာရယ် ဝိညာဏက္ခန္ဓာရယ်လို့ ခန္ဓာငါးပါး ရှိတယ်လို့ ဆိုလိုတယ်နော်။

အစုဆိုတာ တခုထဲ ဘယ်တော့မှ မဖြစ်နိုင်ပါဘူး၊ ဒီတော့ ဘာတွေစုထားလို့ ရူပက္ခန္ဓာ ရုပ်အစု၊ ဝေဒနာက္ခန္ဓာ ဝေဒနာအစု၊ သညာက္ခန္ဓာ သညာအစု၊ သင်္ခါရက္ခန္ဓာ သင်္ခါရအစု၊ ဝိညာဏက္ခန္ဓာ ဝိညာဉ်အစု၊စိတ်အစုလို့ ဖြစ်နေရတာတုံးလို့ မေးစရာရှိတယ်၊ စုထားတာ ပေါင်းထားတာက ဘယ်လောက်များတာတွေ ပေါင်းထားတာတုံးဆိုတော့ ခန္ဓဝိဘင်း ပါဠိတော်များ၌

ယံ ကိဉ္စိ ရူပံ အတီတာနာဂတပစ္စုပ္ပန္နံ အဇ္ဈတ္တံ ဝါ ဗဟိဒ္ဓါ ဝါ ဩဠာရိကံ ဝါ သုခုမံ ဝါ ဟီနံ ဝါ ပဏီတံ ဝါ ယံ ဒူရေ သန္တိကေ ဝါ၊ တဒေကဇ္ဈံ အဘိသညူဟိတွာ အဘိသင်္ခိပိတွာ အယံ ဝုစ္စတိ ရူပက္ခန္ဓော။

အတီတာနာဂတပစ္စုပ္ပန္နံ၊ ကာလအားဖြင့် အတိတ်အနာဂတ် ပစ္စုပ္ပန်ဟူ၍ သုံးထွေပြားသော။ ယံကိဉ္စိ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော။ ရူပံ၊ ရုပ်သည်။ အတ္ထိ၊ ရှိ၏။

ကာလအနေနဲ့ ပြောလို့ရှိရင် လွန်ခဲ့သောကာလက ဖြစ်ခဲ့ပြီးသောရုပ်တွေ၊ ယခု ပစ္စုပ္ပန် မျက်မှောက်ဆဲဆဲ မျက်မှောက်မှာ ဖြစ်ဆဲရုပ်တွေ၊ နောက်အနာဂတ်မှာ ဖြစ်လတ္တံ့ ဖြစ်တဲ့ရုပ်တွေ၊ ကာလအနေနဲ့ သုံးထွေပြားလို ရုပ်တရားတွေရှိတယ်။ သန္တာန်အနေအားဖြင့်

အဇ္ဈတ္တံ၊ အဇ္ဈတ္တသန္တာန်၌ဖြစ်သော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ်တရားသည်လည်းကောင်း။ ဗဟိဒ္ဓါ၊ ဗဟိဒ္ဓ သန္တာန်၌ ဖြစ်သော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ်တရားသည် လည်းကောင်း။ အတ္ထိ၊ ရှိ၏။

သန္တာန်အနေနဲ့ ပြောမယ်ဆိုရင် ကိုယ့်ရုပ် သူ့ရုပ်လို့ ပြောနေကြတဲ့ နှစ်မျိုးရှိတယ်။

**ဩဠာရိကံ ဝါ သုခုမံ ဝါ။** ဩဠာရိကံ၊ ရုန့်ရင်းကြမ်းတမ်းသော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ်တရား အစုသည်လည်း ကောင်း။ သုခုမံ၊ သိမ်မွေ့နူးညံ့သော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ်တရားသည်လည်းကောင်း။

အကြမ်းအနုအားဖြင့် နှစ်ထွေနှစ်စား။

**ဟီနံ ဝါ ပဏီတံ ဝါ။** ဟီနံ၊ ယုတ်ညံ့သည်လည်းဖြစ်သော။ ယံကိဉ္စိ ရူပံ ဝါ။ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ်တရားသည် လည်းကောင်း။ ပဏီတံ။ မွန်မြတ်သော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ရုပ် တရားသည်လည်းကောင်း။

အညံ့စား အမြတ်စား၊ အကောင်းစား အညံ့စားအနေနဲ့ခွဲလို့ရှိရင် ဖြင့် ဟီန ပဏီတလို့ ၂-မျိုးပြားပြန်တယ်။

**ယံ ဒူရေ သန္တိကေ ဝါ။** ဒူရေ၊ ဝေးခြားသော ဒေသရပ်၌ဖြစ်သော ယံကိဉ္စိ ရူပံဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသောရုပ်တရားသည်လည်းကောင်း။ သန္တိကေ၊ မိမိ၏ အနီးကပ်ကပ်၌ဖြစ်သော။ ယံကိဉ္စိ ရူပံ ဝါ၊ ကြွင်းမဲ့ ဥဿုံ အလုံးစုံသောရုပ်တရားသည်လည်းကောင်း။ အတ္ထိ၊ ရှိ၏။ တံသဗ္ဗံ၊ ထိုဆိုအပ်ပြီးတဲ့ ပစ္စုပ္ပန်, အတိတ်, အနာဂတ်, အဇ္ဈတ္တ, ဗဟိဒ္ဓ, ဩဠာ ရိက, သုခုမ, ဟီန, ပဏီတ, ဒူရ, အာသန္န-အားဖြင့် ၁၁ ပါး အပြား ရှိသော ရုပ်တရားကို။ ဧကဇ္ဈံ၊ တပေါင်းတည်း။ အဘိသညူဟိတွာ၊ စု၍။ အဘိသံခိပိတွာ၊ ချုပ်၍" အယံ၊ ဤဆိုအပ်ပြီးသော ၁၁-ပါး ရုပ်တရား ကို။ ရူပက္ခန္ဓော၊ ရူပက္ခန္ဓာဟူ၍။ ဝုစ္စတိ၊ ဆိုအပ်ပါ၏။

ရုပ်အစုဆိုတာဟာ ပစ္စုပ္ပန် အတိတ် အနာဂတ် အဇ္ဈတ္တဗဟိဒ္ဓ ဩဠာ-ရိက သုခုမ ဟီန ပဏီတ ဒူရ အာသန္န-တဆယ့်တစ်မျိုးပြားတဲ့ရုပ်တရားအစုကို ရူပက္ခန္ဓာခေါ်တယ်။ အဲဒီလိုဝေဒနာက္ခန္ဓာ ဆိုတာလဲပဲ တဆယ့်တစ်မျိုးပြားတဲ့ ဝေဒနာအစု။သညာက္ခန္ဓာဆိုတာ တဆယ့်တစ်မျိုးပြားတဲ့ သညာတွေစုထားတာ၊ သင်္ခါရက္ခန္ဓာ တဆယ့်တစ်မျိုးပြားတဲ့ သင်္ခါရတရားတွေ စုထားတာ။ဝိညာဏက္ခန္ဓာ တဆယ့်တစ်မျိုး အပြားရှိတဲ့စိတ်ဝိညာဉ်တွေကို စုထားတာ။ ဒါကို ရုပ်အစု ဝေဒနာအစု သညာအစု သင်္ခါရအစု ဝိညာဉ်အစုလို့ **"အစုငါးတန်၊ ငါးရပ်ခံတည်း"** လယ်တီဆရာတော်ဘုရားကြီးက

"ရူပက္ခန္ဓာ၊ဝေဒနာနှင့်၊ သညာ, သင်္ခါရ၊ ဝိညာဏဟု၊ အစုငါးတန် ငါးရပ်ခံတည်း"။ နားလည်လောက်ပြီ။ ဘာ့ကြောင့် ရူပက္ခန္ဓာခေါ်သလဲ၊ တဆယ့်တစ်မျိုးပြားတဲ့ ရုပ်အစုဖြစ်လို့ ရူပက္ခန္ဓာ ခေါ်တယ်၊ဘာ့ကြောင့် ဝေဒနာက္ခန္ဓာခေါ်သလဲ။ တဆယ့်တစ်မျိုးပြားတဲ့ ဝေဒနာ အစုမို့လို့ ဝေဒနာက္ခန္ဓာ ခေါ်တယ်။ တဆယ့်တစ်မျိုးပြားတဲ့ သညာအစု မို့လို့ သညာက္ခန္ဓာခေါ်တယ်။ တဆယ့်တစ်မျိုးပြားတဲ့ သင်္ခါရတွေ စုထားတာမို့လို့ သင်္ခါရက္ခန္ဓာခေါ်တယ်။ တဆယ့်တစ်မျိုးပြားတဲ့ ဝိညာဉ်တွေ စိတ်တွေကို စုထားလို့ ဝိညာဏက္ခန္ဓာခေါ်တယ်။ နားလည်ပြီ။

သို့သော် အဲဒီ ခန္ဓာဆိုတဲ့ အဓိပ္ပာယ်တော့ နားလည်ပါပြီ။ အဲဒီ ခန္ဓာဆိုတဲ့ ရှေ့နားက ရူပတို့ ဝေဒနာတို့ သညာတို့ သင်္ခါရတို့ ဝိညာဉ်တို့ဆိုတဲ့ ရှေ့ပိုင်း စကားက နားမလည်သေးဘူး၊ ဒီတော့ ရူပဆိုတာ ဘာကိုခေါ်တာတုံး မေးစရာရှိလို့ ဆရာတော် ဘုရားကြီးက **"ဖောက်ပြန်ထွေပြား၊ ဖြစ်တတ်ငြား၍၊ ကောဇပုံသေ၊ ရုပ်ခေါ်ပေ၏"** ဖောက်ဖောက်ပြန်ပြန် ထွေထွေပြားပြား ဖြစ်ပွားတတ်သောကြောင့် ရုပ်ခေါ်တယ်။ ဘယ်လို ဖောက်ပြန်ထွေပြား ဖြစ်ပွားတတ်တုံး၊ အေးတဲ့အခါ ဖြစ်တဲ့ ရုပ်ကတမျိုး၊ ပူတဲ့အခါ ဖြစ်တဲ့ ရုပ်ကတမျိုး၊ မှက်ခြင်ယင်လေ နေပူမြွေတို့ အတွေ့အထိ မခံရတဲ့အခါဖြစ်တဲ့ ရုပ်ကတမျိုး၊ ယင်းတို့၏ အတွေ့အထိ အနှိပ်စက်ခံရတဲ့အခါ ဖြစ်တဲ့ရုပ်က တမျိုး၊ ဆာလောင်တဲ့အခါ ဖြစ်တဲ့ရုပ်က တမျိုး၊ ဝပြောက်တဲ့အခါ ဖြစ်တဲ့ရုပ်က

တမျိုး၊ တမျိုးစီ တမျိုးစီ ဖောက်ဖောက် ပြန်ပြန် ထွေထွေ ပြားပြား ဖြစ်ပွားတတ်တဲ့အတွက် ရုပ်လို့ခေါ်တယ်။ ဒါကို "ဖောက်ပြန်ထွေပြား၊ ဖြစ်တတ်ငြား၍၊ စကားပုံသေ၊ ရုပ်ခေါ်ပေ၏"

အဲဒီရုပ်ဟာ ဘယ်လောက်ရှိပါသတုံးဆိုတော့ ရုပ် ၂၈ ပါးရှိတယ်။ ဘာတွေ ဘာတွေလဲဆိုတော့ "**မြေဓာတ် ရေဓာတ်၊ မီး လေဓာတ်ဟု၊ လေးရုပ်ဘုတ်ကြီး၊ ပွားစီးအနက်**"။

မြေဓာတ်ကို စမ်းကြည့်လိုက်လို့ ရှိရင်ပေါ့လေ အကြမ်းအနူ၊ ခန္ဓာကိုယ်ထဲ စမ်းကြည့်ပေါ့၊ အကြမ်း အနူကို တွေ့ရတာဖြင့် ဒါ မြေဓာတ်ပဲ၊ မြေကြီးကို စမ်းကြည့်ရင် ကြမ်းတာနဲ့ နူတာ တခုခု တွေ့ရတယ်။ ရေဓာတ်။ သူ့ကို အသာထားအုံး။ မီးဓာတ်ဆိုတာ ပူမှု၊ အေးမှု ဒီ ၂ ခုကို မီးဓာတ် ခေါ်တယ်၊ ကိုင်ကြည့်လိုက်လို့ရှိရင် ခန္ဓာကိုယ် စမ်းကြည့်လိုက်လို့ရှိရင် ပူရင် ပူရမယ်၊ မပူလို့ ချွေးထွက်နေတဲ့အခါမှာဆိုရင်ဖြင့် အေးနေတာကို တွေ့ရမယ်၊ ဒီလို ပူမှု၊ အေးမှုဆိုတဲ့ ဒီသဘောဖြင့် မီးဓာတ်ပဲ၊ "**မြေဓာတ်။ ရေဓာတ်၊ မီးလေဓာတ်ဟု**" လေဓာတ် ဆိုကာ ဘာလဲ၊ မာတယ် ပျော့တယ်လို့ စိတ်ထဲ ထင်မှတ်ယူရအောင် ထောက်ခံပေးတဲ့ သဘော၊ များများထောက်ခံရင် မာတယ်၊ နဲနဲထောက်ခံရင် ပျော့တယ်။ ဒါပြောရမယ်၊ ဝါယောဓာတ် အားကြီးလို့ရှိရင် များများထောက်ခံ၊ များများ ထောက်ခံရင်ဖြင့် ကိုင်ကြည့်လိုက်တယ်ဆိုရင် ဒါက မာတယ်၊ ဝါယော ဓာတ် ထောက်ခံမှု နဲပါးတဲ့နေရာမှာ ကိုင်ကြည့်လိုက်ရင် ပျော့တယ်လို့ ပြောရမယ်၊ အဲဒီလို မာတယ် ပျော့တယ်လို့ ပြောဆိုယူရအောင် အတွင်း ကနေပြီးတော့ ထောက်ခံပေးတဲ့သဘောရှိတယ်။ အဲဒီ ထောက်ခံမှုသဘော ဖြင့် ဝါယောဓာတ်ပဲ၊ လေဓာတ်ပဲ၊ အဲဒီ သဘာဝတွေနဲ့ တကွ ရုပ် ကလာပ်တစည်း တစည်းမှာပါတဲ့ ရုပ်သဘောတွေဟာ တခုတခြားစီ ဖရိုဖရဲ ကျဲမသွားအောင် မြူမှုန်တွေလို ရုပ်မှုန်တွေဟာ လွင့်ပါးမသွားအောင် သဘောအနည်းဆုံး ခုနစ်ခုကနေပြီးတော့ အများဆုံး ၁၂ ခု မိမိပါဆိုလို့ ရှိရင်ပလေ ရှစ်ခု၊ ၁၃ ခု၊ အဲဒီလောက်ကျအောင်ရှိတဲ့ ရုပ်အစုစုတွေ ရုပ်ကလာပ်တွေ ရုပ်ကလာပ်ထဲကပါတဲ့ ရုပ်မှုန်ကလေးတွေ ဓာတ်သတ္တိ ကလေးတွေဟာ တခြားစီဖြစ်မသွားအောင် ဖွဲ့နှောင်ပေးတတ်တဲ့သဘော

ဖြင့် **ရေခေါတ်ပဲ။ ဥပမာ** မုန့်မှုန်ကလေးတွေ ဆိုပါစို့၊ ဒီအတိုင်းထား လို့ရှိရင် လေတိုက်ရင် လွင့်သွားပြီး အရှေ့တချို့ အနောက်တချို့ တောင်တချို့ မြောက်တချို့ရောက်၊ အဲဒီမုန့်မှုန်ကလေးတွေကို ဒီကနေပြီး တော့ ဖွဲ့စည်းပေးတတ်တဲ့ ရေကလေးနဲ့ လုံးထားရင် လွင့်ပါးမသွားဘူး။ တခုစီ တခြားစီမဖြစ်ပဲ အလုံးအခဲကလေး ဖြစ်နေတယ်။ အဲဒါလိုပဲ ဒီရုပ် သတ္တိတွေ တခုတခြားစီ မဖြစ်ပွားစေရပဲနဲ့ တစုထဲ တလုံးထဲ **သင်္ဂဟ-ရသ** ဆိုတဲ့အတိုင်း စုရုံးဖွဲ့တွဲပေးတတ်တဲ့ သဘောရှိတဲ့ ရေဓာတ်တမျိုး။ အဲဒီ လေးခုကို မဟာဘုတ်ကြီး လေးပါးခေါ်တယ်။ "**ရေဓာတ်၊ မြေဓာတ်၊ မီး လေဓာတ်ဟု၊ လေးရုပ်ဘုတ်ကြီး၊ ပွားစီးအနက်**" တဲ့။

ဘာ့ကြောင့် သူ့ကို ဘုတ်ကြီးလို့။ ဘူတရုပ်ကြီး ပါဠိလို။ မြန်မာလို မဟာဘုတ်ကြီးလို့ ခေါ်ရတုံး။ "**ပွားစီးအနက်**" ဆိုတာ ပွားစီးတတ် သော အနက်သဘောကြောင့် သူတို့ကို ဘူတရုပ်လို့ခေါ်တယ်။ ဒီလို ပြောချင်တယ်၊ ပွားစီးအနက် ဘယ်လောက်များ ပွားစီးတတ်တုံး။ ကိုယ့် ကိုယ်ကို ပြန်ကြည့်စမ်း၊ ပြန်ကြည့်လိုက်လို့ရှိရင်ဖြင့် ဘယ်အချိန်လောက် က စလာတာလဲ၊ ကလလရေကြည်ဆိုတဲ့ အချိန်ကနေပြီး ယနေ့ရှိတဲ့ လက်ရှိ ခန္ဓာကိုယ်ထိအောင် ကြည့်စမ်း။ ကလလရေကြည် ဆိုတာဟာ မြောက်ကျွန်းသူတို့၏ ဆံပင်ကို ရှစ်စိတ်စိတ်၊ တစိတ်အရယူ၊ အဲဒီ ဆံခြည် စိတ်ကလေးနဲ့အကြိမ်တရာချက်ပြီးတဲ့ထောပတ်ထဲကိုနှစ်လိုက်၊နှစ်ပြီးတော့ မှဆံခြည်မျှင် အဖျားမှာပါလာတဲ့ ထောပတ်ပေါက်တွေကို ခါပြီးတော့ ချလိုက်လို့ နောက်ဆုံး ဆံခြည်မျှင်အဖျားမှာ ကပ်နေတဲ့ ထောပတ် အပေါက်ကလေးလောက်ပဲ ရှိတယ်တဲ့။ ကလလရေကြည်က၊ အဲဒီ ကလ လရေကြည်ကနေပြီးတော့ တဖြည်းဖြည်း ကြီးလာလိုက်တာဟာ ကနေ့ ဆိုလို့ရှိရင် တချို့မှာ ပိဿာ ၅၀ ကျော် ခြောက်ဆယ်၊ ဒီလိုရှိကြ တယ်။ ဒီတော့ ဘယ်လောက်ကြီးလာသလဲ၊ ဟုတ်လား၊ ဆံခြည်မျှင် ဒီရှစ်စိတ်က မြောက်ကျွန်းသူတို့၏ ဆံခြည်မျှင်ရှစ်စိတ်၊ တစိတ်အဖျား မှာ ကပ်နေတဲ့ ထောပတ် အကြည်ကလေးလောက်မှ အစပြုပြီးတော့ ယနေ့ထိအောင် ဘယ်လောက် ပွားစီးလာသလဲ၊ အဲဒီလို တဖြည်းတဖြည်း ပွားစီးလာတတ်သောကြောင့် သူတို့ကို ဘူတရုပ်ခေါ်တယ်။ ငါးအဓိပ္ပာယ်

ကို "ပွားစီးအနက်" ဆိုပြီးတော့ စာလုံးကလေး ၄ လုံးထဲနဲ့ ရေးထား တယ်၊ ဒီလက်ာ ဒီအပိုဒ်ဖြင့် ပထဝီဓာတ် အာပေါဓာတ် တေဇောဓာတ် ဝါယောဓာတ်၊ မြန်မာလို မြေဓာတ် ရေဓာတ် မီးဓာတ် လေဓာတ် ရုပ်ကြီးလေးမျိုး၊ မဟာဘုတ်ကြီးလေးမျိုး၊ နားလည်ကြပါစေ။

ပြီးတော့ ရှေ့တဆင့် ရုပ် ၂၈ ပါးထိအောင် ပထမ အစုပြီးတော့ ဒုတိယအစုက "ပွားစီးအနက်၊ စက်၊ သော၊ ဃာ၊ ဇိ၊ ကာငါးလီမူ၊ အကြည် ရုပ၊ ပသာဒတည်း"။ စက္ခုပသာဒရုပ် သောတပသာဒရုပ် ဃာန ပသာဒရုပ် ဇိဝှာပသာဒရုပ် ကာယ ပသာဒရုပ်ရယ်လို့ အကြည်ရုပ် ငါးမျိုးရှိတယ်၊ မျက်စိထဲမှာ စက္ခုပသာဒရှိတယ်၊ နားထဲမှာ သောတ ပသာဒရှိတယ်၊ အများမြင်နေရတဲ့ နှာခေါင်းဘူကြီးထဲမှာ ဃာနပသာဒ ရှိတယ်၊ အများမြင်နေကြတဲ့ လျှာထဲမှာ ဇိဝှာပသာဒ ရှိတယ်၊ အများ မြင်နေရတဲ့ ဒီခန္ဓာကိုယ်ကြီးထဲမှာ ကာယပသာဒရှိတယ်၊ အဲဒီ ဓာတ် သဘောတွေကတော့ ဒီပသာဒဆိုတဲ့ ဒီရုပ်တွေကတော့ အကြည်ဓာတ် ဟာမျိုးပဲတဲ့။ မျက်စိနဲ့ ကြည့်လို့တော့မမြင်ရဘူး၊ မျက်စိနဲ့ကြည့်လို့မြင် ရတာကတော့ အဆင်းရူပါရုံကိုပဲမြင်ရတယ်၊ မျက်စိထဲမှာ စက္ခုပသာဒ အကြည်ရှိတယ်။ နားထဲမှာ သောတပသာဒအကြည်၊ရုပ်ရှိတယ်။ အများ မြင်နေရတဲ့ သသမ္ဘာရနှာခေါင်းကြီးထဲမှာ ဃာနပသာဒ အကြည်ရုပ် ရှိတယ်၊ အများမြင်နေရတဲ့ သသမ္ဘာရ လျှာကြီးထဲမှာ ဇိဝှာပသာဒ အကြည်ရုပ်ရှိကြယ်။အများမြင်နေတဲ့ သသမ္ဘာရကိုယ်ကြီးထဲမှာဖြင့်ကာယ ပသာဒရုပ် ရှိတယ်လို့ အဲဒီလိုပဲ အကြည်ရုပ် ငါးမျိုးရှိတဲ့အကြောင်းကို **"စက်၊ သော၊ ဃာ၊ ဇိ၊ ကာငါးလီမူ၊ အကြည်ရူပ၊ ပသာဒတည်း"**။

ရှေ့ဆက်သွားလိုက်စမ်းပါဦးဆိုတော့ "ရူပ၊ သဒ္ဒ၊ ဂန္ဓ၊ ရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ငါးဖြာအာရုံ"။ မျက်စိနဲ့ မြင်ကောင်းသမျှ အဆင်းအမျိုး မျိုးဟာဖြင့် ရူပါရုံရုပ်ပဲ၊ နားဖြင့် ကြားကောင်းသမျှ အသံအမျိုးမျိုး ဟာဖြင့် သဒ္ဒာရုံရုပ်ပဲ၊ နှာခေါင်းဖြင့် နမ်းရှူ၍ ရစကောင်းတဲ့ သိစ ကောင်းတဲ့ အနံ့ အမျိုးမျိုးက ဂန္ဓာရုံရုပ်ပဲ။ လျှာဖြင့် လျက်၍ သိအပ်သမျှ

သော အရသာအမျိုးမျိုးကတော့ ရသာရုံရုပ်ပဲ။ ကိုယ်ဖြင့် တွေ့ထိ၍ သိအပ်တဲ့ ကြမ်းမှု မာမှုဆိုတဲ့ ပထဝီဓာတ်သဘော၊ ပူမှု အေးမှုဆိုတဲ့ တေဇောဓာတ်သဘော၊ ထောက်ကန်မှုဆိုတဲ့ ဝါယောဓာတ် သဘော။ အဲဒီသဘော ၃-မျိုးကတော့ ဖောဋ္ဌဗ္ဗာရုံ-ဖောဋ္ဌဗ္ဗရုပ်လို့ ခေါ်တယ်၊ အဲဒါကို **ဆရာတော်ဘုရားကြီးက "ရူပ, သဒ္ဒ၊ ဂန္ဓရသာ၊ ဖောဋ္ဌဗ္ဗာဟု၊ ငါးဖြာအာရုံ"။**

ရှေ့ဆက်လိုက်ပါအုံး ဆိုတော့ "နှစ်စုံဘာဝ"။ ယောကျ်ားများ **သ**န္တာန်၌ ပုမ္ဘာဝရုပ်ရှိတယ်၊ မာတုဂါမ-မင်းမိန်းမတို့၏ **သ**န္တာန်၌ ဣတ္ထိဘာဝရုပ်ရှိတယ်။ ဣတ္ထိဘာဝရုပ် ပုမ္ဘာဝရုပ်တို့သည် ယောကျ်ား-မိန်းမတို့၏ သန္တာန်၌ မည်မျှ နှံ့စပ်ပြီးတည်နေသလဲဆိုတော့ တကိုယ်လုံး အနှံ့အပြန့်တည်နေပါတယ်။အနှံ့အပြန့်တည်နေတဲ့ဣတ္ထိဘာဝရုပ် ပုမ္ဘာဝရုပ် သဘောပြောရမယ်ဆိုလို့ရှိရင် ယောကျ်ားကလေးနဲ့ မိန်းမကလေးနဲ့ တကိုယ်လုံး စောင်ခြုံထား၊ စောင်ခြုံပြီးတော့ လက်ညှိုးကလေး ၂-ချောင်းထဲ ယောကျ်ားကလေးရဲ့ လက်ညှိုးကလေးတချောင်းတဘက် မိန်းကလေးရဲ့ လက်ညှိုးကလေးတချောင်းကို တဘက်ထား၊ လက်ညှိုးကလေး၂ ချောင်းတင် ထုတ်ထား၊အဲဒီလိုထုတ်ပြီးတော့ကို လူတယောက် ပါးရည် နပ်ရည်ရှိတဲ့ လူတယောက်ကို ခေါ်ပြီးတော့ ဒီအထဲမှာရှိတဲ့ ကလေးဟာ ယောကျ်ားကလေးလား မိန်းကလေးလား မင်းပြောစမ်း၊ ဟောဒီလက်ကလေးကိုကြည့်ပြီးတော့ ပြောစမ်းဆိုရင် ပါးရည်နပ်ရည်ရှိတဲ့ လူအဘို့ရာမှာ ဒီလက်ကိုမြင်သဖြင့် လက်ကိုစမ်းကြည့်သဖြင့် ဒါ ယောကျ်ားကလေးပဲ။ ဒါ မိန်းကလေးပဲလို့ ပြောနိုင်တယ်၊ အဲဒီလိုပြောနိုင်အောင် ဘယ်သူချယ်လှယ် ပေးထားတုံးလို့ဆိုတော့ ယောကျ်ားကလေးရဲ့ သန္တာန်မှာ ပုမ္ဘာဝရုပ်က အဲဒီနေရာမှာ ချယ်လှယ် ပေးထားတယ်။ ဣတ္ထိဘာဝ ရုပ်ကလဲပဲ အဲဒီနေရာမှာ ချယ်လှယ်ပေးထားတယ်။ ဘယ်လိုချယ်လှယ် ပေးသလဲ၊ ငါ့အုပ်စိုးတဲ့ သန္တာန်၌ အမောင်စတဲ့ ရုပ်များသည် ဖြစ်ပေါ်လာလို့ရှိရင် သူ့ဘာဘက်သားက ကြည့်လိုက်ရင် သူ့ဘာဘက်သားကကိုင်ကြည့်လိုက်ရင် သူ့ဘာဘက်သားကနားထောင်

ကြည့်လိုက်ရင် သူတဘက်သားက လျှာနဲ့ လျက်ကြည့်လိုက်ရင် နှာခေါင်းနဲ့ နမ်းရှုပ်ကြည့်လိုက်လို့ရှိရင် မိန်းမဟူ၍ ယောက်ျားဟူ၍ စွဲယူမှတ်သားလောက်သော အခြင်းအရာဖြင့် မောင်တို့ ဖြစ်ရမယ်လို့ စိုးအုပ်ပြီးတော့ တည်နေကြတယ်၊အဲဒီလို ဘာဝရုပ် ၂-ပါး ကွတ္ထိဘာဝ ရုပ် ပုမ္ဘာဝရုပ်ဟာဖြင့် ဒီခန္ဓာကိုယ်မှာ အစိုးအအုပ် အချုပ်အခြာ ရုပ်တွေပါပဲ။ သူတို့ရဲ့ချုပ်ခြာမှုအတွက် ယောက်ျား မိန်းမဟူ၍ ယောက်ျားဟူ၍၊ မိန်းမဟူ၍ အထင်အမြင်ရောက်အောင်, လောကဝေါဟာရမှာလကွဲ။ အဲဒါကို **"နှစ်စုံဘာဝ"**။

**ဟဒယနှင့်။** ဟဒယဝတ္ထုဆိုတာကတော့နော် အများသိတဲ့အတိုင်းပဲ ဒီရင်ချိုင့်ထဲ၌ လက်ဆွမ်းတမျှသော သွေးကို ပြန့်နှံ့၍ တည်နေတယ်။

**ဇီဝ, ဩဇာ၊ ဆယ့်ရှစ်မှာမူ။** ဇီဝဆိုတာ ဇီဝိတရုပ်၊ ဒီခန္ဓာကိုယ်စောင့်တဲ့တရား ၃-ပါးထဲမှာ ဇီဝိတသည် တပါး အပါပဲ။ အဲဒီဇီဝိတ မရှိဘူး ဇီဝိတဆိုတဲ့ရုပ် ဇီဝိတဆိုတဲ့နာမ် မရှိဘူး၊ (နာမ်သက်မှာလဲပဲ ဇီဝိတရှိတယ်၊ ရုပ်သက်မှာလဲ ဇီဝိတရုပ်ကယ်လို့ ရှိတယ်) အဲဒီလို ဇီဝိတရုပ် ဇီဝိတနာမ်ဆိုတဲ့ ဒီရုပ်ဇီဝိတ နာမ်ဇီဝိတ တရား ၂-ပါး မရှိတော့ဘူးဆိုလို့ရှိလျှင်ဖြင့် ဒီခန္ဓာကိုယ်ဟာ သုသာန်တစ သင်းချိုင်းဝသို့ ပစ်ချတဲ့အခြေအနေကို ရောက်သွားတယ်နော်၊ ဒါကြောင့် ခန္ဓာကိုယ်စောင့်တရား၊ ဒါကို ဇီဝ။

ဩဇာဆိုတာက ထိုထိုအစာ အာဟာရတို့မှာပါတဲ့ ထိုထိုအစာ အာဟာရတို့မှာရှိတဲ့ ဓာတ်ဆီ၊ ဒီဩဇာကြောင့် ဘာအကျိုးရသတုံး၊ ဒီခန္ဓာကိုယ်မှာ အာဟာရဇရုပ်တွေ ဖြစ်ပွားလာရတယ်၊ အာဟာရဇရုပ်တွေဖြစ်ပွားအောင် ကျေးဇူးပြုတတ်တဲ့ ထိုထိုအစာအာဟာရ ထိုထိုဝတ္ထုတို့မှာပါတဲ့ ဓာတ်ဆီ အစေးဟာဖြင့်ဒါဩဇာပဲ၊ ပေါင်းလိုက်လို့ရှိရင် ၁၈-ပါး ဖြစ်သွားပြီ။

အဲဒီ ၁၈-ပါးကို နိပ္ဖန္နရုပ် ခေါ်တဲ့အကြောင်း **"ဇီဝ, ဩဇာ၊ ဆယ့်ရှစ်မှာမူ၊ လေးပြားဟေတု၊ ကြောင်းစတုကြောင့်၊ ဖြစ်မှုပေါ်လော၊ သဘော**

**သီးသီး၊ကိုယ်စီပြီး၍၊ရုပ်ကြီးရှုပ၊နိပ္ဖန္နတည့်”**။ အဲဒီ ၁၈-ပါးသောရုပ်ဟာ လေးဖြာဟေတု ကြောင်းစတုကြောင့်ဆိုတာ ကံရယ် စိတ်ရယ် ဥတုရယ် အာဟာရရယ် ဒီအကြောင်း လေးပါးတို့ကြောင့်။ ။“ဖြစ်မှုပေါ်လော” ဆိုတာ ဖြစ်လာတဲ့အချိန်အခါမှာ ပေါ်ပေါ်လွင်လွင် ထင်ထင်ရှားရှား ကြီး ဉာဏ်နဲ့ကြည့်မယ် မျက်စိနဲ့ကြည့်မယ် နားနဲ့ထောင်မယ် သူ့ဆိုင် ရာ ဆိုင်ရာ ရုပ်တွေဟာ ပေါ်ပေါ်လောလော ထင်ထင်ရှားရှား ဖြစ်ပွား လာတယ်။ “ဖြစ်မှုပေါ်လော၊ သဘောသီးသီး၊ ကိုယ်စီပြီး၍” သဘော သီးသီး ကိုယ်စီပြီးဆိုတာ ပထဝီဓာတ်မှာ ခက်မာမှုဆိုတဲ့ သူ့ရဲ့သဘော၊ အာပေါဓာတ်မှာ ဖွဲ့စည်းမှုဆိုတဲ့ သူ့ရဲ့သဘော၊ တေဇောဓာတ်မှာ ပူအေးမှုဆိုတဲ့ သူ့ရဲ့သဘော၊ ဝါယောဓာတ်မှာ ထောက်ကန်မှုဆိုတဲ့ သူ့သဘောနဲ့ ကိုယ်စီကိုယ်ငှ အသီးအသီးဖြစ်ကြပြီးကြသောကြောင့်။ ။ ရုပ်ကြီးရှုပ၊ နိပ္ဖန္နတည်းဆိုတာ နိပ္ဖန္နရုပ်လို့ခေါ်တယ်၊ နိပ္ဖန္နဆိုတာ ပါဠိစကား၊ နိပ္ဖန္န=ပြီးတယ်၊ ဘယ်လိုပြီးတာတုံး။ ကိုယ့်သဘောနဲ့ကိုယ် အသီးအသီး ပြီးကြ ဖြစ်ကြ ထင်ထင်ရှားရှား ပြီးကြ ဖြစ်ကြလို့ သူတို့ကို နိပ္ဖန္နရုပ် ခေါ်တယ်။

**“ထိုမှတပါး၊ ကလာပ်ခြားမျှ၊ အာကာသနှင့်”**။ ဟိုဘက်က အနိပ္ဖန္န ရုပ် ၁၀-ပါး ပြောမဲ့ကြံတော့ အာကာသဓာတ်ဆိုတဲ့ ဒီတရားကစတယ်။ ရုပ်ကလာပ် တခု တခုနဲ့ ရုပ်ကလာပ် တခု တခုတို့၏အကြား အကြား မှာ အာကာသခြားလျက် ခြားလျက် ရှိတယ်။ ရုပ်အစု တခု တခုရဲ့ ကြားထဲမှာ တခုနဲ့တခုကြားထဲမှာပ ဟိုရုပ်နဲ့ ဒီရုပ်သဘော မရောမယှက် အောင် ခြားပေးတဲ့ အခြားသဘောကလေးရှိတယ်၊ အဲဒီ အခြားသဘော ကလေးဟာဖြင့် အာကာသဓာတ်ပဲတဲ့။ ဒီအခြားကလေးရှိတဲ့အကြောင်း ဟာ နွေရာသီကျတော့ မိုးသိတယ်၊ လက်မောင်းထောင်ကြည့်၊ ဟိုဘက် ဒီဘက်မမြင်ရဘူး၊ ဒါပေမယ်လို့ အခြား အာကာသထဲက နေပြီးတော့ ချွေးတွေထွက်လာတယ်၊ ခန္ဓာကိုယ်ထဲက၊ ဒါကို “ကလာပ်ခြားမှ အာကာသနှင့်”။

**"ကာယဝစီ၊ နှစ်လီကိုယ်နှုတ်၊ လှုပ်မှုရှားမှု၊ နှစ်ခုဝိညတ်"** ကာယ, ဝစီဆိုတာ ကိုယ်ရယ် နှုတ်ရယ်၊ ဒါကို နှစ်လီကိုယ်နှုတ်၊ "လှုပ်မှုရှားမှု" ကိုယ်၏ လှုပ်ရှားမှု၊နှုတ်၏ လှုပ်ရှားမှု၊ကိုယ်၏လှုပ်ရှားမှု=ကာယဝိညတ်။ နှုတ်၏လှုပ်ရှားမှု=ဝစီဝိညတ်။ အဲဒီလို ဝိညတ် ၂-ပါးထား။ လှုပ်ရှားတဲ့ ကိုယ်ထဲမှာ လှုပ်ရှားတဲ့နှုတ်ထဲမှာပေါ့။ ဒီကာယဝိညတ် ဝစီဝိညတ် ချယ် လှယ်ပေးလို့ လှုပ်ရှားလာတာပဲတဲ့၊ သို့သော် လှုပ်ရှားတဲ့နေရာမှာဖြင့်ဝါ ယောဓာတ်ရဲ့ကိစ္စဟာ အဓိကပါပဲနော်၊ ဒါပေမဲ့ ဝါယောဓာတ်၏ တန်ခိုးသတ္တိပဲတဲ့၊ ကာယဝိညတ် ဝစီဝိညတ်ဆိုတာ။ ဒါကြောင့် "ကာယ ဝစီ၊ နှစ်လီကိုယ်နှုတ်၊ လှုပ်မှုရှားမှု၊ နှစ်ခုဝိညတ်"။

**"ရူပဿလဟု၊မုဒု၊ကမ္မည၊ ဝိကာရခေါ်၊ရုပ်သုံးဖော်ကား"**ရူပဿလ ဟုတာ, ရူပဿမုဒုတာ, ရူပဿကမ္မညတာလို့ခေါ်တဲ့ ရုပ် ၃-မျိုးကို တော့ ဝိကာရရုပ်လို့ ခေါ်တယ်၊ ရူပဿလဟုတာဆိုတာ ဘာခေါ်တုံး၊ မုဒုတာ, ကမ္မညတာဆိုတာ ဘာခေါ်တုံးလို့ မေးစရာမရှိဘူး။ ဆက်ပြီး တော့ **"ပေါ့ပါး,နူးညံ့၊ ကျမ်းခံ့မှုရာ"** ထိုထို မိမိ ခန္ဓာကိုယ်မှာရှိတဲ့ ရုပ် တွေရဲ့ပေါ့ပါးမှုသဘောဟာဖြင့် ရူပဿလဟုတာပဲတဲ့။ခန္ဓာကိုယ်မှာရှိနေ တဲ့ ရုပ်တွေရဲ့နူးညံ့မှုသဘောဟာဖြင့် ရူပဿမုဒုတာပဲတဲ့၊ ထိုထိုအမှုတို့၌ ကျမ်းခံ့မှုသဘောဟာဖြင့် ရူပဿကမ္မညတာပဲလို့ ဒီသဘောကို"ပေါ့ ပါးနူးညံ့၊ ကျမ်းခံ့ မှုရာ" ဟောဒီလို။ ဒါဝိကာရရုပ် ၃-ပါးလို့ခေါ် တယ်။

"တဖြာထိုမှ၊ ဥပစယ၊ အစပွားတိုး၊ အရိုးပြည့်မှီ။ တည်စဉ်သန္တတိ ရင့်ဘိဇရာ၊ ပျက်မှာအနိစ္စ၊ ဤလေးဝမှု၊ လက္ခဏာရုပ်၊ ခေါ်သမုတ်၏" ထိုပြင်-ဥပစယတဲ့။ သန္တတိတဲ့၊ဇရတာတဲ့၊ အနိစ္စတာတဲ့၊ပါဠိအခေါ် ဥပစယဆိုတာ ဘာခေါ်သလဲတဲ့။ ထိုထိုဘဝတို့၌ ရသင့်ရထိုက်တဲ့ ရုပ်ကလာပ်များအစဆုံး ဖြစ်ပွားခြင်း၊ ဒါကို ဥပစယလို့ ခေါ်တယ်။ ရသင့်ရထိုက်တဲ့ရုပ်ကလာပ်တို့ မပြည့်စုံသေးသ၍ကာလအတွင်း ဖြစ်ဖြစ် သမျှသော ရုပ်တို့၏ ဖြစ်ဆဲ ပဌမ- ဥပါဒ်ခဏအပိုင်းကိုဖြင့် ဥပစယ လို့ခေါ်တယ်တဲ့။ရသင့်ရထိုက်တဲ့ရုပ်ကလာပ်များ ပြည့်စုံလာတဲ့နောက်

တခါ်ိန်ကစ၍ ရုပ်တို့၏ ဖြစ်ဆဲခဏကို သန္တတိလို့ ခေါ်တယ်။ ဒါကို **"ဥပစယ၊ အစပွားတိုး၊ အရိုးပြည့်မှီ၊ တည်စဉ်သန္တတိ"**။

"ရင့်ဘိဇရာ" ဆိုတာကတော့ ဖြစ်ပြီးရင် အဲဒီရုပ်တိုင်းရုပ်တိုင်းဟာ ဋ္ဌီခဏခေါ်တဲ့ အရင့်ပိုင်းရောက်တယ်။ အဲဒီဋ္ဌီခဏ အစိတ်အပိုင်းဟာဖြင့် ရူပဿဇရတာလို့ခေါ်တယ်။ ရုပ်တို့၏ ပျက်တဲ့ဘင်ခဏ အပိုင်းကိုတော့ ဖြင့် ရူပဿအနိစ္စတာလို့ခေါ်တယ်။ ဒါကို-**"ရင့်ဘိဇရာ၊ ပျက်မှာအနိစ္စ၊ ဤလေးဝမှု၊ လက္ခဏရုပ်၊ ခေါ်သမုတ်၏"**။

ပေါင်းကြည့်လိုက်စမ်းတဲ့။ "ရုပ်ပေါင်းဆယ်တန်၊ အနိပ္ဖန်တည့်"။ ဆယ်ပါးရှိသွားပြီတဲ့။ဘယ်သူတုံး။ အာကာသဓာတ်ရယ် ကာယဝိညတ်၊ ဝစီဝိညတ်ရယ် ရူပဿလဟုတာ ရူပဿမုဒုတာ ရူပဿကမ္မညတာ ခြောက်ပါး။လက္ခဏရုပ် လေးပါးထည့်လိုက်တော့အနိပ္ဖန္နရုပ်ဆယ်ပါးတဲ့။ အဲဒီ ဆယ်ပါးကတော့ ခုနက ၁၈-ပါးလောက် မထင်ရှားဘူး၊ ပေါ ပေါ လောလောကြီး မဖြစ်လှဘူးတဲ့။ ကိုယ့်သဘောနဲ့ကိုယ်လဲ ဖြစ်တာ မဟုတ်ဘူး။ သူတို့ကတော့ နိပ္ဖန္နရုပ်တို့ရဲ့ ဂုဏ်သတ္တိအနေနဲ့ဖြစ်ပေါ်လာ ရတာမို့လို့ အနိပ္ဖန္နလို့ခေါ်တယ်။ **"ရုပ်ပေါင်းဆယ်တန်၊ အနိပ္ဖန်တည့်၊ နိပ္ဖန်ဆယ့်ရှစ်၊ ပေါင်းတုံလစ်က၊ ခုစွန်းကယ်ရှစ်၊ ရှစ်နှစ်ဆယ်သည်၊ အကျယ်ရှုပက္ခန္ဓာတည်း"**လို့ ရှေးဆိုခဲ့ပြီးတဲ့ နိပ္ဖန္နရုပ် ၁၈-ပါးနဲ့ ပေါင်းလို့ရှိလျှင်ဖြင့် ဒါဟာ ရုပ်ပေါင်း ၂၈-ပါးဖြစ်သွားတယ်တဲ့၊ ရူပက္ခန္ဓာဆိုတာ အကျယ်ဖြန့်ကြည့်ရင် ၂၈-ပါးပဲရှိတယ်တဲ့။ဒါကိုပြောတယ်။

အဲဒီကနောက်တော့ ဆရာတော်ဘုရားကြီးက ဗုဒ္ဓဘာသာတွေစကား ထဲမှာ ရုပ်ကလာပ်ရယ်လို့ရှိတယ်။ ကလာပ်စည်းပုံကို လက်ာတပုဒ်နဲ့ပြ တယ်။ အဲဒီ လက်ာတပုဒ်ထဲနဲ့ပေါ့လေ ရုပ်ကလာပ်ပေါင်း ၂၃-ပါးကို နားလည်လွယ်အောင်ပြတယ်။ ရူပက္ခန္ဓာအတွက် လက်ာ၂-ပုဒ်ထဲပဲရေး သားတယ်၊

ဘာကြောင့် ရုပ်ခေါ်တုံး။ အချမ်း အပူ အစရှိသော ဆန့်ကျင်ဘက် အကြောင်းတို့ကြောင့် ဖောက်ဖောက်ပြန်ပြန် ထွေထွေပြားပြားဖြစ်ပွား

တတ်သောကြောင့် ရုပ်ခေါ်တယ်။ အဲဒီရုပ်သည် ဘယ်လောက်ရှိတုံး၊ ၂၈-ပါး ရှိတယ်။ ဘာကြောင့်ရူပက္ခန္ဓာခေါ်တုံးဆိုတော့ ၁၁-မျိုးပြားတဲ့ ရုပ်တွေစုထားလို့ ရူပက္ခန္ဓာလို ခေါ်တယ်။

ရှေ့ကို သွားကြည့်ကြပါအုံးစို့၊ ဝေဒနာက္ခန္ဓာ သဘော။ ပထမ ရူပက္ခန္ဓာပြီးပြီ။ဝေဒနာက္ခန္ဓာသွားကြအုံးစို့။ဝေဒနာက္ခန္ဓာကျတော့ဆရာတော်ဘုရားကြီးက ဘယ်လိုရေးထားတုံး "ခံစား, စံစား၊ စကားနှစ်ထွေ တရားနေမှာ၊ ဝေဒနာဓာတ်၊ ခန္ဓာမှတ်လော့"။ဝေဒနာကို နားမလည်တယ်ရယ်လို့ မရှိရအောင် ဝေဒနာက္ခန္ဓာဆိုတဲ့ စကား၌ ခန္ဓာဆိုတာ ၁၁-ပါးစု၊ ဝေဒနာ ၁၁-ပါးအစုကို ဝေဒနာက္ခန္ဓာခေါ်တယ်။ အဲဒီ ဝေဒနာဆိုတာ ဘာခေါ်သလဲ၊ ဝေဒနာဆိုတာ "ခံစား, စံစား၊ စကား နှစ်ထွေ၊ တရားနေမှာ၊ ဝေဒနာဓာတ်၊ခန္ဓာမှတ်လော့"။ခံစားနေသဟော့ စံစားနေသဟော့ ။ စကားပြောဆိုယူရတဲ့ ခစားမှု စံစားမှု သဘောရှိတယ်။ မျက်စိနဲ့ကြည့်လို့လဲ မြင်ကောင်းတာမဟုတ်ဘူးနော်၊ ဒါကတော့စိတ်နဲ့ပဲ သိရတဲ့သဘော၊ အဲဒီလိုပြောယူရတဲ့-ခံစား, စံစား ပြောဆိုယူရတဲ့ စကားနှစ်ထွေ၊ တရားသဘောအနေမှာတော့ ဝေဒနာဓာတ် ခန္ဓာမှတ်ပါတဲ့။ ခံစားတယ်ဆိုတာ လောကအသုံး။ စံစားတယ်ဆိုတာလဲ လောက အသုံး။ ခစားတယ်ဆိုတာ အများအားဖြင့် ဒုက္ခနေရာမှာ သုံးတတ်တယ်။ စံစားတယ်ဆိုတာက အများအားဖြင့် သုခဝေဒနာဘက်မှာသုံးတတ်တယ် ဩော်.... သူဖြင့် ဒုက္ခခံစားနေရတာပဲ အို- သူဖြင့်ရင်တော့ အမြဲတမ်း။ ချမ်းသာသုခ စံစားနေတဲ့လူပါ၊ ချမ်းချမ်းသာသာ စံနေရတယ်။ ဆင်းဆင်းရဲရဲတော့ ခံနေရတယ်၊ ချမ်းချမ်းသာသာတော့ စံနေတာ၊ ခံစားတယ် စံစားတယ်ဆိုတာ ဒုက္ခနဲ့သုခ ပြောတယ်။ အဲဒီလို ခံစားတယ် စံစားတယ်လို့ ပြောဆိုယူရတဲ့ တရားသဘောဟာဖြင့် ဝေဒနာဓာတ် ခန္ဓာမှတ်ပါလေ။ **"ခံစား,စံစား၊ စကားနှစ်ထွေ၊ တရားနေမှာ၊ ဝေဒနာဓာတ်၊ ခန္ဓာမှတ်လော့"။**

အဲဒီဝေဒနာကကော ဘယ်လောက်ရှိသလဲ ဆိုလို့ရှိရင် "သုံးရပ်ဝေခွဲ၊ ဆင်းရဲဒုက္ခ၊ သုခချမ်းသာ၊ ဥပေက္ခာဟူ၊ လျစ်လျူခံစား၊ မထင်

ရှားတည်း” ဝေဒနာခွဲကြအုံးစို့။ ဝေဒနာပထမခွဲလို့ရှိရင် ၃-ပါးခွဲလိုက် ဆင်းဆင်းရဲရဲခံစားမှုသဘောက ဒုက္ခဝေဒနာ၊ ချမ်းချမ်းသာသာ ခံစားမှုသဘောက သုခဝေဒနာ၊ မဆင်းရဲ မချမ်းသာ အလယ်အလတ် ခံစားမှုသဘောက ဥပေက္ခာဝေဒနာလို့၊ ဒါကို **“သုံးရပ်ဝေခွဲ၊ ဆင်းရဲဒုက္ခ၊ သုခချမ်းသာ၊ ဥပေက္ခာဟူ၊ လျစ်လျူခံစား၊ မထင်ရှားတည်း”**။

သုံးပါးထဲဖြန့်ပြီးတော့ဉာဏ်ရှိတဲ့ပုဂ္ဂိုလ်ပီပီ ဘုရားတပည့်သား တပည့်မပီပီ နဲနဲချဲ့ပြီးတော့ အကျယ်တဝင့် သိချင်သေးသပဆိုလို့ရှိရင် “ငါးပါးအလို၊ ထဖုံဆိုသော်၊ ကိုယ်စိတ်နှစ်ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲလေ” ငါးပါးဖြန့်ပြီးတော့ကြည့်ကြအုံး၊ ကိုယ်စိတ်နှစ်ဖြာချမ်းသာဆင်းရဲဆိုတာ ကိုယ်ဆင်းရဲမှု စိတ်ဆင်းရဲမှု၊ ကိုယ်ချမ်းသာမှု စိတ်ချမ်းသာမှု၊ လျစ်လျူခံစားမှုတဲ့၊ ကာယပသာဒ ကာယဒွာရဖြင့် ခံစားတဲ့ နေရာမှာ ကိုယ်ဆင်းဆင်းရဲရဲခံစားရတာက ကာယိကဒုက္ခဝေဒနာ၊ ကာယပသာဒ ကာယဒွာရကို အမှီပြုပြီးတော့ ချမ်းချမ်းသာသာ ခံစားရမှုကို ကာယိကသုခဝေဒနာ၊ စိတ်ကလဲ ထို့အတူပဲ၊ စိတ်ဆင်းဆင်းရဲရဲ ခံစားရမှုကို စေတသိကဒုက္ခဝေဒနာ၊ စိတ်ချမ်းချမ်းသာသာ ခံစားရမှုကို စေတသိကသုခဝေဒနာ၊ အဲဒီလို ဆင်းရဲ ချမ်းသာက ၂-မျိုးစီ ၂-မျိုးစီ ကွဲအောင်ပြုလုပ်ပြီးတော့ ဥပေက္ခာကတော့ နဂိုအတိုင်းပဲ လျစ်လျူ မထင်မရှားလျစ်လျူခံစားမှု ဥပေက္ခာတပါးလို့၊ အဲဒီလိုပွားလိုက်ရင် ဝေဒနာ ငါးပါးရှိတယ်တဲ့။ ဒါကို **“ငါးပါးအလို၊ တဖုံဆိုသော်၊ ကိုယ်စိတ်နှစ်ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲလေ”**။

“တနဲထို့ပြင်၊ အမြင်,အကြား၊ အနံ့,အားနှင့်၊ စားလျက်, တွေ့ထိ၊ ကြံသိခြောက်ဖြာ” ငါးပါးမှသိရတာ အားမရသေးဘူး ရှေ့တိုးချဲ့သိချင်သေးတယ် ဆိုလို့ရှိရင် အမြင်ခံစားမှု သဘော အကြား ခံစားမှုသဘော အနံ့ခံစားမှုသဘော လျက်တာကို အကြောင်းပြု၍ ခံစားမှုသဘော အတွေ့အထိကို အကြောင်းပြု၍ ခံစားမှုသဘော အသိခံစားမှုသဘောလို့ ခံစားမှု ခြောက်မျိုးထားတဲ့၊ ဒါကို **“တနဲထို့ပြင်၊ အမြင်**

**အကြား၊ အနံ့ အားနှင့်၊ စားလျက် တွေ့ထိ၊ ကြံသိခြောက်ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲငြား၊ ဆယ့်ရှစ်ပါးတည်း"** အဲဒီခြောက်ပါးမှာလဲပဲ တပါးတပါးမှာ ချမ်းချမ်းသာသာခံစားမှု ဆင်းဆင်းရဲရဲခံစားမှု လျစ်လျူခံစားမှုလို့ ၃ ပါး ၃ ပါးစီကျအောင် ပြားပြီးတော့ ကြည့်လို့ရှိရင် ဝေဒနာ ၁၈ ပါး ဖြစ်လိမ့်မယ်။

ဥပမာ အမြင်ခံစားမှု နေရာ၌ ကိုယ်မုန်းတဲ့လူကို မြင်ရလို့ ရှိရင် ငါ့နယ် ဒီကောင်မြင်ရတာ၊ ဒီသူ မြင်ရတာ မျက်စိထဲမှာ သဲနှင့်ပက်သလိုပဲ၊ ဆင်းဆင်းရဲရဲ မျက်စိမှာ ပေါ့လေ၊ အမြင်ခံစားမှုမှာ ဆင်းဆင်းရဲရဲ ခံစားရတာကို နှုတ်ကကို ပြောယူတယ်။ ကိုယ်ချစ်တဲ့ အာရုံ ကိုယ်အလိုရှိတဲ့ အာရုံတွေ့လို့ရှိရင် ငါ ဒီအာရုံကို မြင်ရတာ ဒီသူကို မြင်ရတာဖြင့် မျက်စိ ချမ်းသာ လိုက်တာလို့ ပြောတယ်၊ ဒါ မျက်စိကိုအမှီပြု၍ ချမ်းချမ်းသာသာ ခံစားရတဲ့ စက္ခုသမ္ဖဿဇာ သုခ ဝေဒနာ, ပနော်၊ အလယ်အလတ်ဖြစ်တဲ့အာရုံကို မြင်ရတဲ့ အခါကျတော့ ဟာ ဆင်းလဲ မဆင်းရဲပါဘူး ချမ်းလဲမချမ်းသာပါဘူး။ အလယ်အလတ် ဘာမှ အကြောင်းမထူးလှပါဘူး၊ တယ်ပြီးတော့မသိလိုက်ပါဘူးလို့ ပြောယူရအောင် အလယ်အလတ် ခံစားမှုလဲရှိတယ်။ အဲဒါကြောင့် အမြင် ခံစားမှုမှာ ၃ ပါးပြားသလို အကြားခံစားမှု အနံ့ခံစားမှု အလျက် ခံစားမှု အတွေ့အထိနဲ့စပ်၍ ခံစားမှု အသိနဲ့စပ်၍ ခံစားမှုလဲပဲ ၃ ပါးစီ ၃ ပါးစီ ပြားတဲ့အတွက် ဝေဒနာ ၁၈ ပါးဖြစ်တယ်။ "အမြင်အကြား၊ အနံ့ အားနှင့်၊ စားလျက်တွေ့ထိ၊ ကြံသိခြောက်ဖြာ၊ ချမ်းသာဆင်းရဲ၊ လျစ်လျူခွဲငြား၊ ဆယ့်ရှစ်ပါးတည်း"။

"သုံးပါးကာလ၊ ပွားထတုံသေး၊ ငါးဆယ့်လေးတည်း" ကာလ ၃ ပါးနဲ့ ပွားကြည့်လိုက်အုံးတဲ့၊ အဲဒီ ၁၈ ပါးကို အတိတ်က ခံစားခဲ့ပြီးတာ ၁၈၊ ဟို နောက်ရက် နောက်လ နောက်နှစ်တွေ အနာဂတ်မှာ ခံစားလတ္တံ့က ၁၈ မျိုးပဲ၊ ယခု ပစ္စုပ္ပန်သန္တတိ ပစ္စုပ္ပန်အနေနဲ့ ခံစားဆဲက ၁၈ မျိုးပဲတဲ့၊ ဒီထက်တော့ မပိုတော့ဘူး၊ ဒါကြောင့် ဆယ့်ရှစ် ၃ ပါးပေါင်းလို့ရှိရင် **"သုံးပါးကာလ၊ ပွားထထုံသေး၊ ငါးဆယ့်လေးတည်း"**

ဒီထက်ပဲ အကျယ်သိချင်သေးသပ ဆိုလို့ရှိရင် "တရေးသန္တာန်၊ နှစ်ပွားပြန်က၊ တရာ့ရှစ်ပင်၊ အကျယ်မြင်လော့" သန္တာန် ၂ ပါးနဲ့ ပွားကြည့်စမ်း၊ ကိုယ်ခံစားမှု ၁၅၄။ သူခံစားမှု ၅၄ ကို ပွားလိုက်လို့ရှိလျှင် ဖြင့် ဝေဒနာအပြား တရာ့ရှစ်ပဲ၊ ဒီထက်တော့ ဝေဒနာ အကျယ်မရတော့ဘူး၊ ဝေဒနာက္ခန္ဓာအကျယ်သိချင်ရင် ၁၀၈။ ဒီလိုဖြန့်ကြည့်၊ ဒါကို **"တရေးသန္တာန်၊ နှစ်ပွားပြန်က၊ တရာ့ရှစ်ပင်၊ အကျယ်မြင်လော့"**။

ဝေဒနာက္ခန္ဓာစခန်း ဒီတွင်သိမ်းပြီးတော့ **"ထို့ပြင်သညာ၊ ခန္ဓာမှာကား၊ လိမ်မာတတ်သိ၊ ခေါ်ကြဘိရှင့်"** သညာက္ခန္ဓာဆိုတာ ဘာလဲ။ သညာဆိုတာ အားလုံးပဲ စာယဲမှာ ဘုန်းကြီးတို့ အစဉ်သဖြင့် မှတ်လာတာကတော့ အမှတ်အသားပြု၍ အမှတ်ပြု၍ သိခြင်းကို သညာလို့ခေါ်တယ်။ ဆရာတော်ဘုရားကြီးက ဘယ်လိုရေးလိုက်သလဲဆိုတော့ "ထို့ပြင်သညာ၊ ခန္ဓာမှာကား၊ လိမ်မာတတ်သိ၊ ခေါ်ကြဘိရှင့်" လူ့လောကမှာ လိမ်မာသိကျွမ်း တတ်သိကျွမ်း သိပ်သိတဲ့ ကောင်ကလေးပဲလို့ ပြောယူရတဲ့ အဲဒီအသိမျိုး အတတ်မျိုး အလိမ်မာမျိုးတွေဟာ သညာတွေပါ၊ လောကမှာ သုံးနေတဲ့အလိမ်မာ လောကမှာသုံးနေတဲ့ အတတ်အသိဆိုတာ သညာတွေ၊ အရပ်ကတော့ အဲဒီလောက အသုံးအနှုန်းတွေလောကမှာ လိမ်မာပါတယ်ဆိုတဲ့၊ အသုံး တတ်သိဆိုတဲ့အသုံး ပညတ်နယ်မှာ လိမ်မာတယ် တတ်သိတယ်ဆိုတာဟာ သညာတဲ့နော်၊ သို့သော် အဲဒီ သညာကိုပင်လျှင် လူတွေက ပညာလို့ မှတ်နေတယ်တဲ့၊ ဒါကြောင့် ဆရာတော် ဘုရားကြီး ပြောလိုရင်းက ပညာ၏ အလိမ်မာ အပါးအနပ်နဲ့ သညာ၏ အလိမ်မာ အပါးအနပ်ကို ခွဲပြီး သိစေချင်လို့ လိမ်မာတယ် လိမ်မာတယ် ဆိုတိုင်းလဲပဲ ပညာမမှတ်နဲ့၊ သညာ အလိမ်မာလဲ ရှိတယ်၊ ဒါပြောချင်လို့ "ထို့ပြင် သညာ၊ ခန္ဓာမှာကား၊ လိမ်မာတတ်သိ၊ ခေါ်ကြဘိရှင့်၊ လူ၏ဘောင်မှာ၊ လူတကာနဲ့၊ လိမ်မာမြှူ၊ မှတ်စွဲဖြာဖြာ၊ ဤသညာပင်" လူ့ပြည်လောကမှာ သူတကာနည်းတူ စားရဖို့ လိမ်မာတယ်၊ သောက်ရဖို့ လိမ်မာတယ်၊ ဝတ်ရဖို့ လိမ်မာတယ်-ပါးနပ်တယ်။ အရောင်းအဝယ် ပါးနပ်တယ်-လိမ်မာတယ်။ အဲဒါ

တွေဟာ သညာတွေချည်းပဲတဲ့၊ ဆရာတော်ဘုရားကြီးက ဒါတွေ ပညာ မဟုတ်ဘူး၊ **"လူ၏ဘောင်မှာ၊ လူတကာနဲ့၊ လိမ်မာမြဲမှု၊ မှတ်ခွဲဖြာဖြာ၊ ဤသညာပင်၊ နတ်မှာ နတ်လျောက်၊ လိမ်မာမြောက်၏၊ အောက် အပါယ်သား၊ ကျွဲ နွားမြင်းဆင်၊ မြင်မြင်သမျှ၊ အနန္တလည်း၊ ဘာဝ ဘာဝ၊ သိတတ်ကြ၏"** အောက်ပြည် အောက်အပါယ်ဘုံသား ဖြစ်ကြ တဲ့ ကျွဲတွေ နွားတွေ မြင်းတွေ ဆင်တွေ အဲဒီ မြင်မြင်သမျှ အနန္တတိရစ္ဆာန် သတ္တဝါတွေလဲပဲ သူတို့ဘာသာ ဘာဝအလျောက် အလျောက် သိတတ် တတ်ကြပါတယ်တဲ့၊ သူတို့ရဲ့အသိမျိုးဟာ သညာသိ၊ အင်မတန်သိတယ် နော်၊ မြင်းတွေ ဆင်တွေ အင်မတန်ပါးကြ၊ ငါ့မြင်းဟာ သိပ်ပါးတာ ငါ့မြင်းဟာ ငါ့ဆင်ဟာ သိပ်လိမ်မာတယ်၊ သိပ်သိတယ်၊ သိပ်ပါးတယ် လို့ ပြောယူရအောင် သူတို့ အလျောက်အလျောက် သိတတ်ကြတာ "ဘာဝဘာဝ၊ သိတတ်ကြ၏" အဲဒီအသိက သညာပါပဲတဲ့။

**"လောကအလုံး၊ ပြော်မဆုံးလျှင်၊ အသုံးတွင်စွာ၊ အလိမ်မာဟု၊ အခြာအချုပ်၊ ခေါ်သမုတ်၏"** လောကထဲမှာပေါ့လေ ညက်ကျယ်သမျှ သာ ဖြန့်ကြည့်လိုက်စမ်း၊ မျှော်လို့ကို မဆုံးနိုင်အောင် အင်မတန် အသုံး တွင်ကျယ်တဲ့ တရားပါပဲတဲ့။ အချုပ်အားဖြင့် ပြောလို့ရှိရင်ဖြင့် "အလိမ် မာဟု၊ အခြာအချုပ်။ ခေါ်သမုတ်၏" သူ့ကို အလိမ်မာလို့ လောကက ခေါ်ကြတယ်။

"မုဆိုးတံငါ၊ သူ့အရာ၌၊ လိမ်မာကျွမ်းကျင်၊ သညာပင်တည်း" မုဆိုးများ တံငါများ သူတို့ရဲ့ ပေပ်ငန်းစဉ်ပေါ်မှာ လိမ်မာကြတယ်၊ ကျွမ်းကျင်ကြတယ်။ အရပ်သား ရိုးရိုးလူက တောကဲဝင်သွားလို့ရှိရင် ဘာမှန်းမှ မသိဘူး။ မုဆိုးက တောထဲဝင်သွားလို့ရှိရင် ဤနေရာ၌ ကျား လာနေတယ်၊ ဘယ်နှစ်မိုင်လောက်ရောက်နေပြီ၊ ဘယ်နှစ်ဖာလုံလောက် ရောက်နေပြီ၊ ဘယ်နှစ်ခေါ်လောက်အတွင်းမှာ ကျားရှိတယ်။ ဒီနေရာက ကျားဖြတ်သွားတာဟာ အချိန်ဘယ်လောက်သာ ကြာသေးတယ်ဆိုတာ သူက အနံ့နဲ့လဲသိတယ်။ ပကတိ ရိုးရိုးလူက မသိဘူး။ ထို့အတူပဲ ရေ အလုပ်သမား တံငါများလဲပဲ ရေပွက်ဘာပြင်သာဖြင့် ဒီငါးအရွယ်အား ဖြင့် ဤမျှ ဤမျှ ကြီးတယ်။ အမျိုးအစားအားဖြင့် ဘာငါးမျိုးပဲ၊ အဲဒီလို

သူတို့နားလည်တယ်။ အရပ်သား သာမန်ကတော့ ရေပွက်တာမြင်ရင် ပွက်ရင်ပဲ ဒါငါးပဲသိလိုက်တယ်။ ဘာငါးရယ်၊ ငါးဇင်ရိုင်းတို့ ဘာတို့ နားမလည်ဘူးပေါ့နော်။ ပုဇွန်ဆိတ်ကယ် ဘာရယ် နားမလည်ဘူး၊ ရေပွက်တယ် ငါးပွက်တာပဲ ထင်လိုက်တာပဲ၊ ဘာငါးပွက်တာလို့လဲ သူ မပြောတတ်ဘူး။ အဲဒီတံငါများကျတော့ ဒါတွေနားလည်တယ်။ ဒါကို "မုဆိုးတံငါ၊ သူ့အရာဌ်၊ လိမ်မာကျွမ်းကျင်၊ သညာပင်တည်း"။ အဲဒီလို ကျွမ်းကျင်မှုတွေလဲပဲ သညာက္ခန္ဓာပဲတဲ့နော် **"မုဆိုးတံငါ၊ သူ့အရာဌ်၊ လိမ်မာကျွမ်းကျင်၊ သညာပင်တည်း၊ သို့စင်နည်းပြ၊ သိကုန်ကြလော့"**။ ဒါဟာ မှတ်နိုင်ရုံကလေး၊ နယဒဿနလို့ ခေါ်တယ်။ ဘုန်းကြီးများ စာထဲမတော့ နည်းအားဖြင့် သိကြောင်းမျှ ဖော်ပြလိုက်တာပါပဲတဲ့၊

"ရူပသညာ၊ စသည်ဖြာသား၊ သညာအပြား၊ အကျဉ်းအားဖြင့်၊ ခြောက်ပါးလာရှိ"။ အကျဉ်းချုပ်လိုက်မယ်ဆိုလို့ရှိရင် အဲဒီ အလိမ်မာ အပါးအနပ်လို့ ခေါ်တဲ့ သညာက္ခန္ဓာဟာဖြင့် ရူပါရုံနဲ့ ပတ်သက်၍ လိမ်မာမှု ပါးနပ်မှု၊ သဒ္ဒါရုံနဲ့ ပတ်သက်၍ လိမ်မာမှု ပါးနပ်မှု၊ ဂန္ဓာရုံ ရသာရုံ ဖောဋ္ဌဗ္ဗာရုံ ဓမ္မာရုံဆိုတဲ့ အာရုံ ၆-ပါးမှာပေါ့လေ ပါးနပ်မှု ၆-မျိုးရှိတယ်။ ဒါကို **"ရူပသညာ၊ စသည်ဖြာသား၊ သညာအပြား၊ အကျဉ်းအားဖြင့်၊ ခြောက်ပါးလာရှိ၊ ပွားပြန်ဘိမူ၊ မြေသိ ရေသိ၊ နေလသိက၊ စသည်သွယ်သွယ်၊ မဆုံးပွယ်သည်၊ အကျယ်သညာက္ခန္ဓာတည်း"** လို့ ခုနက ၆-မျိုးကနေပြီးတော့ ပွားပြီးသိလိုက်မယ်ဆိုလို့ရှိရင် လောက သိနေတဲ့ မြေကြီး မြေကြီးဟူ၍ သိတယ်၊ ရေဟူ၍ သိတယ်၊ နေဟူ၍ သိတယ်၊ လဟူ၍သိတယ်၊ တောတောင်ဟူ၍သိတယ်၊ သမုဒ္ဒရာဟူ၍သိတယ်၊ **အိမ်ကြီးတခုထဲမှာပင် ဇရပ်ကြီးတခုထဲမှာပင် တိုင်ဟူ၍ သိတယ်၊ ယက်မဟူ၍သိတယ်၊ ဆင့်ဟူ၍သိတယ်၊ ကျားဟူ၍သိတယ်၊ ဖားဟူ၍သိတယ်၊ နွားဟူ၍သိတယ်၊ ကျည်းနွေဟူ၍သိတယ်၊ တံခါးဘောင်ဟူ၍ သိတယ်၊ တံခါးရွက်ဟူ၍သိတယ်ဆိုတဲ့အိမ်တခုပေါ်မှာပင် ပျဉ်အစိတ်အပိုင်းတွေရှောက်ပြီးတော့ သိကြည့်စမ်း။ အဲဒီအသိတွေဟာ ပညာသ် တခုမှ မပါဘူးတဲ့။**

ဒါတွေဟာ သညာသိ။ ဒါကို "မြေသိ ရေသိ၊ နေလသိက၊ စသည်သွယ်သွယ်၊ မဆုံးဖွယ်သည်၊ အကျယ် သညာက္ခန္ဓာတည်း" လို့ ဒီမှာ ဝေဒနာက္ခန္ဓာနဲ့ သညာက္ခန္ဓာကိုလင်္ကာတပုဒ်ထဲနဲ့ ဆရာတော်ဘုရားကြီးက ငုံမိအောင် ရေးထားတယ်။

သင်္ခါရက္ခန္ဓာကျတော့ သင်္ခါရက္ခန္ဓာ အချုပ်ပြောမယ်ဆိုရင် ကာယကံမှု ဝစီကံမှု မနောကံမှု။ ဒီ ၃-ခုဟာ သင်္ခါရက္ခန္ဓာပဲတဲ့။ ဒါကို ဆရာတော်ဘုရားကြီးက **"ကာယဝစီ၊ မနောပြုသည်၊ သုံးလီကမ္မ၊ သင်္ခါရမှု"** လို့ သင်္ခါရက္ခန္ဓာဆိုတဲ့အထဲမှာ သင်္ခါရဆိုတာ တရားကိုယ်အချုပ် ကြည့်လိုက်မယ်ဆိုရင် ကာယကံမှုသည် ဝစီကံမှုသည် မနောကံမှုသည် အဲဒါတွေဟာ သင်္ခါရတွေပါပဲတဲ့။ တရားကိုယ်အားဖြင့် ပြားလို့ရှိရင် **"ဓမ္မထင်ရှား၊ ငါးဆယ်ပြား၏"**။

အဲဒီငါးဆယ့် သင်္ခါရစေမှာတော့ **"တွေ့ပြားဖဿ"** ဖဿဆိုတဲ့တရား၊ အာရုံကို တွေ့ထိမှုသဘော။ **"ဆော်ထစေတနာ"** အာရုံနဲ့ စိတ်စေတသိက်တို့နဲ့ တွဲဖက်နေအောင် နှိုးဆော်တိုက်တွန်း စေ့ဆော်ပေးတဲ့ တရားဖြင့် ဒါစေတနာပဲ။ **"ကေဂ္ဂါမှု၊ တည်ကြည်ဟူ၏"**။ လူ့စိတ်ဟာ မျောက်စိတ်ကဲ့သို့ အင်မတန်ပျံ့လွင့်နေတဲ့ ဒီစိတ်ကို ဒီအာရုံထဲမှာ ဒီစိတ္တက္ခဏကလေး ဒီတဝီထိစာကလေး တခြားရောက်မသွားအောင် တည်ကြည်အောင် လုပ်ပေးတာဖြင့် ဒါ ကေဂ္ဂဟာ စေတသိက်ပဲတဲ့ **"သက်မူဇီဝိ၊ မနသိကား၊ နှလုံးထားတည့်"**။ ဒီဖြစ်ပေါ်လာတဲ့ နာမ်တရားလေးတွေ ဥပါဒ်၊ ဋ္ဌီ၊ ဘင်-ဆိုတဲ့ သူတို့ရဲ့ အသက်ပြည့်နေနိုင်ဖို့ရန် သူတို့ရဲ့ အချိန်ပြည့် နေနိုင်ဖို့ရန် စောင့်ရှောက်ပေးတဲ့ တရားဟာဖြင့် ဇီဝိတပဲတဲ့၊ ဇီဝိတစေတသိက်ပဲတဲ့။ **"မနသိကား၊ နှလုံးထားတည့်"**။မနသိကာရဆိုတာ အာရုံကို စိတ်၌ ယူပေး နှလုံး၌ ထားပေးတယ်ဆိုတာ အာရုံကို စိတ်၌သလာပြီး ထားပေးသကဲ့သို့ ဖြစ်တဲ့သဘော။ ဒါကို နှလုံးသွင်းတယ်။ နှလုံးထဲကို အာရုံကို သွင်းပေးတဲ့သဘော။ ဒါ မနသိကာရပဲ။ အဲဒါ "တွေ့ပြားဖဿ၊

ဆော်ထစေတနာ၊ ကေဂ္ဂါမူ၊တည်ကြည်ဟူ၏" "သက်မူဇီဝိ၊ မနသိကား၊ နှလုံးထားတည့်၊ ငါးပါးဓမ္မ၊ စိတ်တိုင်းရ၏" ဒီငါးပါးဖြင့် စိတ်တိုင်း စိတ်တိုင်းမှာ သူတို့ယှဉ်ကြတယ်။ ဆိုခဲ့ပြီးတဲ့ ဖဿ ဆိုခဲ့ပြီးတဲ့ ဝေဒနာနဲ့ သညာတို့လဲ စိတ်တိုင်း စိတ်တိုင်းမှာ ပါတယ်။ ဒါကြောင့် ဝေဒနာ သညာရယ် ယခု ငါးပါးရယ်ပေါင်းရင် ဘုန်းကြီးတို့ သင်္ဂြိုဟ်စကားက သဗ္ဗစိတ္တ သာဓာရဏ စေတသိက်ခုနစ်ပါးလို့ ဒီလိုနာမည် သုံးရမယ် နော်၊ ခပ်သိမ်းသော စိတ်တို့နှင့် ဆက်ဆံတယ်၊ ယှဉ်တဲ့ကြတယ်။ ယခု ဒီမှာတော့ သင်္ခါရက္ခန္ဓာထဲက ငါးပါးမို့လို့ **"ငါးပါးဓမ္မ၊ စိတ်တိုင်း ရ၏"**။

ဟိုဘက် ပကိဏ်း စေတသိက် ၆-ပါးကိုတော့ **"တက္က ကြံခြင်း"**။ ထွေထွေလာလာ ကြံစည်ခြင်းကို ဝိတက်စေတသိက်ခေါ်တယ်၊ **"ဖွဲ့ရစ် ခြင်းမှာ၊ ဝိစာရမှတ်"**။ ထိုထိုအာရုံ၌ တရစ်ဝဲဝဲဖြစ်ပွား၍ နေခြင်းဟာ ဖြင့် ဝိစာရပဲ။ **"ဆုံးဖြတ်ဓိမောက္ခ"**။ မှန်မှန်မှားမှား ကဘက်သတ် ဆုံး ဖြတ်ချက် ချလိုက်တာဖြင့် ဒါအဓိမောက္ခပဲ။ **"ဝီရိယနှင့်၊ ဆန္ဒပီတိ၊ထင် ရှားဘိ၏"**။ ဝီရိယစေတသိက်ရယ် ဆန္ဒစေတသိက်ရယ် ပီတိစေတသိက် ရယ် ဒီစေတသိက် ၃ ပါးဟာ အများအရပ်ထဲမှာကို အင်မတန် ဝီရိယရှိ တဲ့လူ အင်မတန် ဆန္ဒကောင်းတဲ့လူ အံမယ်သူဟာ ပီတိဖြစ်နေလိုက်တာ နဲ့ ပြောဆိုနေကြ၍ အင်မတန်ထင်ရှားတဲ့ တရားတွေပါ။ ဒါကို ဘုရား ဟောဘုရားကြီးက "ဝီရိယနှင့်၊ ဆန္ဒပီတိ၊ ထင်ရှားဘိ၏"၊ အဲဒီ ယခု ပြောခဲ့တဲ့ ၆ မျိုးပေါ့နော်။ ဝိတက် ဝိစာရ အဓိမောက္ခ ဝီရိယ ပီတိ ဆန္ဒ ကို ပကိဏ်းစေတသိက် ၆ ပါးလို့ခေါ်တယ်။ သင်္ခါရက္ခန္ဓာ ၅၀ ထဲ အပေါ်။

**"မသိမလင်း၊ မထိုးထွင်းချက်၊ မောဟနက်တည့်"** ဒုက္ခကို ဒုက္ခမှန်း မသိ။ ဒုက္ခရဲ့အကြောင်းဖြစ်တဲ့ သမုဒယကို ဒုက္ခရဲ့အကြောင်းပဲလို့မသိ။ ဒုက္ခရဲ့ချုပ်ရာ နိဗ္ဗာန်ကို နိဗ္ဗာန်ပဲလို့မသိ။ ဒုက္ခချုပ်ရာ နိဗ္ဗာန်ရောက် ကြောင်း ကောင်းမြတ်တဲ့ မဂ္ဂင်ရှစ်ပါးကို မဂ္ဂသစ္စာပဲလို့ မသိတဲ့ မသုံး ယွင်းတဲ့ မလင်းတဲ့ အမိုက်မှောင်မာတ်ဖြင့် ဒါ မောဟပဲတဲ့၊

**"ရှက်ကြောက်မရှိ၊ အဟိရိက၊ နောတ္တပ္ပမည်"**။ ဒုစရိုက်မှုတို့မှ မရှက်တတ်တဲ့ သဘော မကြောက်တတ်တဲ့ သဘော ဟာဖြင့် အဟိရိက အနောတ္တပ္ပလို့ ခေါ်တယ်။ **"မတည်ကြည်က၊ ဥဒ္ဓစ္စမှု"** ထိုထို အာရုံ၌ အာရုံတခုထဲမှာ ပီတိတွေ ထပ်တလဲလဲ ဝီထိအစဉ် ထပ်တလဲလဲကျပြီးတော့ မနေနိုင်အောင် ပျံ့လွင့်နေမှု သဘောကတော့ ဥဒ္ဓစ္စတဲ့၊ **"လိုချင်လောဘ"**။ လိုချင်တာ လောဘ စေတသိက်ပဲ။ **"မာန ထောင်လွှား"** ထောင်လွှားမှု သဘောဟာဖြင့် မာနစေတသိက်ပဲ **"မြင်မှား ဒိဋ္ဌိ"** တဲ့။ အမြင်မှားမှု သဘောဟာဖြင့် ဒိဋ္ဌိစေတသိက်ပဲ။ **"ကြမ်းဘိဒေါသ"** တဲ့။ အာရုံနဲ့ တွေ့လို့ရှိရင် မတွေ့တာနဲ့ တွေ့လို့ရှိရင် စိတ်ကြမ်း ကိုယ်ကြမ်း ဖြစ်လာတဲ့ အဲဒီကြမ်းလာတဲ့ သဘောဟာဖြင့် ဒေါသတဲ့။ **"မနွေ့ရဝန်တို"**။ ဝန်တို တာဟာ မစ္ဆရိယ စေတသိက်ပဲ၊ **"မနာလိုကုက္ကုစ္စ"**။ သူတပါး စည်းစိမ် ချမ်းသာကို မနာလို မကျေနပ်တာဖြင့် ကုက္ကုစ္စ စေတသိက်ပဲတဲ့။ ဒါကို "မနွေ့ရဝန်တို၊ မနာလိုကုက္ကုစ္စ"။ **"တဖြဲကုက္ကုစ္စ၊ နောင်တ ပူပင်"** တဲ့။ သုစရိုက်မှု မပြုလိုက်မိတဲ့ အတွက် ဒုစရိုက်မှုတွေကို ပြုမှားမိလိုက်တဲ့ အတွက် နောက်တချိန်မှာ ပူပန်နေမှု သဘောဖြင့် ဒါ ကုက္ကုစ္စပဲတဲ့။ **"ပျှင်မကြည်၊ ထိုင်းမှိုင်း သည်မှာ၊ နှစ်မည် ထိမိဒ္ဓ"**။ စိတ်လဲထိုင်းမှိုင်း၊ စေတသိက်လဲထိုင်းမှိုင်းတာ ဒါတွေကို ထိနမိဒ္ဓလို့ ခေါ်တယ်။ **"စိတ်ထဲမှိုဟ၊ နှစ်ခွနေဘိ၊ ဝိစိကိစ္ဆာ"** တဲ့။ စိတ်ထဲမှာ သို့လော သို့လော တွေးတောချီတုံချတုံ ဖြစ်နေမှု ဝိစိကိစ္ဆာစေတသိက်။ အဲဒီ ၁၄ မျိုးကတော့ အကုသိုလ် စေတသိက်တွေပါပဲ။

"**သဒ္ဓါကြည်လင်**"။ သဒ္ဓါစေတသိက်၊ ဘုရားအစရှိသော အာရုံ၌ စိတ်ကြည်ကြည်လင်လင် ဖြစ်နေတာဖြင့် ဒါ သဒ္ဓါစေတသိက်ပဲ **"မမေ့သတိ"** တဲ့။ အာရုံကို မမေ့ပျောက်မှု သတိစေတသိက် တမျိုးတဲ့၊ **"ရှက်ကြောက်ဘိမှာ၊ ဟိရိဩတ္တပ်"** တဲ့။ ဒုစရိုက်မှုမှ ရှက်ခြင်းက ဟိရိစေတသိက်၊ ဒုစရိုက်မှုမှ ကြောက်ခြင်း လန့်ခြင်းက ဩတ္တပ္ပ စေတသိက်ပဲ တဲ့။ "**မကပ်မငြိ၊ မကြမ်းဘိနှင့်၊ အသိတရား၊ ဟိတ်သုံးပါး ဟု**"။ ထိုထို အာရုံတို့၌ မကပ်မငြိ မတွယ်တာတာက အလောဘ စေတသိက်၊ ထိုထို အာရုံတို့အပေါ်မှာ မကြမ်းတမ်းတာက အဒေါသ စေတသိက်။ အသိ

တရား အမောဟစေတသိက်၊ ဒီသုံးပါးကို ဟိတ်သုံးပါးလို့လဲခေါ်တယ် တဲ့၊ ဒါကို "အသိတရား၊ ဟိတ်သုံးပါးဟူ" "**လျစ်လျူနေလတ်၊ တတြ မဇ္ဈတ္တတာ**"။ အာရုံကိုတွေ့တဲ့အခါ ဣဋ္ဌအာရုံ အနိဋ္ဌအာရုံနဲ့ တွေ့ဆုံတဲ့အခါ ဣဋ္ဌအာရုံရယ်လို့လဲပဲ ချစ်ခြင်း၊ အနိဋ္ဌအာရုံရယ်လို့လဲပဲ မုန်းခြင်းမရှိပဲနဲ့ လျစ်လျူနေတတ်တဲ့ သဘောဖြင့် တတြမဇ္ဈတ္တတာပဲတဲ့၊ အဲဒီတတြမဇ္ဈတ္တတာတို့ မပါတဲ့အတွက် လောဘမူတို့ ဒေါသမူတို့အဲဒီ စိတ်တွေဖြစ်တဲ့အခါကျပြီဆိုလို့ရှိရင် ချစ်ခြင်း၊ မုန်းခြင်းဆိုတာ ပေါ်လာ တယ်။ "လျစ်လျူနေလတ်၊ တတြမဇ္ဈတ္တတာ"၊

"**နှစ်ဖြာပဿဒ္ဓိ၊ ငြိမ်းဘိကိုယ်စိတ်**"။ ကိုယ်၏ငြိမ်းချမ်းမှု စိတ်၏ငြိမ်း ချမ်းမှု ကာယပဿဒ္ဓိ စိတ္တပဿဒ္ဓိလို့နှစ်မျိုးရှိတယ်တဲ့၊ "**ပေါ့ရိပ်လဟု**"တဲ့။ ကိုယ်၏ပေါ့ပါးမှု စိတ်၏ ပေါ့ပါးမှု၊ ကာယလဟုတာ၊ စိတ္တလဟုတာလို့ လဟုတာကနှစ်မျိုးရှိတယ်တဲ့၊ "**မုဒုနူးညံ့**"။ ကိုယ်၏နူးညံ့မှု၊စိတ်၏ နူးညံ့ မှုလို့ ကာယမုဒုတာ စိတ္တမုဒုတာ စေတသိက်နှစ်မျိုးရှိတယ်တဲ့။"**ကျမ်းခံ့ ကမ္မည်**" တဲ့။ ကိုယ်၏ကျမ်းခံ့မှု စိတ်၏ကျမ်းခံ့မှု ဆိုတဲ့ ကာယကမ္မညတာ **စိတ္တကမ္မညတာ**။ ကျမ်းခံ့ဆိုတာ ဘာလဲဆိုတော့ ထိုထိုအမှုကို ပြုလုပ်စွမ်း နိုင်တယ်၊**စိတ်ကလဲ**ပြုလုပ်စွမ်းနိုင်တယ်၊ စိတ္တကမ္မညတာ။ စေတသိက်တွေ ကလဲပဲ လိုက်ပါပြီးပြုလုပ်စွမ်းနိုင်တယ်၊ ဒါ ကာယကမ္မညတာ။ ဒီကာယ, **စိတ္တကတော့** ကာယအရ စေတသိက်ခန္ဓာသုံးပါးကိုခေါ်တယ်၊ ကောင်းမှု ကုသိုလ်ကိစ္စမှာ ကိုယ်ခေါ်တဲ့ စေတသိက်သုံးပါးကလဲပဲအလုပ် လုပ်ဖို့ရန် **ခံ့ကျမ်းတယ်**။ စိတ်ဆိုတဲ့ ဝိညာဉ်ကလဲအလုပ်လုပ်ဖို့ရန် ခံ့ကျမ်းတယ်၊ ဒါကို ကာယကမ္မညတာ စိတ္တ ကမ္မညတာလို့ခေါ်တယ်၊"**ကျမ်းခံ့ကမ္မည်၊ ကျွမ်းကျင်ပါဂုဉ်**" ထိုထိုအမှု ကုသိုလ်မှုတို့၌ ကျွမ်းကျင်မှုဟာဖြင့် ဒါ ကာယပါဂုညတာ၊ စိတ္တပါဂုညတာပဲတဲ့။ "**ဖြောင့်တုံဥဇု**"တဲ့။ ထိုထိုကောင်းမှု ကုသိုလ်တို့၌ ကိုယ်၏ ဖြောင့်မတ်မှု စိတ်၏ဖြောင့်မတ်မှု၊ ကာယုဇုကတာ **စိတ္တုဇုကတာ**လို့ ဥဇုကတာကလဲ နှစ်ပါး။

"**နှုတ်ဒုကာဒု၊ ကြဉ်မှုသုံးဖြာ**" တဲ့၊ နှုတ်ဒုဆိုတာ ဝစီဒုစရိုက်မှရှောင် ကြဉ်တာ၊ ကာဒုဆိုတာ ကာယဒုစရိုက်မှ ရှောင်ကြဉ်တာ၊ အဲဒီ ဝစီ **ဒုစရိုက်မှ ရှောင်ကြဉ်တာ ကာယဒုစရိုက်မှ ရှောင်ကြဉ်တာ သုံးမျိုးရ**

အောင် လုပ်ကြည့်ရမယ်တဲ့။ "နှုတ်ဒုကာဒု၊ ကြဉ်သုံးဖြာ"ဆိုတာ ဝစီဒုစရိုက်မှ ရှောင်ကြဉ်တာကတမျိုး။ ကာယဒုစရိုက်မှ ရှောင်ကြဉ်တာကတမျိုး။ အသက်မွေးမှုဟူသောအကြောင်းကြောင့်ကာယ, ဝစီဒုစရိုက် ၂-မျိုးလုံးမှ ရှောင်ကြဉ်တာကတမျိုးလို့ သုံးမျိုးထားတယ်။ ရိုးရိုးတန်းတန်း ဝစီဒုစရိုက်မှရှောင်ကြဉ်တာကို သမ္မာဝါစာလို့ ခေါ်တယ်၊ ရိုးရိုး တန်းတန်း အသက်မွေးမှုကို မငဲ့ပဲနဲ့ကုသိုလ်ကိုရချင်လို့ ကာယဒုစရိုက်မှရှောင်ကြဉ်တာက သမ္မာကမ္မန္တ၊ အသက်မွေးမှုဟူသော အကြောင်းကြောင့်ပင် ကာယဒုစရိုက်, ဝစီဒုစရိုက်မပြုပဲ ရှောင်တာကတော့ သမ္မာအာဇီဝ။ ဒါကို "**ဝါစာကမ္မန္တ၊ အာဇီဝနှင့်**"။ **သတ္တအများ၊ သနားသမှု၊ ဝမ်းမြောက်မှုဟု၊ ကရုမုဒိ၊ ငါးဆယ်ရှိ၏**" သတ္တဝါများအပေါ်မှာ သနားမှုကရုဏာ၊ သတ္တဝါတို့ စီးပွားချမ်းသာနဲ့နေတာကို ဝမ်းမြောက်မှုခေါ်တဲ့ မုဒိတာ၊ ပေါင်းလိုက်လို့ရှိရင်ဖြင့် ငါးဆယ်ရှိသွားပြီတဲ့ "ကရုမုဒိ၊ ငါးဆယ်ရှိ၏" "**သုစရိတ၊ ဒုစရိတ၊ ဒါန, သီလ ဘာဝနာ၊ စသည်ဖြာသား၊ ဝေါဟာသွယ်သွယ်၊ မဆုံးဖွယ်သည်၊ အကျယ် သင်္ခါရက္ခန္ဓာတည်း**" ဝေါဟာရအားဖြင့် သုစရိုက် ၁၀-ပါး ဒုစရိုက် ၁၀-ပါး စသည်ဖြင့် သင်္ခါရက္ခန္ဓာနယ် အင်မတန် ကျယ်လှပါတယ်၊ နားလည်ပြီဘိုကြပါစို့။

ဝိညာဏက္ခန္ဓာ မေကြအုံးစို့။ ခန္ဓာဆိုတာက ၁၁-ပါးစုထားတာ၊ ဝိညာဏဆိုတာကဝိညာဏ်၊ဝိညာဏ် ၁၁ ပါးအစုကိုဝိညာဏက္ခန္ဓာခေါ်တယ်၊ ဆောစောကပြောတဲ့ "အစုငါးတန်၊ ငါးရပ်ခံဟည့်"အရဝိညာဏ်ဆိုတာ မသိသေးဘူး ဘုရားလို့ဆိုတော့ "**အာရုံယူဘိ၊ အသိသဘော၊ စိတ်မနောကို၊ ဝိညာဏ်ဆို၏**" ရူပါရုံကိုယူတာ သဒ္ဒါရုံကိုယူတာ ဂန္ဓာရုံ ရသာရုံ ဖောဋ္ဌဗ္ဗာရုံ ဓမ္မာရုံကိုယူတဲ့ အသိသဘော စိတ်မနော ဆိုတာ အဲဒါ ဝိညာဏ်ချည်းပဲတဲ့၊ "အာရုံယူဘိ၊ အသိသဘော၊ စိတ်မနောကို၊ ဝိညာဏ်ဆို၏"။

ထိုဝိညာဏ်ကား "မြင်ကြားနံလျက်၊ ထိသိချက်ဟု၊ ခြောက်ခုအကျဉ်း" အဲဒီ ဝိညာဏ်ဟာတဲ့ အကျဉ်းချုပ်ပြောမယ်ဆိုလျှင် မြင်တတ်တဲ့ စက္ခုဝိညာဏ် ကြားတတ်တဲ့ သောတဝိညာဏ် နံတတ်တဲ့ ဃာန

ဝိညာဏ် လျက်တတ်တဲ့ ဇိဝှာဝိညာဏ် တွေ့ထိတတ်တဲ့ ကာယဝိညာဏ် သိတတ်တဲ့ မနောဝိညာဏ်လို့ ၆-မျိုးပဲထား။

**"မြင်ကြားနံလျက်၊ ထိသိချက်ဟု၊ ခြောက်ခုအကျဉ်း၊ အကျယ်ခင်းက ကာမ, ရူပ၊ အရူပနှင့်၊ လောက, ဥတ္တရာ၊ စိတ်လေးဖြာတည်း"** အဲဒီ ခြောက်ခုနဲ့ အားမရသေးဘူးလို့ ဆိုလို့ရှိရင်ဖြင့် ကာမစိတ်၊ ရူပစိတ်၊ အရူပစိတ်၊ လောကုတ္တရာစိတ်ကယ်လို့ စိတ်လေးမျိုးထား။ အဲဒီစိတ်လေး မျိုး၊ကာမစိတ်က ဘယ်လောက်ရှိသတုံး၊ ငါးဆယ့်လေး၊ရူပစိတ်က ၁၅ အရူပစိတ် ၁၂-ပါး။ လောကုတ္တရာစိတ် အကျဉ်းရှစ်ခု အကျယ်လေး ဆယ်တဲ့နော်၊ အဲဒါကိုပဲ ဆရာတော်ဘုရားကြီးက လောဘမူစိတ် ရှစ်ပါး ရှစ်ခါတောင် ရေမတွက်သေးဘူး၊ **"ကာမဓောါ ရေး၊ ငါးဆယ့်လေးခု၊ သောဥယှဉ်ဒိဋ္ဌိ၊ ဒိဋ္ဌိယှဉ်,မယှဉ်၊ သင်္ခါရှိ,မရှိ၊ ရှစ်ပါးသိလေ့"** ဆိုပြီးမှ လောဘမူစိတ် ရှစ်ပါးကို အဲဒီလိုပဲ ရေးလိုက်တယ်။ "သောဥယှဉ်ဒိဋ္ဌိ၊ဒိဋ္ဌိ ယှဉ်,မယှဉ်၊ သင်္ခါရှိမရှိ၊ ရှစ်ပါးသိလေ့" ဘာဆိုလိုတာလဲဆိုတော့ လေး လေးနက်နက် စဉ်းစားမှ၊ ရှစ်ပါးသိချင်သလား သိချင်တယ်။ သိချင်တယ် ဆိုလို့ရှိရင် ကျောက်သင်ပုံးထဲမှာ သောမနဿသဟဂုတ်, သောမနဿ သဟဂုတ်,သောမနဿသဟဂုတ်, သောမနဿသဟဂုတ် ၄-ခုရေး၊ အဲဒီ အောက်ကဥပေက္ခာသဟဂုတ်, ဥပေက္ခာသဟဂုတ်, ဥပေက္ခာသဟဂုတ်, ဥပေက္ခာသဟဂုတ်လို့ လေးခုရေး၊ ရှစ်ပါးရှိ၊ ဒါဖြင့် သောမနဿသဟ ဂုဘ်က၄-ခု ဥပေက္ခာသဟဂုတ်က ၄-ခု,ဟုတ်တယ်၊ဒါဖြင့် သောမနဿ နဲ့ဥပေက္ခာတင်လား၊ သဘောကတော့ဖြင့် ဒီရှေ့ပိုင်းကတော့ဖြင့် တူတယ် လေ ၂-မျိုးပဲ။ အဲဒီလို သောဥယှဉ်ဒိဋ္ဌိ-ကွဲအောင် လုပ်ပေးပါအုံး၊ ဒီရှစ်ခု ကွဲအောင် လုပ်ပေးပါအုံးဆိုလို့ရှိရင် မကျေနပ်သေးဘူးဆိုလားဆိုတော့ "ဒိဋ္ဌိယှဉ်မယှဉ်"တဲ့နော်၊ဒိဋ္ဌိနဲ့ယှဉ်၊ဒိဋ္ဌိနဲမယှဉ်၊ခုနကတုံးက သောမနဿ သဟဂုတ်၊ သောမနဿနှင့်တကွဖြစ်, သောမနဿနှင့်တကွဖြစ်, သော မနဿနှင့်တကွဖြစ်, သောမနဿနှင့် တကွဖြစ်လို့ လေးခါဆိုမယ်၊ ယခု တခါ လာခဲ့၊ဒိဋ္ဌိနှင့်ယှဉ်, ဒိဋ္ဌိနှင့်ယှဉ်၊ဒိဋ္ဌိနှင့်မယှဉ်, ဒိဋ္ဌိနဲ့မယှဉ်၊ အောက် ကလဲ ဒီလိုပဲ ဒိဋ္ဌိနှင့်ယှဉ်၊ ဒိဋ္ဌိနဲ့ယှဉ်, ဒိဋ္ဌိနဲမယှဉ်, ဒိဋ္ဌိနဲမယှဉ်၊ နောက်က အမြီးကလေး အလယ်ပိုင်းနားက တပ်ပေးရတယ်၊ အဲဒီတော့ ဘယ်လို

ဖြစ်မလဲ၊ သောမနဿသဟဂုတ် ဒိဋ္ဌိနဲ့ယှဉ်၊ သောမနဿသဟဂုတ် ဒိဋ္ဌိနဲ့ယှဉ်၊ သောမနဿသဟဂုတ် ဒိဋ္ဌိနဲ့မယှဉ်၊ သောမနဿသဟဂုတ်ဒိဋ္ဌိနဲ့ မယှဉ်၊ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိနဲ့ယှဉ်နှစ်မျိုး၊ ဥပေက္ခာသဟဂုတ် ဒိဋ္ဌိနဲ့ မယှဉ်နှစ်မျိုးဖြစ်၊ အားလုံးကုန် လေးမျိုးသာ ရှိသေးတယ်၊ တူတာထပ်ရင် မထပ်နဲ့ အုံး၊ ခွဲပေးမယ်ပေါ့၊ ပြီးတော့မှ ဘာတပ်လိုက် "ဒိဋ္ဌိယှဉ်မယှဉ် သင်ရှိမရှိ၊ ရှစ်ပါးသိလော့" အဲဒီနောက်နားကနေပြီးတော့ သင်္ခါရရှိသောစိတ်, သင်္ခါရမရှိသောစိတ် ဆိုပြီးတော့ တလှဲ့စီသာ ရောက်တတ်သွားတဲ့၊ သွားလို့ရှိရင် ဘယ်လိုဖြစ်သတုံး၊ သောမနဿ ဝေဒနာနှင့် တကွဖြစ်၍ ဒိဋ္ဌိနှင့်ယှဉ်ပြီးလျှင် သင်္ခါရရှိသော စိတ်တပါး၊ သောမနဿ ဝေဒနာနှင့်တကွဖြစ်၍ ဒိဋ္ဌိနဲ့ယှဉ်ပြီးလျှင် သင်္ခါရမရှိသော စိတ်တပါး၊ သောမနဿဝေဒနာနှင့် တကွဖြစ်၍ ဒိဋ္ဌိနဲ့မယှဉ်ပဲ သင်္ခါရရှိသော စိတ်တပါး၊ သောမနဿဝေဒနာနှင့် တကွဖြစ်၍ ဒိဋ္ဌိနဲ့ မယှဉ်ပဲ သင်္ခါရမရှိတဲ့ စိတ်တပါး၊ သောမနဿဘက်က လေးမျိုး တခါထဲ ကွဲသွားတယ်နော်။ နောက်ဖျားကနေပြီး အဲဒီလိုပဲ ဥပေက္ခာမှာလဲပဲ ထို့အတူ အဲဒါကို ဆရာတော်ဘုရားကြီးက "သောဥယှဉ်ဒွိက်၊ ဒိဋ္ဌိယှဉ်မယှဉ်၊ သင်ရှိမရှိ။ ရှစ်ပါးသိလော့"။

**"ဒွိစတုရှစ်၊ လောဘမူဖြစ်၏"** တဲ့။ ဒွိ, စတုရှစ်ဆိုတာ ပထမတုံးကတော့ သောမနဿ သဟဂုတ်နဲ့ ဥပေက္ခာသဟဂုတ်တုံးက ၂-ပါး။ နောက် ဒိဋ္ဌိဂတသမ္ပယုတ်နဲ့ ဒိဋ္ဌိဂတဝိပ္ပယုတ် ပွားလိုက်တော့ ၄-ပါးဖြစ်တယ်၊ စတု။ အဲဒီတော့ အသင်္ခါရိက သသင်္ခါရိကဆိုတာနဲ့ ပေါင်းလိုက်တော့ ရှစ်ပါးဖြစ်တယ်၊ ဒါကို **"ဒွိစတုရှစ်၊ လောဘမူဖြစ်၏"**။

ဒေါသမူဒွေက ဘယ်သူတုံးဆိုတော့ ဒေါသမူဒွေမှာတော့ **"နှစ်ဒေါမူလ၊ ပဋိဃယှဉ်၊ သင်ရှိမရှိ"** ဒေါသမူစိတ် ၂-ပါးလဲဒါပဲ။ ဒေါသမူစိတ် ၂-ပါးဆိုတာ ဘာလဲဆိုတော့ ပဋိဃယှဉ်တဲ့၊ သင်ရှိမရှိတဲ့။ ဒါဘာလဲ၊ ပဋိဃနဲ့ယှဉ်၍ သင်္ခါရရှိသော စိတ်တပါး။ ပဋိဃနဲ့ယှဉ်၍ သင်္ခါရမရှိသော စိတ်တပါးလို့ ဒေါမနဿဝေဒနာနှင့် တကွဖြစ်ပြီးလျှင် ပဋိဃနဲ့ ယှဉ်၍ သင်္ခါရရှိသော စိတ်တပါး၊ ဒေါမနဿဝေဒနာနှင့် တကွဖြစ်ပြီး

လျှင် ပဋိဃနဲ့ယှဉ်၍ သင်္ခါရမရှိတဲ့ စိတ်တပါးလို့ အဲဒီလို ၂ ပါးသိတဲ့ "နှစ်ဒေါမူလ၊ ပဋိဃယှဉ်၊ သင်ရှိမရှိ"။

**"မောမူဒွိမှာ၊ ဝိစိဥဒ္ဓစ်၊ ဥယှဉ်လစ်သည်"**။ မောဟမူစိတ် ဆိုတာ ဝိစိကိစ္ဆာနှင့်ယှဉ်၍ ဥပေက္ခာဝေဒနာနှင့် တကွဖြစ်သောစိတ်၊ ဥဒ္ဓစ္စနှင့် ယှဉ်၍ ဥပေက္ခာ ဝေဒနာနှင့် တကွဖြစ်သော စိတ်လို့ ၂-မျိုးထား။ **"ဆယ့်နှစ်အကုသိုလ်"**တဲ့။ ပေါင်းလိုက်ရင် အကုသိုလ်စိတ် ၁၂-ပါးဖြစ်တယ်။

**"ထို့ပြင်အဟိတ်၊ စိတ်ဆယ့်ရှစ်ခု၊ စက္ခုသောတ၊ ဃာနဇိဝှာ၊ကာယဝိညာဏ်၊ သမ္ပဋိစ္ဆိ၊ နှစ်ခုစီတည့်"**။ စက္ခုဝိညာဏ်က ၂ ခု၊ သောတဝိညာဏ်က ၂-ခု၊ဃာနဝိညာဏ်က ၂-ခု၊ဇိဝှာဝိညာဏ်က ၂-ခု၊ ကာယဝိညာဏ်က ၂-ခု၊ သမ္ပဋိစ္ဆိုင်းက ၂-ခု။ **"သန္တီရဏ၊ သုံးခုရ၏"**သန္တီရဏကတော့ သုံးမျိုးရှိတယ်တဲ့နော်၊ အကုသလဝိပါက် သန္တီရဏကတမျိုး၊ ကုသလဝိပါက် သန္တီရဏကတော့ ၂-မျိုးလို့။ "ပေါင်း တဆယ့်ငါး၊ ဝိပါက်ပြားရှင့်"တဲ့၊ စက္ခုဝိညာဏ် ၂-မျိုးဆိုတာ အကုသိုလ်အကျိုးဖြစ်တဲ့ စက္ခုဝိညာဏ်တမျိုး၊ ကုသိုလ်၏အကျိုးဖြစ်တဲ့ စက္ခုဝိညာဏ်တမျိုး။ **အဲဒီလို** ၂-မျိုးစီ စက္ခုဝိညာဏ် ၂-မျိုး၊ သောတဝိညာဏ် ၂-မျိုး။ဃာနဝိညာဏ် ၂-မျိုး၊ ဇိဝှာဝိညာဏ် ၂-မျိုး၊ ကာယ ဝိညာဏ် ၂-မျိုး၊ သမ္ပဋိစ္ဆိုင်း ၂-မျိုး၊ သန္တီရဏ ၃-မျိုး ပေါင်းလိုက်လို့ရှိလျှင် အဟိတ်ဝိပါက်ဆယ့်ငါး၊ **"ပေါင်းတဆယ့်ငါး၊ ဝိပါက်ပြားရှင့်"**။

ရှေ့ကကောဆိုတော့ "ငါးပါးဒွာရာ၊ မနောဒွာဟု၊ အာဝဇ္ဇန်းဒွိ၊ ဟသိတုပ္ပာဒ်၊ သုံးရပ်ကြိယာ။ ဆယ့်ရှစ်ဖြာတည့်" ငါးပါးဒွာဆိုတာ ပဉ္စဒွာရ၊ မနောဒွာဟုဆိုဘာ မနောဒွာရ၊ အာဝဇ္ဇန်းဒွိ၊ ပဉ္စဒွာရ၊ မျက်စိ,နား,နှာ,လျှာ,ကိုယ်-ဆိုတဲ့ ငါးဒွါရ၌ ထင်လာတဲ့အာရုံကို ဆင်ခြင်တတ်တဲ့ အာဝဇ္ဇန်းစိတ်ကတမျိုး မနောဒွာရခေါ်တဲ့ စိတ်မှာထင်လာတဲ့ အာရုံကို ဆင်ခြင်တတ်တဲ့ မနောဒွာရာဝဇ္ဇန်း စိတ်ကတမျိုး။ ရဟန္တာသခင် အရှင်သူမြတ်တို့ရဲ့ ရယ်ရွှင်တော်မူကြတဲ့ ဟသိတုပ္ပာဒ်စိတ်ကတမျိုး။ ဒါကို **ငါးပါးဒွာရာ၊ မနောဒွာဟု၊ အာဝဇ္ဇန်းဒွိ၊ ဟသိတုပ္ပာဒ်၊ သုံးရပ်ကြိယာ၊ ဆယ့်ရှစ်ဖြာတည့်"**၊

**"ကာမာဝစရ၊ ကုသလစု၊ သောဥနှစ်တန်၊ ဉာဏ်ယှဉ်မယှဉ်၊ သင်ရှိမရှိ၊ ရှစ်ပါးသိလော့"**။ ကာမာဝစရ သောဘဏကို ပြောလို့ရှိရင် တဲ့ ခုနကလိုပဲ သောဥနှစ်တန်ဆိုတာ သောမနဿသဟဂုတ် ၄-ပါး အထက်အောက် တန်းရေး ဥပေက္ခာသဟဂုတ် ၄-ပါး အထက်အောက် တန်းရေး။ **"သောဥနှစ်တန်၊ ဉာဏ်ယှဉ်မယှဉ်"** အဲဒီမှာ ဉာဏ်ယှဉ်တာ ၂-တန်း။ ဉာဏ်မယှဉ်တာ ၂-တန်း။ ဉာဏ်ယှဉ် ၂-တန်း၊ ဉာဏ်မယှဉ် ၂-တန်း၊ ဒီလိုတန်းရေး၊ သင်ရှိမရှိ၊ နောက်ကတော့ တခုစီရေး။ သင်္ခါရရှိ၊ သင်္ခါရမရှိ၊ သင်္ခါရရှိ၊ သင်္ခါရမရှိလို့ ရေးလို့ရှိရင် ဉာဏ်ထဲ ဘယ်လိုထွက်လာမလဲလို့ဆိုတော့ သောမနဿဝေဒနာနှင့် တကွဖြစ်၍ ဉာဏ်နဲ့ယှဉ်ပြီးလျှင် သင်္ခါရရှိတဲ့စိတ်တပါး၊ သောမနဿ ဝေဒနာနှင့် တကွဖြစ်၍ ဉာဏ်နဲ့ယှဉ်ပြီးလျှင် သင်္ခါရမရှိတဲ့ စိတ်တပါး။ သောမနဿ ဝေဒနာနှင့် တကွဖြစ်၍ ဉာဏ်နဲ့မယှဉ်ပဲ သင်္ခါရရှိတဲ့စိတ်တပါး၊ သော မနဿဝေဒနာနှင့်တကွဖြစ်၍ ဉာဏ်နဲ့မယှဉ်ပဲ သင်္ခါရမရှိတဲ့ စိတ်တပါး လို့ သောမနဿ သဟဂုတ် ဆိုတဲ့ အပိုင်းက ၄-ပိုင်း၊ ဥပေက္ခာ ဝေဒနာနဲ့ ယှဉ်တဲ့အပိုင်းက ၄-ပိုင်းထွက်တယ်။ အဲဒီ ရှစ်ခုကို မဟာ ကုသိုလ်ရှစ်ပါး။ ကာမကုသိုလ် ရှစ်ပါးလို့လဲ ခေါ်တယ်၊ "ဉာဏ်ယှဉ်၊ မယှဉ်၊ သင်ရှိမရှိ၊ ရှစ်ပါးသိလော့" **"ဝိပါက်မဟာ၊ ကြိယာလည်း၊ ထို နည်းရှစ်စီ၊ သုံးလီပေါင်းထွေး၊ နှစ်ဆယ့်လေးတည်း"**။ မဟာဝိပါက် ခေါ်တဲ့ စိတ်များလဲပဲ ဒီအတိုင်း ရှစ်ပါးပဲ၊ မဟာကြိယာ ရှစ်ပါးခေါ်တဲ့ စိတ်များလဲပဲ ဒီအတိုင်း ရှစ်ပါးပဲ။ သုံးပါးပေါင်းလိုက်လို့ရှိရင် ရှစ်သုံးလီ နှစ်ဆယ့်လေး၊ ကာမာဝစရ သောဘဏစိတ် ၂၄-ဖြစ်တယ်။ ရှေးက ဆိုပြီးသော ၁၂-အကုသိုလ်၊ ၁၈-ပါးသော အဟိတ်စိတ်၊ ယခု ၂၄- နဲ့ပေါင်းလို့ရှိရင် **"ရှေးတဆယ့်နှစ်၊ တဆယ့်ရှစ်နှင့်၊ ပေါင်းလစ်တုံက၊ အကျယ်ရသည်၊ ကာမငါးဆယ့်၊ လေးလျှင်တည်း"** လို့ ကာမစိတ် အတွက် လင်္ကာတပိုဒ်ရေးတယ်။

ရူပါဝစရစိတ် အရူပါဝစရစိတ် လောကုတ္တရာစိတ်တို့လဲပဲ ကိုယ်မရ သေး မသိသေးတဲ့စိတ်ဆိုတော့ အင်မတန်ခက်တယ်လို့ အောက်မေ့ရ တယ်၊ ဆရာဘော်ဘုရားကြီး ရေးလိုက်တော့ အင်မတန်ရှင်း၊ **"ဈာန်စိတ်**

**ရူပ၊ ဆယ်ငါးမျှတည့်။"** ရူပါဝစရစိတ်ဆိုတာ ၁၅-ပါးပဲ။ ဘာပါတုံး ဆို။ ဈာန်ငါးပါး ပထမ နားလည်စမ်းတဲ့၊ ပထမဈာန်၊ ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်၊ ပဉ္စမဈာန်လို့ ဈာန်ငါးပါး နားလည်တဲ့။ ဒါကို ပထမဈာန်, ဒုတိယဈာန်, တတိယဈာန်, စတုတ္ထဈာန်, ပဉ္စမ ဈာန်။ ပထမဈာန်ဆိုတာဘာလဲ၊ နောက် အကျယ်ခွဲယူ၊ ပထမဆုံး ရတဲ့ ဈာန်ပထမပဲ။ နှစ်ခုမြောက်ရတဲ့ဈာန်ဒုတိယဈာန်။ သုံးခုမြောက်ရတဲ့ဈာန် တတိယဈာန်ပဲ၊ လေးခုမြောက်ရတဲ့ဈာန် စတုတ္ထဈာန်ပဲ၊ ငါးခုမြောက် ရတဲ့ဈာန် ပဉ္စမဈာန်ပဲ၊ ရူပဈာန်ကတော့ ၅ ဆင့်ဆို ကုန်တာပဲတဲ့။ အဲဒီ လို ဈာန်ငါးပါးရှိလို့ **"ငါးတန်အပြား၊ ဈာန်ငါးပါးနှင့်၊ ယှဉ်ငြားအလို ကုသိုလ်စိတ်ငါး"**။ ပထမဈာန်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်ကတမျိုး၊ ဒုတိယ တတိယ စတုတ္ထ ပဉ္စမဈာန်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်ကတမျိုး၊ ဒုတိယ တတိယ စတုတ္ထ ပဉ္စမဈာန်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်က တမျိုးစီဆိုတော့ ကုသိုလ်စိတ် ၅ ပါးရှိဘယ်။ အဲဒီကုသိုလ်စိတ်၅-ပါးရဲ့အကျိုးဝိပါက်စိတ် က ၅-ပါး။ ရဟန္တာပုဂ္ဂိုလ်များ သန္တာန်မှာဖြစ်တဲ့ ကြိယာစိတ်ကလဲ ၅-ပါးပဲတဲ့၊ ဒါကို **"ငါးတန်အပြား၊ ဈာန်ငါးပါးနှင့်၊ ယှဉ်ငြားအလို၊ ကုသိုလ်စိတ်ငါး၊ ဝိပါက်ငါးနှင့်၊ ငါးပါးကြိယာ၊ ဆယ့်ငါးဖြာကား၊ ဖြာဘွာရူပ၊ ဈာန်စိတ်ရဘည်း"**။ အဲဒါ ရူပဗြဟ္မာဘုံရတဲ့ ဈာန်စိတ် ၁၅-ပါး၊ ရူပါဝစရဈာန်စိတ် ၁၅-ပါးလို့ ခေါ်တယ်တဲ့။

အရူပါဝစရစိတ် ဆိုတာလဲ မရတော့ အာကိုကြိုးပဲ။ ဆရာတော်ကြီး ကတော့ "အာကာသာနဉ္စာယတနဈာန်"လို့ မှတ်ထားတဲ့၊ "ဝိညာ ဏဉ္စာယတနဈာန်၊ အာကိဉ္စညာယတနဈာန်၊ နေဝသညာ နာသညာယ တနဈာန်"လို့ အရူပဈာန် ၄-ပါးရှိဘယ်၊ အဲဒီလေးပါး ဘယ်လိုဟာလဲ ကိုယ်လုပ်ကြည့်၊ လုပ်ကြည့်လို့ အဲဒီရောက်တော့ သူ့ဘာသာ မေးနေမှာ မဟုတ်ဘူး၊ သိလိမ့်မယ်၊ အဲဒီ အရူပဈာန် ၄-ပါးနာမည်သာ မှတ်ထား အုံး။ ယခုအချိန်တော့ နာမည်ပဲသိမယ်၊ သဘာဝကတော့ သိမဖြစ်ဘူး တဲ့။ **အဲဒီဈာန် ၄-ပါးရရင် ဘယ့်နဲ့လုပ်မလဲဆိုတော့ "အာကာသာ နဉ္စာယတနဈာန်၊ ဝိညာဏဉ္စာယတနဈာန်၊ အာကိဉ္စညာယတန ဈာန်၊ နေဝသညာ နာသညာယတနဈာန်၊ လေးတန်အပြား၊ ဈာန်လေးပါး**

နှင့်၊ယှဉ်ငြားအလို၊ ကုသိုလ်စိတ်လေး၊ ဝိပါက်လေးနှင့်၊ လေးပါးကြိယာ၊ ဆယ့်နှစ်ဖြာကား၊ပြဟ္မာအရူပ၊ စျာန်စိတ်ရတည်း”၊ အဲဒီ အာကာသာနဉ္စာယတနစျာန်နဲ့ ယှဉ်တဲ့ကုသိုလ်စိတ်တပါး၊ ဝိပါက်စိတ်တပါး၊ ကြိယာစိတ်တပါးလို့ ၃-ပါး ၃-ပါးစီပွား၊ပေါင်းလိုက်ရင် ကုသိုလ်စိတ် ၄ပါးရတယ်။ အရူပစျာန်လေးပါး။ ကုသိုလ်စိတ် ၄-ပါး၊ ဝိပါက်စိတ် ၄-ပါး။ ကြိယာစိတ် ၄ ပါးဆိုရင် အဲဒါအရူပါဝစရစိတ် ၁၂-ပါးပဲတဲ့၊ အရူပပြဟ္မာကြီးတွေ အရများတဲ့စိတ်၊ ဒါကို “အာကာသာနဉ္စာယတနစျာန်၊ ဝိညာဏဉ္စာယတနစျာန်၊ အာကိဉ္စညာယတနစျာန်၊ နေဝသညာ နာသညာယတနစျာန်။ လေးတန်အပြား၊ စျာန်လေးပါးနှင့်၊ ယှဉ်ငြားအလို၊ ကုသိုလ်စိတ်လေး၊ ဝိပါက်လေးနှင့်၊ လေးပါးကြိယာ၊ဆယ့်နှစ်ဖြာကား၊ **‘ပြဟ္မာအရူပ၊စျာန်စိတ်ရတည်း’** ”။

လောကုတ္တရာကတော့ကောဆိုတော့ “သောတာပတ္တိမဂ္ဂ၊ သကဒါဂါမိမဂ္ဂ၊ အနာဂါမိမဂ္ဂ၊ အရဟတ္တမဂ္ဂ”လို့ အရိယာပုဂ္ဂိုလ်များ ပထမအကြိမ်ရတဲ့ မဂ်ကို သောတာပတ္တိမဂ်လို့ခေါ်တယ်။ ဒုတိယဆင့် ရတဲ့မဂ်ကို သကဒါဂါမိမဂ္ဂလို့ ခေါ်တယ်။ တတိယဆင့်ရတဲ့မဂ်ကို အနာဂါမိမဂ္ဂ၊ စတုတ္ထလေးကြိမ်မြောက်ရတဲ့မဂ်ကို အရဟတ္တမဂ္ဂလို့ ခေါ်တယ်။ အဲဒါလောကုတ္တရာမဂ်လေးပါးပါပဲတဲ့။ ဒါကို “သောတာပတ္တိမဂ္ဂ၊ သကဒါဂါမိမဂ္ဂ၊ အနာဂါမိမဂ္ဂ၊ အရဟတ္တမဂ္ဂ၊ အဋ္ဌင်္ဂိက၊ မဂ္ဂအပြား၊ မဂ်လေးပါးနှင့်။ ယှဉ်ငြားအလို၊ ကုသိုလ်စိတ်လေး၊ ဖိုလ်စိတ်လေးဟု၊ ရှစ်ခုလောကုတ်၊ အကျဉ်းချုပ်၏”။ သောတာပတ္တိမဂ်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်တပါး၊ သကဒါဂါမိ မဂ်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်တပါး၊ အနာဂါမိမဂ်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်တပါး၊ အရဟတ္တမဂ်နဲ့ယှဉ်တဲ့ ကုသိုလ်စိတ်တပါး မဂ်စိတ် လေးပါး ရတယ်။ သောတာပတ္တိမဂ်စိတ်ရဲ့ အကျိုးဖြစ်တဲ့ သောတာပတ္တိ ဖိုလ်စိတ်တပါး။ဖလဆိုတဲ့ ပါဠိမှ ဖိုလ်ဆိုတဲ့ မြန်မာစကားဖြစ်တယ်။ သကဒါဂါမိ ဖိုလ်စိတ် အနာဂါမိ ဖိုလ်စိတ် အရဟတ္တ မဂ်၏ အကျိုးဖြစ်တဲ့ အရဟတ္တဖိုလ်စိတ်လို့ ဖိုလ်စိတ် လေးခု၊ ပေါင်းလိုက်လို့ရှိရင် **“ရှစ်ခုလောကုတ်၊ အကျဉ်းချုပ်၏”** လောကုတ္တရာစိတ် အကျဉ်းရှစ်ခုဖြစ်ပါတယ်တဲ့။

**"လောကုတ်အကျယ်၊ လေးဆယ်အရ၊ သရုပ်ပြမှု"** လောကုတ္တရာစိတ်အကျယ် လေးဆယ် ပြောစမ်းပါဆိုလို့ရှိရင် သောတာပတ္တိမဂ်ကိုက ငါးဆင့် စိတ် ၅ ပါးပြားအောင် လုပ်ပေးရမယ်၊ ဘယ့်နဲ့ပြားမလဲ။ ပထမဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ ပထမဈာန်နဲ့ယှဉ်တဲ့ သောတာပတ္တိ မဂ်စိတ်ကတပါး၊ ဒုတိယဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ တတိယဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ စတုတ္ထဈာန် သောတာပတ္တိ မဂ်စိတ်တပါး၊ ပဥ္စမဈာန် သောတာပတ္တိ မဂ်စိတ်တပါးဟူ၍ သောတာပတ္တိ မဂ်စိတ်အပြား ငါးပါး၊ ဘာလို့ ဒီလိုပြားရသလဲ။ သောတာပတ္တိမဂ်ကို ရကြတာ မတူကြဘူးနော်၊ ပုဂ္ဂိုလ် ၅ ပါး ထားတယ်၊ တဦးသော ပုဂ္ဂိုလ်မှာ သောတာပတ္တိမဂ်ကိုရတာ ဝိတက် ဝိစာရ ပီတိ သုခ ဧကဂ္ဂတာ ဈာန်အင်္ဂါ ၅ ပါးရှိပြီးတော့ ရတယ်၊ အဲဒီသူရဲ့ သောတာပတ္တိ မဂ်စိတ်ကိုတော့ ပထမဈာန် သောတာပတ္တိ မဂ်စိတ်လို့ ခေါ်ရတယ်။ ဟိုတဦး ရပုံက အဲဒီထဲ ဝိတက်မပါပဲနဲ့ ဈာန်အင်္ဂါ ၄ ပါးနှင့် ရတဲ့ပုဂ္ဂိုလ်ရဲ့ သောတာပတ္တိ မဂ်စိတ်ကိုတော့ ဒုတိယဈာန် သောတာပတ္တိ မဂ်စိတ်လို့ ခေါ်ရတယ်။ ဟိုတတိယ ပုဂ္ဂိုလ်ကျတော့ ဝိတက်ရော ဝိစာရရော မပါပဲနဲ့ သောတာပတ္တိမဂ် ရတယ်။ အဲဒီပုဂ္ဂိုလ်ရဲ့ သောတာပတ္တိ မဂ်စိတ်ကိုတော့ တတိယဈာန် သောတာပတ္တိ မဂ်စိတ်လို့ ခေါ်တယ်။ ဟိုစတုတ္ထမြောက် ပုဂ္ဂိုလ်ရဲ့ သောတာပတ္တိ မဂ်စိတ်မှာတော့ သုခနဲ့ ဧကဂ္ဂတာလို့ ဈာန်အင်္ဂါ ၂ ပါးပဲပါတယ်၊ ဒါဖြင့် သူရဲ့ သောတာပတ္တိ မဂ်စိတ်ဟာဖြင့် စတုတ္ထဈာန် သောတာပတ္တိ မဂ်စိတ်။ ဟိုပုဂ္ဂိုလ်တဦးကျတော့ သုခတောင် မဟုတ်ပြန်ဘူး၊ သုခနေရာ ဥပေက္ခာနဲ့ ဧကဂ္ဂတာနဲ့ တွဲပြီးတော့ ဈာန်အင်္ဂါ ၂ ပါး ပါတဲ့ သောတာပတ္တိမဂ်စိတ်ကိုတော့ ပဥ္စမဈာန် သောတာပတ္တိမဂ်စိတ်လို့ ခေါ်ရတယ်။ အဲဒီလို သောတာပတ္တိ မဂ်စိတ်ကိုက ပုဂ္ဂိုလ် ၅ မျိုးအလိုက် ၅ မျိုးရှိတယ်၊ သောတာပတ္တိ မဂ်စိတ်အပြား ၅ ပါး။ **"ဈာန်နည်းအားဖြင့် ရှစ်ပါးအကုန်၊ ဈာန်ပွားတုံက၊ လေးဆယ်ရ၏"**၊ ပေါင်းလိုက်စမ်းပါတဲ့၊ **လောကုတ္တရာစိတ်၊ "တရာ့နှစ်ဆယ်၊ တပါးကယ်သည်၊ အကျယ်ဝိညာ အကျွန်ုပ်သည်း"** လို့ ဆိုပြီးတော့ ဖြန့်လိုက်မယ်ဆိုလို့ရှိရင် ကာမစိတ်

၅၄၊ ရူပစိတ် ၁၅၊ အရူပစိတ် ၁၂၊ လောကုတ္တရာစိတ် အကျယ် ၄၀ ဆိုတော့ "တရာ့နှစ်ဆယ်၊ တပါးကယ်သည်(ဆိုတာ ၁၂၁ ပါး)အကျယ် ဝိညာဏက္ခန္ဓာတည်း" လို့ ဒီမှာ သတ်လိုက်။ အဲဒီလို သတ်ပြီးနောက် ဆရာတော်ဘုရားကြီးက ကိုယ်တော်မြတ်ရဲ့ ဝေနေယျတွေကို ကိုယ်တော် မြတ်ရဲ့ တပည့်တွေကို အဲဒီ လင်္ကာရပလား၊ ရပြီဆိုရင် မောင်တို့ နား လည်လိမ့်မယ်၊ အကုသိုလ်စိတ် ၁၂ ပါး နားလည်ပြီ၊အဟိတ်စိတ် ၁၈ ပါး နားလည်ပြီ၊ အထက်ကလာတဲ့ ကာမသောဘဏစိတ် ရူပစိတ် အရူပစိတ် လောကုတ္တရာစိတ်ဆိုတဲ့ စိတ်ပေါင်းတွေက လေးစုရှိတယ်ဆိုတာ နား လည်ပြီ၊ အဲ နားလည်လို့ရှိရင် အကြမ်းပြင်းကလေး ဆရာတော်ဘုရား ကြီးက ယှဉ်ပုံကလေး ပြောချင်သေးတယ်၊ ပြောချင်တဲ့အတွက် လင်္ကာ တပုဒ် ရေးလိုက်သေးတယ်။

"သဗ္ဗစိတ္တသာဓာရဏ၊ သဗ္ဗာကုသလ သာဓာရဏ၊ သဗ္ဗသောဘဏ သာဓာရဏ"လို့ သာဓာရဏဆိုတဲ့ ပါဠိနဲ့ သုံးထိုက်တဲ့ စေတသိက် ၃ ခုရှိတယ်၊ **"ဆက်ဆံယှဉ်ဘက်၊ အနက်သာဓာရဏ၊ ထိုသုံးဝတွင်၊ မောဟစသည်၊ စေ့လေးမည်မှာ၊ သဗ္ဗာကုသလ၊ အမည်ရ၏"**၊ မောဟ အဟိရိက အနောတ္တပ္ပ ဥဒ္ဓစ္စဆိုတဲ့ စေတသိက် ၄ မျိုးဟာ သဗ္ဗာကုသလ သာဓာရဏ၊ အလုံးစုံသော အကုသိုလ်တို့နဲ့ ဆက်ဆံ၍ ယှဉ်တဲ့ စေတသိက် လေးမျိုးလို့ မှတ်ထား။ "အမောဟကြဉ်၊ ဆယ့်ကိုးလျှင်မူ၊ မှတ်ယူသဗ္ဗ၊ သောဘဏတည်း"။ ခုနကတုံးက စေတသိက်တွေထဲမှာလေ အမောဟကို ကြဉ်တဲ့ တဆယ့်လေးပါးသော စေတသိက်ကို သဗ္ဗ သောဘဏ သာဓာရဏ စေတသိက်လို့ ခေါ်တဲ့ **"အမောဟကြဉ်၊ ဆယ့်ကိုးလျှင်မူ၊ မှတ်ယူသဗ္ဗ၊ သောဘဏတည်း"**။

အဲဒီလိုရေးပြီးတဲ့နောက် "သဗ္ဗစိတ္တ၊ ပကိဏ်းဆကို၊ အညသမာန်း၊ ခေါ်ရိုးတမ်းတည်း" သဗ္ဗစိတ္တသာဓာရဏ စေတသိက် ၇-ပါးနဲ့ ပကိဏ်းစေတသိက် ၆-ပါးကို အညသမာန်းလို့ခေါ်တဲ့၊ ဘာဖြစ်လို့ တုံး၊ အည=တပါးနဲ့+သမာန=တူတယ်၊ ဘယ်လိုတူတုံး၊ **အဲဒီ စေ တသိက် ၁၃-ပါးဟာ အကုသိုလ်နဲ့ယှဉ်တဲ့အပါ အကုသိုလ်နဲ့ တူသွား တယ်၊သောဘဏနဲ့ ယှဉ်တဲ့အခါ သောဘဏနဲ့တူတယ်၊အသောဘဏ**

ခေါ်တဲ့ မကောင်းတဲ့စိတ် မတင့်တယ်တဲ့စိတ်နဲ့ယှဉ်ရင် မကောင်းတဲ့ မတင့်တယ်တဲ့ သဘောနဲ့ သူတို့ဖြစ်ကြတာပဲ။အဲဒါကြောင့်မို့လို့ သူဟာ ဟုတ်လား၊အညသမာန်းဆိုတာဟာ သူနဲ့ယှဉ်ဖော် ယှဉ်ဘက် တရား သဘောဘက် လိုက်ပြီးတော့ သွားတာ။ ဖြူစင်တဲ့စိတ်နဲ့ယှဉ်ရင် အဲဒီစေ တသိက်တွေလဲ ဖြူဖြူစင်စင်သဘောဖြစ်တာပဲ၊ ညစ်ညူးတဲ့ ညစ်နွမ်းတဲ့ အကုသိုလ်နဲ့ ယှဉ်ရင် သူတို့လဲ ညစ်ညစ်နွမ်းနွမ်း လိုက်ပြီးဖြစ်တာပဲ၊ ဒါ့ ကြောင့် သူတို့အပေါင်းအလိုက်ပဲ သွားသွားသဘောတူလို့ သူတို့ကို အညသမာန်းလို့ခေါ်တဲ့၊ ဒါကို **"သဗ္ဗစိတ္တ၊ ပကိဏ်းဆကို၊ အညသမာန်း ခေါ်ရိုးတမ်းတည်း"**။

**"သမာန်းအည၊ တေရသနှင့်၊ အကုသလ၊ ဓမ္မဆယ့်လေး၊ ပေါင်း ထွေးတုံပြန်၊ နှစ်ဆယ့်ခွန်ကား၊ ဝိညာဏ်ဆယ့်နှစ်၊အကုညစ်၌၊ ဖြစ်ပျက် တူကွ၊ ယှဉ်ကုန်ကြ၏"** အဲဒီ အညသမာန်း ၁၃-ခုရယ် အကုသိုလ် စေ တသိက် ၁၄-ပါးရယ် ပေါင်းရင် ၂၇-ရှိတယ်၊ အဲဒီ ၂၇ ဟာဖြင့်အကု သိုလ်စိတ် ၁၂-ပါးမှာ ဒါပဲယှဉ်တယ်၊ ဒီထက်များပြီး မယှဉ်ကြပါဘူး။

**"ဆန္ဒကြဉ်လစ်၊ အဉ်ဆယ့်နှစ်မူ၊ ဆယ့်ရှစ်အဟိတ်"**ဆန္ဒကြဉ်တဲ့အည သမာန်းစေတသိက် ၁၂-ပါးက အဟိတ်စိတ် ၁၈ ပါးမှာ ယှဉ် ဟယ်၊ တနည်း အဟိတ်စိတ် ၁၈ ပါးမှာ ယှဉ်တဲ့ စေတသိက်ကိုရှာရင် ဖြင့် ဆန္ဒကြဉ်သော အညသမာန်း စေတသိက် ၁၂ ပါးပဲ ရှာတော့တဲ့။ အဟိတ်စိတ် ၁၈ ပါး၌ စေတသိက်ဘယ့်လောက် ယှဉ်သတုံး ဆိုရင် အညသမာန်းစေတသိက် ၁၂ ပါးယှဉ်တယ်၊ ဒါပြောရမယ်။

**"တဖြာအည၊ တေရသနှင့်၊ သောဘဏအပြား၊ နှစ်ဆယ့်ငါးကား၊ ကြွင်းငြားကာမ၊ သောဘဏနှင့်၊ ရူပရူပါ၊ လောကုတ်မှာလျှင်၊ အကုန် ယှဉ်၏"** အညသမာန်း ၁၃၊ သောဘဏ ၂၅ ဆိုတဲ့ ဒီစေတသိတ် ၃၈ ဟာဖြင့် ကာမသောဘဏရယ် ရူပ အရူပ လောကုတ္တရာဆိုတဲ့ သော ဘဏစိတ်တွေ အကုန်လိုက်ပြီးယှဉ်ပါတယ်တဲ့၊ ဒါကို **"ကြွင်းငြားကာမ၊ သောဘဏနှင့်၊ ရူပရူပါ၊ လောကုတ်မှာလျှင်၊ အကုန်ယှဉ်၏"**။

ဒီထက်ကျယ်ကျယ် သိချင်သေးပါတယ် ဆိုလို့ရှိရင် **"ထိုတွင်ထွေလာ၊ ယထာရဟ၊ သင်္ဂဟမှာ၊ ကျမ်းဥ်လာပြီ"**။ထွေထွေလာလာ စိတ်တခုတခုနဲ့ ယှဉ်တဲ့စေတသိက်၊ တခုတခုကို ခွဲပြတာကတော့သင်္ဂြိုဟ်ကျမ်းမှာလာပါတယ်။ယခု ဒီအချိန်မှာ ဒါလောက်ကလေး သိပါအုံး၊ ပြောချင်တာက ဘာပြောချင်လို့တုံး ဆိုတော့ **"ပါယ်ရှာ လေးရပ်"** အောက်အပါယ် လေးဘုံရယ်တဲ့၊ **"လူနတ်ခုနစ်"** လူ့ဘုံရယ် နတ်ပြည် ၆ ထပ်ဆိုတဲ့ ကာမသုဂတိ ခုနစ်ဘုံ **"ဆယ့်တစ်ဌာန၊ ဘုံကာမနှင့်"** ကာမ ၁၁-ဘုံလို့ခေါ်တယ်။ အပါယ်လေးဘုံရယ် လူ့ဘုံရယ် နတ်ပြည် ၆-ထပ်ရယ်၊ အဲဒါကို ကာမ ၁၁-ဘုံလို့ ခေါ်တယ်၊ အဲဒီကာမ ၁၁-ဘုံရယ် "ရူပဗြဟ္မာ၊ ဆယ့်ငါးရွာဥ်၊ ခန္ဓာငါးဝ၊ အကုန်ရ၏" ကာမ ၁၁-ဘုံရယ် • အသညသတ် ကြဉ်တဲ့ ရူပဗြဟ္မာ ၁၅-ရွာ၊ ၁၅-ဘုံတောင်မပြောလိုက်ဘူး၊ ဆရာတော်ဘုရားကြီးက ရွာကြီးတွေ၊ အဲဒီ ၁၅ ရွာဥ် "ခန္ဓာငါးဝ၊ အကုန်ရ၏" ရှေးဆိုခဲ့ပြီးဘဲ့ ရူပက္ခန္ဓာ ဝေဒနာက္ခန္ဓာ သညာခန္ဓာ သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာလို့ ခန္ဓာငါးပါးစလုံး အကုန်ရတယ်၊ အဲဒါကြောင့် သူတို့ကို ပဉ္စဝေါကာရ ၂၆-ဘုံ၊ ပဉ္စ=ငါး+ဝေါကာရ=က ခန္ဓာ-ရတဲ့ ၂၆-ဘုံလို့ ခေါ်တယ်နော်၊ ဒါကို **"ရူပဗြဟ္မာ၊ ဆယ့်ငါးရွာဥ်၊ ခန္ဓာငါးဝ၊ အကုန်ရ၏"**။

**"အရူပဗြဟ္မာ၊ လေးဘုံမှာမူ၊ ခန္ဓာလေးအင်"** တဲ့။ အရူပဗြဟ္မာပြည်မှာတော့ ရုပ်မရှိဘူးဆိုတဲ့အတွက် ဝေဒနာက္ခန္ဓာ သညာက္ခန္ဓာ သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာဆိုတဲ့ နာမ်ခန္ဓာလေးပါးပဲရှိတယ်။ **"အသညသတ်၊ ဘုံတရပ်မှာ၊ ရုပ်ခန္ဓာပေ"**တဲ့၊ အသညသတ် ဗြဟ္မာပြည်မှာဖြင့် ရုပ်ခန္ဓာတမျိုးထဲပဲ ရှိတယ်တဲ့။

**"မြေ ရေ တော တောင်၊ ဘုံဆောင်ပြာသာဒ်၊ ဇရပ် ကျောင်းအိမ်၊ ကြိုးကြိမ်သစ်ဝါး၊ ဝတ်စားတန်ဆာ၊ ရတနာရွှေငွေ၊ သေပြီးအလောင်း၊ သက်မဲ့ပေါင်းမှာ၊ ရုပ်ခန္ဓာတည်း"** ရေတို့ မြေတို့ တောတို့ တောင်တို့ ဘုံဆောင်တို့ ပြာသာဒ်တို့ ဇရပ်တန်ဆောင်း ကျောင်းတို့ အိမ်တို့ သိမ်တို့ ကြိုးကြိမ်တို့ ကြိုးတို့ ကြိမ်တို့ သစ်တို့ ဝါးတို့ အဝတ်အစားတို့ ရတနာတွေ ရွှေတွေ ငွေတွေ နောက်ဆုံးလေ သေပြီးတဲ့ သတ္တဝါရဲ့အလောင်း

ဒီတရားစုမှာ ရုပ်ခန္ဓာတခုထဲပဲ ရှိပါတယ်တဲ့၊ ဒါကို "သေပြီးအလောင်း၊ သက်မဲ့ပေါင်းမှာ ရုပ်ခန္ဓာတည်း"။

**"ပမာရေမြှုပ်၊ ရုပ်နှင့်ယှဉ်ဘက်၊ ရေပွက်ဝေဒနာ၊ သညာတံလျှပ်၊ တရုပ်သင်္ခါရ၊ ငှက်ပျောကျ၏၊ ဓမ္မဝိညာဉ်၊ မျက်လှည့်ယှဉ်သည်၊ ငါး အင်နှစ်မဲ့ ခန္ဓာတည်း"**လို့ ခန္ဓာငါးပါးအတွက် နောက်ဆုံးမှာ ဒါနဲ့ သိမ်းတယ်။

**"ပမာရေမြှုပ်၊ ရုပ်နှင့်ယှဉ်ဘက်"** ရူပက္ခန္ဓာသည် ရေမြှုပ်နဲ့တူတယ်၊

**"ရေပွက်ဝေဒနာ"**တဲ့၊ ဝေဒနာက္ခန္ဓာသည် ရေပွက်နဲ့တူတယ်။

**"သညာတံလျှပ်"** သညာက္ခန္ဓာခေါ်တဲ့ သညာကတော့ တံလျှပ် ခေါ်သောလင်းလပ်နဲ့တူတယ်။

**"တရုပ်သင်္ခါရ၊ ငှက်ပျောကျ၏"** သင်္ခါရက္ခန္ဓာသည် ငှက်ပျောတုံး နဲ့ တူတယ်။

**"ဓမ္မဝိညာဉ်၊ မျက်လှည့်ယှဉ်သည်"** ဝိညာဉ်ဆိုတဲ့ ဝိညာဏက္ခန္ဓာ ကတော့ မျက်လှည့်သမားများ ပြစားထားတဲ့ မျက်လှည့်ရုပ်နဲ့တူတယ်။

**"ငါးအင်နှစ်မဲ့ ခန္ဓာတည်း"** လို့ ဘယ်နေရာမှ အနှစ်မရှိဘူးတဲ့။

ဒီအကြောင်းကို ဘုရား ဘယ်နေရာမှာ ဟောသွားသလဲ၊ ဖေဏပိဏ္ဍူ ပမသုတ္တန်မှာ ဘုရားဟောထားတာရှိတယ်၊ ဖေဏပိဏ္ဍူပမသုတ္တန်ဆိုတာ တချိန်က မြတ်စွာဘုရား အယုဇ္ဈ နေပြည်ရဲ့အနီး ဂင်္ဂါမြစ်ကမ်းနား ကျောင်းမှာ ဘုရား သီတင်းသုံးနေတယ်။ ဒါကို ပါဠိတော်၌-

ဧကံ သမယံ ဘဂဝါ အယုဇ္ဈာယံ ဝိဟရတိ ဂင်္ဂါယ နဒိယာ တီရေ။

ဧကံ သမယံ၊ အခါတပါး၌။ ဘဂဝါ၊ ဘုန်းတော်သခင် ရှင်ပင်ဘုရား သည်။ အယုဇ္ဈာယံ၊ အယုဇ္ဈပြည်၏ အနီးဖြစ်သော။ ဂင်္ဂါယ နဒိယာ တီရေ၊ ဂင်္ဂါမြစ်ကမ်း၌။ ဝိဟရတိ၊ ဣရိယာပထ မျှတ ရှင်ပြုး သီတင်းသုံးနေထိုင် တော်မူဆဲ ဖြစ်ပေ၏။

**အယုဇ္ဈပြည်ရဲ့အနီး** ဂင်္ဂါမြစ်ကမ်းနားက ကမ်းနားကျောင်းကြီးမှာ **ဘုရားသီတင်းသုံးနေတယ်။ အဲဒီကျောင်းက** ဘယ်လိုကျောင်းတုံး၊ဘုရား **အယုဇ္ဈပြည် ရဟန်းပေါင်းများစွာ ခြံရံပြီးတော့** ဝါကပ်မလို့ **ကြွလာ**

တယ်၊ အဲဒီအချိန်အခါမှာ မြို့သူမြို့သားတွေက ဘုရားကိုယ်တော်မြတ် မွေ့လျော်တော်မူလောက်ကဲ့ဆိုပြီးတော့ ဂင်္ဂါမြစ်ရဲ့ မြစ်ကွေ့တနေရာမှာ သာယာတဲ့ မြေအခင်းမှာ ကျောင်းတိုက်ကြီးတလင်း ခင်းကျင်းပြီးတော့ အဲဒီမှာ ရဟန်းတော်များဖို့ ကျောင်းတွေ ဘုရားကိုယ်တော်မြတ် သီတင်းသုံးဖို့ကျောင်းတွေ ဆောက်ပေးလို့၊ အဲဒီ အယုဇ္ဈပြည်ရဲ့အနီး ဂင်္ဂါမြစ်ကမ်းဆိပ်က ကမ်းနားကျောင်းကြီးမှာ ဘုရား သီတင်းသုံးနေတဲ့ အခိုက်ပါပဲတဲ့။ အဲဒီလိုနေရာက ညနေချမ်းဆည်းဆာကာလ နေဝင်ဖျိုးဖျအချိန် ဘုရားကိုယ်တော်မြတ် ဂန္ဓကုဋိတိုက်တော်က ထွက်ပြီးတော့ ဂင်္ဂါမြစ်ဆိပ် ကမ်းနားထိပ်မှာ ဘုရား တရားပွဲ ကျင်းပဖို့ရန်ပေါ်လေ ခင်းထားတဲ့ ဗုဒ္ဓာသန=ဘုရားနေရာ၌ ထိုင်နေတော် မူတဲ့အခိုက် ဝှဲယာ ရှေ့နောက် ရဟန်းတော်တွေ ခြံလျက် ရံလျက် လ-ကြီး ထွက်လာသလို ပေါ်နေ ်လ-ရဲ့ရှေ့က နောက်က ဝဲက ယာက ကြယ်တွေ နက္ခတ်တွေ တာရာတွေ ခြံရံပြီးတော့ ထွက်လာသလို ဘုရားကိုယ်တော်မြတ်ကြီး ဂင်္ဂါ မြစ်ဆိပ်ကမ်းနားထိပ်မှ ဓမ္မသဘင်ကြီး ကျင်းပနေတဲ့အခိုက်မှာ ရဟန်းတော်တွေ ရှေ့က နောက်က ဝဲက ယာက အပြည့်ရှိတာကိုလဲ အာရုံပြုထား။ အဲဒီ ဘုရားကိုယ်ပေ ာ်မြတ်ကြီး လှည့်နေတာကတော့ ဂင်္ဂါမြစ်ဘက်ကို လှည့်နေတယ်။ ဂင်္ဂါမြစ်ဘက်လှည့်ပြီးတော့ ဘုရားကိုယ်တော် မြတ်တရားမဟောခင် ဂင်္ဂါမြစ်ဘက်ကို ကြည့်တော်မူလိုက်တဲ့ အခါကျတော့ ဂင်္ဂါမြစ်ကြော၌ ရေမြှုပ်ကြီးတခု ပေါ်လော ပေါ်လောနဲ့ မျောလာတာမြင်တယ်၊ ဒါမြင်တော့ ဘုရားကိုယ်တော်မြတ်ရဲ့စိတ်ထဲမှာ ဖြစ်တယ်။

မမသာသနေ၊ ငါဘုရားသာသနာ၌။ ကူမံ၊ ဤရေမြှုပ်ကြီးကို။နိဿာယ၊ အမှီပြု၍။ ပဥ္စက္ခန္ဓနိဿိတံ၊ ခန္ဓာငါးပါး၌တည်သော။ ဓမ္မံ၊ တရားကို။ အဇ္ဇ၊ ယနေ့ဖြင့်။ ကထေဿာမိ၊ အကျယ်ဘဝင် ဟောပြပေအံ့။

ဒီကနေတော့ ဒီရေမြှုပ်ကြီးကိုပဲ အကြောင်းပြုပြီးတော့ ရဟန်းတော်တွေလဲ မြင်လောက်၊ ရေမြှုပ်ကြီးကလဲပဲ တော်တော်ကြီး, တောင်ဆုပ် လောက်ရှိတယ်၊ ဂင်္ဂါမြစ်ထဲမျောလာတယ်။ အဲဒီလို အကြံတော်ဖြစ်ပြီး

တော့ ရဟန်းတော်တွေကို ရေမြှုပ်ကြီး ညွှန်ပြပြီးတော့ ဘုရားက ဘာ ဟောလိုက်သလဲ။

**သေယျထာပိ ဘိက္ခဝေ အယံ ဂင်္ဂါနဒီ မဟန္တံ ဖေဏပိဏ္ဍံ အာဝဟေယျ။**

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ သေယျထာပိ၊ လောကူပမာ နှိုင်းဖွယ်ရာကား။ အယံဂင်္ဂါနဒီ၊ဤဂင်္ဂါမြစ်သည်။ မဟန္တံ၊ ကြီးစွာသော။ ဖေဏပိဏ္ဍံ၊ သင်ချစ်သားတို့ မျက်မှောက် ယခုရောက်လာတဲ့ ရေမြှုပ်ခဲကြီး ကို။ အာဝဟေယျ၊ မျှောဆောင်၍သာ လာလေရာ၏။

ကြည့်ကြစမ်း၊ ဟောတို ဂင်္ဂါမြစ်ကြော ရေမြှုပ်ကြီးပေါလော ပေါလောနဲ့ မျောလာခဲ့တယ်၊ အဲဒါကို ဂင်္ဂါမြစ်ကနေပြီး ဒီရေမြှုပ်ကြီးကို မျှောဆောင်ပြီးတော့ လာခဲ့တာ မဟုတ်ဘူးလား၊ ဟုတ်ပါတယ်၊ အဲဒီတော့ကို စိတ်ကူးနဲ့ သင်ချစ်သားတို့ စဉ်းစားကြည့်ကြစမ်း။

**တမေနံ စက္ခုမာ ပုရိသော ပဿေယျ နိဇ္ဈာယေယျ ယောနိသော ဥပပရိက္ခေယျ။**

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တမေနံ–တံ ဧနံ၊ ထိုယခု ဂင်္ဂါမြစ်ကြော မျောလာတဲ့ ရေမြှုပ်ကြီးကို။ စက္ခုမာ၊ ဉာဏ်မျက်စိ မံသမျက်စိ အစုံရှိသော။ ပုရိသော၊ ယောကျ်ားသည်။ ပဿေယျ၊ ကြည့်ရှုငြားအံ့။ နိဇ္ဈာယေယျ၊ စူးစူးစိုက်စိုက်ကြည့်ရှုငြားအံ့။ ယောနိသော မှန်ကန်သောအကြောင်းအားဖြင့်။ဥပပရိက္ခေယျ၊ ပညာသက်ဝင်ဆင်ခြင်မိငြားအံ့။

ဉာဏ်မျက်စိလဲရှိတယ်၊ပကတိမျက်စိအမြင်လဲကောင်းတယ်ဆိုတဲ့ အမျိုးကောင်းသားယောကျ်ားတယောက်ဟာ အဲဒီရေမြှုပ်ကြီးကုန်းပေါ်တင်၊ တင်ပြီးတော့ စိစိစပ်စပ်ကြည့်၊ မျက်စိနဲ့ကြည့်ရုံတင် မဟုတ်သေးဘဲနဲ့ ဉာဏ်မျက်စိနဲ့ လဲ အကြောင်းသင့်အောင် ဉာဏ်နဲ့သက်ဝင် ဆင်ခြင်ကြည့်ပြီဆိုပါစို့၊ ဆင်ခြင်ကြည့်လိုက်လို့ရှိရင်သူ့ဉာဏ်ထဲ ဘာတွေပေါ် လာမလဲ။

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတောရိတ္တကညေ၀ ခါယေယျ၊ တုစ္ဆကညေ၀ ခါယေယျ၊အသာရကညေ၀ခါယေယျ၊ ကိံ ဟိ သိယာဘိက္ခဝေ ဖေဏပိဏ္ဍေ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တံ၊ ထိုရေမြှုပ်ကြီးကို။ ပဿတော၊ ရှုကြည့်သော။ နိဇ္ဈာယတော၊ စူးစူးစိုက်စိုက် ရှုကြည့်သော ယောနိသော၊ မှန်ကန်သော အကြောင်းအားဖြင့်၊ ဥပပရိက္ခတော၊ ပညာသက်ဝင် ဆင်ခြင်လေသော၊ တဿ၊ ထိုယောကျ်ား၏ ဉာဏ်ထဲ၌၊ ရိတ္တကညေ၀၊ ဆိတ်သုဉ်းသည်ဖြစ်၍သာလျှင်။ တုစ္ဆကညေ၀၊ အချည်းအနှီးဖြစ်၍ သာလျှင်။ အသာရကညော၊ အနှစ်မရှိသည်ဖြစ်၍ သာလျှင်။ ခါယေယျ၊ ထင်လေရာ၏၊

စူးစူးစိုက်စိုက် ကြည့်စမ်းပါပဲ့၊ သူ့စိတ်ထဲမှာ ကူးကြည့်၊ ငါ ဒီရေမြှုပ်ကြီးကို ယူသွားမယ်။ အိမ်ယူသွားမယ်၊ အိမ်ရောက်လို့ ရှိရင်ဖြင့် အဲဒီ ရေမြှုပ်ကြီးကို ငါ အိုးလုပ်လိုက်မယ်ဟ၊ ခွက်လုပ်လိုက်မယ်ဟ၊ မောက်မကြီး လုပ်လိုက်မယ်ဟ၊ အဲဒီလို သူစိတ်ကူးနဲ့ ရောက်ပြီးတော့ လုပ်လို့ရရဲ့လား၊ ငါလုပ်ချင်တာတွေ လုပ်လို့ရမလားလို့ သူစဉ်းစားကြည့်တယ်၊ စဉ်းစားကြည့်လို့ရှိရင် ဘာမှလုပ်မရပဲနဲ့ အကိုင်တောင် မခံနိုင်တဲ့သဘောကို သွားတွေ့မယ်တဲ့....နော်။ သေသေချာချာ စိုက်စိုက်စူးစူးလဲ ကြည့်ရမယ်၊ အဲဒီလို ကြည့်လို့ရှိရင်ဖြင့် အကိုင်မခံတဲ့သဘော တွေ့ရမယ်။ အဲဒီအထဲမှာ ရေမြွေတွေ ဘာတွေ ပါလာတာလဲ တွေ့ရမယ်။

တခါ ရေမြှုပ်ကြီးသဘောကို စဉ်းစားကြည့်လိုက်မယ်ဆိုလို့ရှိရင်ဖြင့် အချိန်မရွေး ပျက်စီးနိုင်တယ်ဆိုတဲ့ သဘောကိုလဲ သူမြင်မယ် မဟုတ်ဘူးလား၊ မြင်မှာပါဘုရား။

ကိံ ဟိ သိယာ ဘိက္ခဝေ ဖေဏပိဏ္ဍေ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ဖေဏပိဏ္ဍေ၊ ရေမြှုပ်စိုင်ကြီးထဲ၌၊ သာရော၊ အခိုင်အမာ အနှစ်သာရသည်။ ကိံ ဟိ သိ ယာ၊ အဘယ်မှာလျှင်ဖြစ်ပွားနိုင်ပါအံ့နည်း၊ အဘယ်မှာလျှင် ရှိနိုင်အံ့နည်း- မရှိသည်သာတည်း။

စိန်းစိန်းကြည့်လေ စူးစူးစိုက်စိုက်ကြည့်လေ ဒီရေမြှုပ်ကြီးမှာ အခိုင်အမာ အနှစ်သာရ ရှာမရသလိုပဲဗျာ။

ဝေမေဝ ခေါ ဘိက္ခဝေ ယံကိဉ္စိ ရူပံ အတီတာ နာဂတပစ္စုပ္ပန္နံ အဇ္ဈတ္တံ ဝါ ဗဟိဒ္ဓါ ဝါ ဩဠာရိကံ ဝါ သုခုမံ ဝါ ဟီနံ ဝါ ပဏီတံ ဝါ ယံ ဒူရေ သန္တိကေ ဝါ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ဝေမေဝခေါ၊ ဤအတူပင်လျှင်။ အတီတာနာဂတပစ္စုပ္ပန္နံ၊ ကာလအားဖြင့် အတိတ် အနာဂတ် ပစ္စုပ္ပန် သုံးထွေပြားသော။ အဇ္ဈတ္တံ ဝါ၊ အဇ္ဈတ္တသန္တာန်၌လည်း ဖြစ်သော။ ဗဟိဒ္ဓါ ဝါ၊ ဗဟိဒ္ဓသန္တာန်၌လည်း ဖြစ်သော။ ဩဠာရိကံ ဝါ၊ ရုန့်ရင်း ကြမ်းတမ်းသည်လည်း ဖြစ်သော။ သုခုမံ ဝါ၊ သိမ်မွေ့ နူးညံ့သည်လည်းဖြစ်သော။ ဟီနံ ဝါ၊ ယုတ်ညံ့သည်လည်း ဖြစ်သော ပဏီတံ ဝါ၊ မွန်မြတ်ကောင်းမွန်သည်လည်းဖြစ်သော။ ဒူရေ၊ ဝေးခြားသော အရပ်၌။ ယံ ရူပံ ဝါ၊ အကြင်ရုပ်သည်လည်းကောင်း။ သန္တိကေ၊ နီးကပ်သောအရပ်၌။ ယံ ရူပံ ဝါ၊ အကြင်ရုပ်သည် လည်းကောင်း။ ယံကိဉ္စိ၊ တဆယ့်တပါး အပြားအားဖြင့် ကွင်းမဲ့ဥဿုံ အလုံးစုံသော ရူပံ၊ ရုပ်တရားသည်။ အတ္ထိ၊ ရှိ၏။

စောစောက ချစ်သားတို့ကို ပြောထားတဲ့ ၁၁ ပါး အပြားရှိသည့် ရူပက္ခန္ဓာကြီး မရှိဘူးလား၊ ရှိပါတယ်။ "တံ ဘိက္ခုပဿတိ နိဇ္ဈာယတိ ယောနိသော ဥပပရိက္ခတိ"။ ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တံ၊ ထို ၁၁-ပါးစုထားတဲ့ ရုပ်တရားကို။ ဘိက္ခု၊ အာရဒ္ဓဝိပဿကဘိက္ခု ယောဂါဝစရ ရဟန်းတော်သူမြတ်သည်။ ပဿတိ၊ ဉာဏ်မျက်စိဖြင့် ကြည့်ရှုပြီးအံ့။ နိဇ္ဈာယတိ၊ သမာဓိချ၍ စိုက်စိုက်စူးစူး ကြည့်ရှုပြီးအံ့။ ယောနိသော၊ ဟုတ်မှန်သော အကြောင်းအားဖြင့်။ ဥပပရိက္ခတိ၊ ပညာသက်ဝင် ဆင်ခြင်ငြားအံ့။

ရူပက္ခန္ဓာတည်းဟူသော ရေမြှုပ်ကြီးကို ယောဂီပုဂ္ဂိုလ်တည်း ဟူသော ဉာဏ်အမြင်ရှိတဲ့ အမျိုးကောင်းသား မင်းယောကျ်ားဟာ ကုန်းပေါ်တင်ပြီးသကာလ မံသမျက်စိနဲ့လဲ စေ့စေ့စပ်စပ်ကြည့် ပညာမျက်စိနဲ့လဲ စေ့စေ့စပ်စပ်ကြည့်ပြီဆိုပါစို့တဲ့။ ကြည့်ရင် ဘယ်လိုဖြစ်မတုံးဆိုတော့။

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတော ရိတ္တကညေဝ ခါယတိ၊ တုစ္ဆကညေဝ ခါယတိ၊ အသာရကညေဝ ခါယတိ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တံ၊ ထိုရူပက္ခန္ဓာခေါ်တဲ့ ရုပ်တရားအစုကို။ ပဿတော၊ ကြည့်ရှုသော။ နိဇ္ဈာယတော၊ ဥပစာရသမာဓိဖြင့် စူးစူးစိုက်စိုက် ကြည့်ရှုသော။ ယောနိသော၊ ဟုတ်မှန်စွာ အကြောင်းအားဖြင့်။ ဥပပရိက္ခတော၊ ပညာသက်ဝင် ဆင်ခြင်သော။ တဿ၊ ထိုရဟန်း၏ဉာဏ်၌။ ရိတ္တကညေဝ၊ နိစ္စ သုခ သုဘဟူသည် မြူမျှမရိပ် ထိုသဘောသို့မှ ဆိတ်သည်ဖြစ်၍သာလျှင်။ တုစ္ဆကညေဝ၊ နိစ္စ သုခ သုဘဟူသည် မြူစမငြီး အချည်းနှီးဖြစ်၍သာလျှင်။ အသာရကညေဝ၊ နိစ္စ သုခ သုဘဟူသော အနှစ်သာရမှ ကင်းဆိတ်သည် ဖြစ်၍သာလျှင်။ "ခါယေယျ၊ ထင်လေရာ၏" ခါယတိ၊ ထင်ခဲ့၏။

ကိံ ဟိ သိယာ ဘိက္ခဝေ ရူပေ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ရူပေ၊ ရုပ်တရားအစု၌။ သာရော၊ အနှစ်အမာ အခိုင်အမာ အနှစ်သာရသည်။ ကိံ ဟိ သိယာ၊ အဘယ်မှာလျှင် ဖြစ်ပွားနိုင်အံ့နည်း။ မဖြစ်ပွားသည်သာလို့ ရူပက္ခန္ဓာကို ရေမြှုပ်ကြီးနှင့် ဥပမာပြပြီးတော့ ဟောကြားတော်မူတယ်။

ရေမြှုပ်နဲ့ တူတဲ့နေရာမှာ ခုနစ်ဌာနပြုတယ်။ ပဌမ ရေမြှုပ်သည် အနှစ်မရှိသလို ရူပက္ခန္ဓာလဲ နိစ္စ သုခ အတ္တ သုဘ ဆိုတဲ့ အနှစ်မရှိဘူး၊ ဒါကြောင့်လဲပဲ ရေမြှုပ်နဲ့ တူတယ်။

ပကတိရေမြှုပ်ကို ခွက်လုပ်ချင်တယ်၊ အိုးလုပ်ချင်တယ်၊ ယောက်တိုကြီး လုပ်မယ် စသည်ဖြင့် ခွဲကြည့်လိုက်စမ်းပါ။ ခွဲသည်နှင့်တပြိုင်နက် လက်ထဲ ပျက်မယ်။ ထို့အတူပဲ ဒီခန္ဓာကိုယ် ရူပက္ခန္ဓာကြီးကိုလဲပဲ ငါလုပ်မယ် ငါ့ဥစ္စာလုပ်မယ်၊ ဒါမှမဟုတ်ဘူးပဆိုလို့ရှိလျှင် နိစ္စဟဲ့ သုခဟဲ့ အတ္တဟဲ့ သုဘဟဲ့လို့ ဆိုပြီးတော့ ခွဲကြည့်စမ်းပါတဲ့၊ ကိုယ်က ခွဲကြည့်တုန်း ရှိသေးတယ်၊ သူက တဖြုတ်ဖြုတ်နဲ့ ရေမြှုပ်ကြီး ချုပ်သလို ချုပ်သွားမယ်တဲ့၊ အဂယုပဂလို့ ခေါ်တယ်နော်။

ပကတိရေမြှုပ်ထဲမှာကြည့်စမ်း၊ ပကတိရေမြှုပ်ဟာ အချိန်မရွေး ပျက်နိုင်မယ်၊ ဖြစ်စမှာလဲ ပျက်နိုင်တယ်၊ အဲဒါမှမပျက်ဘူးဆိုရင် တယူဇနာ နှစ်ယူဇနာရောက်ရင်လဲ ပျက်နိုင်တယ်၊ လမ်းတလျှောက် မပျက်ပါဘူးဆိုရင် မဟာသမုဒ္ဒရာကျရင်တော့ မုချ ပျက်တော့တာပဲ၊ အဲဒါလိုပါပဲတဲ့၊ ဒီ ရူပက္ခန္ဓာဆိုတဲ့ တရားဟာ သမုတိမရဏဆိုတဲ့ သန္တတိ အပြတ် သန္တတိ အသေမျိုး သေနိုင်တာဟာ ကလလရေကြည်အခိုက် ဖြစ်စမှာလဲ ပျက်နိုင်တာပဲ။ အဲဒီနောက်မှာ ပထမသတ္တာဟ ဒုတိယသတ္တာဟ အချိန်မရွေး ပျက်နိုင်တယ်၊ ရေမြှုပ်ကြီးရဲ့ ပျက်ချိန်ဟာပေါ့လေ-အချိန်မရွေး ပျက်နိုင်တာလိုပဲ၊ ဟာ....ကလလ အစရှိတဲ့အကြားမှာ မပျက်မစီးပါဘူး မသေပါဘူး ဆိုလို့ရှိရင်လဲပဲ အနှစ်တရာတမ်းမှာ အနှစ်တရာရှိရင်တော့ မုချသေရမှာပဲတဲ့။ အဲဒါကြောင့် ရေမြှုပ်ကြီးဟာ လမ်းမှာ မပျက်ပါဘူး ဆိုပေမဲ့ မဟာသမုဒ္ဒရာရောက်ရင်ဖြင့် မုချ ပျက်တော့တာပဲ၊ အဲဒါကြောင့်လဲ ရေမြှုပ်နဲ့တူတယ်။

ပကတိရေမြှုပ်ဟာ ခပ်လှမ်းလှမ်းက ကြည့်တော့ တောင်ကြီးလိုလို အထည်ကြီးထင်ရတယ်၊ ဘယ်ဟုတ်မလဲ၊ ကပ်ကြည့်လို့ရှိရင် ဟိုဟာနဲ့ ဒီဟာနဲ့တွဲ၊ ဒီဟာနဲ့ ဟိုဟာနဲ့တွဲ၊ အတွဲတွေ သိပ်များ၊ အနေက သန္တတိ။ ထို့အတူပဲ ရူပက္ခန္ဓာကိုလဲ ကြည့်မယ်၊ ခပ်လှမ်းလှမ်းက ကြည့်မယ်ဆိုရင် ပုဂ္ဂိုလ်ကြီး သတ္တဝါကြီး အမေပဲ အဖေပဲ သားပဲ သမီးပဲ မောင်ပဲ နှမပဲလို့ ထင်ရတယ်၊ တကယ်ကပ်ပြီး သေသေချာချာကြည့်ရင် ခြေက တခြား လက်ကတခြား။ အဲဒီထဲမှာလဲပဲ အသားစိုင် အသားတုံးတွေ ပေါ့လေ-တခြားစီ ခွဲစိတ်ကြည့်၊ ဟိုဟာနဲ့ ဒီဟာစပ်၊ ဒီဟာနဲ့ ဟိုဟာ စပ်လို့မှီလို့ပေါ့လေ၊ တကထဲ တောင်ကြီးလိုလို ထင်ရသလို၊ ဒီမှာလဲပဲ လက်နဲ့ ခေါင်းနဲ့စပ် ခေါင်းနဲ့ ကိုယ်နဲ့စပ်၊ ကိုယ်နဲ့ ခြေနဲ့ စပ်လို့ ပုဂ္ဂိုလ်ပဲ သတ္တဝါပဲ ထင်မှတ်ရတယ်။ အစပ် အင်မကန် များတယ်၊ ပကတိ ရေမြှုပ်ကြီးမှာဆိုလို့ရှိရင် အပေါက်တွေ သိပ်များတယ်။ ကပ်ကြည့်စမ်းပါလား၊ပင်လယ်ရေမြှုပ်ကို ကြည့်နေနော်၊ အပေါက်အပေါက်နဲ့ အင်မတန် ဒီအတိုင်းပဲ၊ ရူပက္ခန္ဓာ ကည်းဟူသော ရေမြှုပ်ကြီးမှာလဲ အပေါက်တွေ ဘယ်လောက်များသလဲဆိုရင် မွေးညှင်းပေါက်ကို ဘယ်

လောက်ရှိသလဲ၊ ဆံပင်ပေါက်တွေလဲ ဘယ်လောက် ရှိသလဲ၊ ဒါက မွေးညှင်းဆံပင်က သိသာလို့ပြောရတာ။ ကလာပ်တိုင်း ကလာပ်တိုင်း ကလာပ် အကြားအကြား တွေဟာဖြင့် ဒါတွေဟာ အပေါက်ချည်းပဲ။ ပကတိ ရေမြုပ်ကြီးလို၊ ပကတိသော ရေမြုပ်ကြီးဟာဖြင့် အစတုန်းက ဘယ်လောက် ရှိသလဲ၊ ဇီးစေ့လောက်က စတယ်၊ နောက် တဖြေး တဖြေး တဖြေး တဖြေးအားဖြင့် ကြီးလာလိုက်တာ ဆင်ကြီးလောက် ကျွဲကြီးလောက် တောင်ထွတ်ကြီးလောက် ဒီလို ထင်ယူရအောင် မြင့် မောက် ကြီးပွားလာတယ်။ထို့အတူပဲ ရူပက္ခန္ဓာလဲပဲ ကလလ ရေကြည် အခိုက်အတန့်တုန်းက သူသည် အနုမြူမှုန့်ကလေးမျှပဲ ရှိတယ်။ နောက် တဖြေးတဖြေး ကြီးလာလိုက်တာနော်၊ ဩော်-အသက် တရာတန်းထိ အောင် တရာပြည့်သိအောင် တချို့ ပိဿာ ၅၀-ရှိတယ်၊ တချို့ ပိဿာ ၂၅-ရှိတယ်၊ ၃၀-၄၀ ရှိတယ်၊ အနုပုဗ္ဗ ဝုဒ္ဓိအားဖြင့်လဲပဲ ရေမြုပ်နဲ့ ရူပက္ခန္ဓာတူတယ်။

တဖန်တူဘာ ရှာကြဦးစို့၊ ပကတိ ရေမြုပ်ထဲမှာ ရေမွှေတွေ ရေပိုး, ရေမွှားတွေ အများကြီး ကိန်းအောင်းတည်နေတယ်။ အဲဒါလိုပဲ ဒီခန္ဓာလဲ ပဲ ရူပက္ခန္ဓာတည်းဟူသော ရေမြုပ်ကြီးထဲမှာ ပိုးတွေ အမျိုးအားဖြင့်ပင် လျှင် ၈၀ ရှိတယ်။ ကောင်ရေကို ပြောတာမဟုတ်ဘူးနော်။ အဲဒီအမျိုး အားဖြင့် ၈၀ မျှ အကောင်ရေအားဖြင့် မရေမတွက်နိုင်သော ပိုးကောင် တွေသည် ဒီရူပက္ခန္ဓာတည်းဟူသော ရေမြုပ်ကြီးထဲမှာပဲ ကျင်ကြီးကိုလဲ သူတို့ ဒီထဲစွန့်တယ်။ သူတို့ရဲ့ ကုဋီကြီးလဲ ဟုတ်တယ်၊ ကျင်ငယ်ကိုလဲ ဒီထဲမှာပဲ စွန့်တယ်၊ သူတို့ကျင်ငယ်အိမ်လဲ ဟုတ်တယ်၊ ဒီရူပက္ခန္ဓာဟာ။ ဒါဖြင့် ကျင်ကြီး ကျင်ငယ်တင်လားဆို၊ သေတော့လဲ သူတို့လဲ ဒီထဲ သေ တာပဲ၊ သူတို့ရဲ့သုသာန်ကြီးလဲ ဟုတ်တယ်၊ သူတို့မမာတော့လဲ ဒီရူ ပက္ခန္ဓာကြီးထဲမှာ မမာတာပဲ။ ဒါကြောင့် ဒီကိုယ်ကြီးဟာ အဲဒီပိုးမျိုး ရှစ်ဆယ်တို့ရဲ့ ကျင်ကြီးကျင်ငယ်စွန့်ရာ ကျင်ငယ်အိမ် ကျင်ကြီးအိမ်လဲ ဟုတ်တယ်၊ သားဖွားရုံကြီးလဲ ဟုတ်တယ်၊ ဆေးရုံကြီး လူနာရုံကြီးလဲ ဟုတ်တယ်၊ သူတို့သေတော့ ဘယ်သူကမှ ပစ်ချနေတာမဟုတ်ဘူး၊ ဒီရုပ် ထဲမှာပဲ ဒီအတိုင်းသေပြီး ဒီရုပ်ထဲမှာပဲ ဒီခန္ဓာကိုယ် သူတို့ခန္ဓာကိုယ် ပစ်

ချရတဲ့အတွက် ဒီကိုယ်သည် သူတို့ရဲ့ သုသာန်တစ သင်းချိုင်းဝလဲ ဟုတ်တယ်။ အဲခုနကတုန်းက ရေမြှုပ်ကြီးဟာပေါ့လေ ရေပိုးရေမွှား အမျိုးမျိုးတို့၏ နေရာဖြစ်သလို ဒီရုပ်ခန္ဓာကြီးဟာလဲပဲ ပိုးအမျိုးအားဖြင့် ၈၀၊ အကောင်ရေအားဖြင့် မရေမတွက်နိုင်သော ပိုးကောင်တို့၏ နေရာကြီးဖြစ်ပါလား။ ဒါကြောင့် ရေမြှုပ်နဲ့ တူပါ့လား။ အခိုင်အမာ အနှစ်သာရ ရှာမရပါတကား၊ နိစ္စ သုခ သုဘ အတ္တရယ်လို့ စွဲယူ၍ မရပါတကားလို့ ရုပက္ခန္ဓာပေါ်၌ အသိဉာဏ်ရောက်ပါစေ။ ဒီရေမြှုပ်ကြီးကနေပြီးတော့ တရားတထိုးဟောတဲ့ နေရာမှာ နောက်လေးခုကျန်သေးတယ်၊ ဆက်ပြီးတော့ဘုရားက–

သေယျထာပိ ဘိက္ခဝေ သရဒသမယေ ထုလ္လဖုသိတကေ
ဒေဝေ ဝဿန္တေ ဥဒကေ ဥဒကပုဗ္ဗုဠံ ဥပ္ပဇ္ဇတိ စေဝ နိရုဇ္ဈတိ စ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ သေယျထာပိ၊ လောကူပမာ နှိုင်းဖွယ်ရာကား။ သရဒသမယေ၊ သရဒဥတု သရဒရတုအခါကာလ၌။ (တန်ဆောင်မုန်းလ မိုးကြီးလို့ ပြောလိုတယ်) ထုလ္လဖုသိတကေ၊ မိုးပေါက်ကြီးစွာ ကျရောက်သော၊ ဒေဝ၊ မိုးကြီးသည်။ ဝဿန္တေ၊ ရွာလတ်သည်ရှိသော်။ ဥဒကေ၊ ရေ၌။ ဥဒကပုဗ္ဗုဠံ၊ ရေပွက်သည်။ ဥပ္ပဇ္ဇတိ စေဝ၊ ခဏခဏဖြစ်လည်းဖြစ်၏၊ နိရုဇ္ဈတိစ၊ ဖြစ်ပြီးလျှင် ခဏအတွင်း ချုပ်လည်း ချုပ်ပျောက်၏။

တန်ဆောင်မုန်းလမှာ မိုးရွာနေတဲ့အခါ ရေပြင်ကြီးထဲလှမ်းပြီးတော့ ကြည့်စမ်း၊ အပေါ်က မိုးပေါက်ကြီးတွေ ကြီးကြီးကျသည်။ မိုးပေါက်သေးသေးကလေးကျရင်လဲ ဒီရေပွက်ဆိုဟာ မဖြစ်ဘူးတဲ့။ မိုးပေါက်ကြီးကြီး ထုလ္လဖုသိတက-ဆိုတာအင်မတန်ကြီးတဲ့မိုးပေါက်ကြီးတွေကျ။မိုးရွာ။ ရွာရင် ဘာဖြစ်မလဲ။ အဲဒီရေပြင်ပေါ်မှာ ရေပွက်ကလေးတွေဟာ ပလုံစီထပြီးတော့ ဒီလိုလာတယ်၊ ကိုင်း ကြည့်စမ်းပါအုံး၊ ကြည့်စမ်း။ ဒီရေပွက်ကလေးကို–

ဘမေန် စက္ခုမာ ပုရိသော ပဿေယျ နိဇ္ဈာယေယျ ယောနိ
သော ဥပပရိက္ခေယျ၊

တမေန်၊ ထိုမိုးဥတုရာသီ မိုးရာသီ နောက်ပိုင်းဝယ် ရေပြင်ပေါ်၌ ခဏအတွင်းဖြစ်၍ ခဏအတွင်း ပျက်ပျက်သွားတဲ့ရေပွက်ကို။ စက္ခုမာ၊ ဉာဏ်မျက်စိ ပကတိမ်သမျက်စိအစုံရှိသော။ ပုရိသော၊ အမျိုးကောင်းသား မင်းယောကျ်ားသည်။ ပဿေယျ၊ ကြည့်ရှုငြားအံ့။ နိဇ္ဈာယေယျ၊ စူးစူးစိုက်စိုက် စဉ်းစဉ်းစားစား ကြည့်ရှုငြားအံ့။ ယောနိသော၊ ဟုတ်မှန်သော အကြောင်းအားဖြင့်။ ဥပပရိက္ခေယျ၊ ပညာသက်ဝင် ဆင်ခြင်ငြားအံ့။

ဉာဏ်ပညာရှိ ပကတိမျက်စိကောင်းတဲ့ အမျိုးကောင်းသား မင်းယောကျ်ားတယောက်ဟာ အဲဒီရေပွက်ကို သွားမကိုင်နဲ့နော်၊ ကိုင်ရင်လဲ ပျက်လိမ့်အုံးမယ်။ စိတ်ကူးနဲ့ တင်ကြည့်စမ်းပါ၊ ဒီရေပွက်ကလေး အိမ်ယူသွား၊ အရောင်ကလေးကလဲ သူဟာ-ဟုတ်လား ပတ္တမြားကလေးလိုလို ရွှဲကလေးရောင်ရောင် အိပ်ရာထဲမှာပေါလေ အိပ်ရာခင်းကလေး လုပ်ရကောင်းမလား စသည်ဖြင့် အဲဒီလို စဉ်းစားကြည့်၊ စဉ်းစားကြည့်လိုက်လို့ ရှိရင် ဘယ်လိုဖြစ်မလဲလို့ ဆိုတော့-

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတော ရိတ္တကညေဝ ခါယေယျ၊ တုစ္ဆကညေဝ ခါယေယျ၊ အသာရကညေဝ ခါယေယျ၊ ကိံ ဟိ သိယာ ဘိက္ခဝေ ဥဒကပုဗ္ဗုဠေ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တံ၊ ထိုရေပွက်ကို။ ပဿတော၊ ရှုကြည့်သော။ နိဇ္ဈာယတော၊ စိုက်စိုက်စူးစူး စဉ်းစဉ်းစားစား ရှုကြည့်သော။ ယောနိသော၊ ဟုတ်မှန်သော အကြောင်းအားဖြင့်။ ဥပပရိက္ခတော၊ ပညာသက်ဝင် ဆင်ခြင်သော။ တဿ၊ ထို အမျိုးကောင်းသား မျက်စိအမြင်ရှိတဲ့ မင်းယောကျ်ား၏ စိတ်သန္တာန်၌။ တံ၊ထိုရေပွက်သည်။ ရိတ္တကညေဝ၊ဆိတ်သည်ဖြစ်၍သာလျှင်။ တုစ္ဆကညေဝ၊အချည်းနှီးဖြစ်၍သာလျှင်။ အသာရကညေဝ၊ အခိုင်အမာ အနှစ်သာရ မရှိသည်ဖြစ်၍သာလျှင်။ ခါယတိ၊ ထင်၏။ ခါယေယျ၊ ထင်လေရာ၏။ ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ဥဒကပုဗ္ဗုဠေ၊ ရေပွက်၌။ သာရော၊ အနှစ်သာရသည်။ ကိံ ဟိ သိယာ၊ အဘယ်မှာလျှင် ရှိပါအံ့နည်း၊ မရှိနိုင်သည်သာ။

အမျိုးကောင်းသား မင်းယောက်ျား ကြပ်ကြပ်စဉ်းစားလေ၊ ဒီရေပွက်မှာ အနှစ်သာရ ဘာမျှရှာမရပဲနဲ့ အချည်းနှီး အခိုင်အမာသဘောမှ လုံးဝမရိပ် ဆိတ်၍ သုဉ်း၍ အချည်းနှီးဖြစ်၍ ဉာဏ်ထဲမှာ ထင်သလိုပဲ–

ဧဝမေဝ ခေါ ဘိက္ခဝေ ယာ ကာစိ ဝေဒနာ အတီတာနာဂတ ပစ္စုပ္ပန္နာ အဇ္ဈတ္တံ ဝါ ဗဟိဒ္ဓါ ဝါ ဩဠာရိကာ ဝါ သုခုမာ ဝါ ဟီနာ ဝါ ပဏီတာ ဝါ ယာ ဒူရေ သန္တိကေ ဝါ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ဧဝမေဝခေါ၊ ဤအတူ ပင်လျှင်။ ယာ ကာစိ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော။ အတီတာနာဂတ ပစ္စုပ္ပန္နံ၊ အတိတ် အနာဂတ် ပစ္စုပ္ပန် ကာလအားဖြင့် သုံးထွေပြားသော။ ဝေဒနာ ဝါ၊ ဝေဒနာ တရားအစုသည် လည်းကောင်း။ အဇ္ဈတ္တံ ဝါ၊ အဇ္ဈတ္တသန္တာန်၌လည်း ဖြစ်သော။ ဗဟိဒ္ဓါဝါ၊ ဗဟိဒ္ဓသန္တာန်၌လည်း ဖြစ်သော။ ယာ ကာစိ ဝေဒနာ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ဝေဒနာ ခံစားမှု တရားအစုသည် လည်းကောင်း။ ဩဠာရိကာ ဝါ၊ ရုန့်ရင်း ကြမ်းတမ်းသည်လည်းဖြစ်သော။ သုခုမာ ဝါ၊ သိမ်မွေ့နူးညံ့သည်လည်း ဖြစ်သော။ ယာ ကာစိ ဝေဒနာ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ဝေဒနာ ခံစားမှု သဘောသည်လည်းကောင်း။ ဟီနာ ဝါ၊ ယုတ်ညံ့သည်လည်း ဖြစ်သော။ ပဏီတာ ဝါ၊ မွန်မြတ်သည်လည်း ဖြစ်သော။ ယာ ကာစိ ဝေဒနာ ဝါ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော ခံစားမှုတရားစုသည် လည်းကောင်း။ ဒူရေ၊ ဝေးခြားသော အရပ်၌ဖြစ်သော။ ယာ ဝေဒနာ ဝါ၊ အကြင်ဝေဒနာသည် လည်းကောင်း။ သန္တိကေ၊ နီးကပ်သော အရပ်၌ ဖြစ်သော။ ယာ ဝေဒနာ ဝါ၊ အကြင်ဝေဒနာသည် လည်းကောင်း။ အတ္ထိ၊ ရှိ၏။

တံ ဘိက္ခု ပဿတိ နိဇ္ဈာယတိ ယောနိသော ဥပပရိက္ခတိ။

တံ၊ ထို၁၁ ပါး အမျိုးပြားတဲ့ ဝေဒနာက္ခန္ဓာအစုကို။ ဘိက္ခု၊ ယောဂီ **ရဟန်းသည်။ ပဿတိ၊ ကြည့်ရှု၏။** (ပကတိမျက်စိဖြင့် ဖွင့်၍ ကြည့်သည့်ပမာ ဉာဏ်မျက်စိဖြင့် စေ့စေ့စပ်စပ် ဝေဒနာကို ကြည့်ရှုတယ်)။ **နိဇ္ဈာယတိ၊ ဥပစာရဈာန်စိတ်ဖြင့် စူးစူးစိုက်စိုက် စဉ်းစဉ်းစားစား ကြည့်ရှု၏။**

ယောနိသော၊ ဟုတ်မှန်သော အကြောင်းအားဖြင့်။ ဥပပရိက္ခတိ၊ ပညာသက်ဝင် ဆင်ခြင်၍ ကြည့်ရှု၏။

အကြောင်းနဲ့ ကိုင်ပြီးတော့ ဒီရုပ်ပေါ်မှာပေါ့လေ-ဉာဏ်ပညာသက်ဝင်ဆင်ခြင်ပြီးတော့ ကြည့်လိုက်။ ကြည့်လို့ရှိရင် ဘယ်လိုဖြစ်လာမလဲဆိုတော့-

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတော ရိတ္တကညေဝ ခါယတိ၊ တုစ္ဆကညေဝ ခါယတိ၊ အသာရကညေဝ ခါယတိ၊ ခါယတိ။ ကိံ ဟိ သိယာ ဘိက္ခဝေ ဝေဒနာယ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ တံ၊ ထိုဝေဒနာက္ခန္ဓာတရားအစုကို။ ပဿတော၊ ရှုကြည့်သော။ နိဇ္ဈာယတော၊ ဥပစာရသမာဓိဖြင့် စူးစူးစိုက်စိုက် စဉ်းစဉ်းစားစားကြည့်ရှုသော။ ယောနိသော၊ ဟုတ်မှန်သောအကြောင်းဖြင့်။ ဥပပရိက္ခတော၊ ပညာသက်ဝင် ဆင်ခြင်ကြည့်ရှုသော။ တဿ၊ ထိုရဟန်း၏ဉာဏ်ထဲ၌။ တံ၊ ထိုဝေဒနာ တရားအစုသည်။ ရိတ္တကညေဝ၊ နိစ္စ သုခ သုဘ ဟူသည် မြူမျှမရိပ် ဆိတ်သောသဘောရှိ၍သာလျှင်။ တုစ္ဆကညေဝ၊ နိစ္စ သုခ သုဘဟူသည် မြူမျှမညီး အချည်းနှီးဖြစ်၍ သာလျှင်။ အသာရကညေဝ၊ နိစ္စသာရ သုခသာရ အတ္တသာရ ရှာမရသည် ဖြစ်၍သာလျှင်။ ခါယတိ၊ ဉာဏ်ဝယ် ထင်တော့၏။

ကြပ်ကြပ်ကြည့်လေ ရိတ္တ တုစ္ဆ အသာရ နိစ္စ သုခ သုဘ အတ္တဆိုတဲ့ ဒီသဘောတွေလုံးလုံးမရိပ် ဒီသဘောတွေမှကင်းဆိတ်တဲ့အနေ ဒီသဘောတွေ လုံးလုံးနဲ့ မစပ်မနှီး အဲဒီသဘောတွေမှ အချည်းအနှီး လက်ဆုပ်၊ လက်ဆုပ်ထဲမှာ ဗလာလက်ဆုပ်လို့ ခေါ်တယ်။ ဗလာလက်ဆုပ်ကြီးကို ဒီတိုင်း ဗလာ ဆုပ်ထားလို့ရှိရင် အဲဒါဖြန့်ပြလိုက်လို့ရှိရင် အဲဒီလက်ဆုပ်ထဲ ဘာမှမရှိတာကို အချည်းအနှီးလို့ ခေါ်တယ်။ အဲဒီဟာလိုဘဲ နိစ္စ သုခ အတ္တဆိုတဲ့ သဘောနဲ့ ဘာမျှမရှိ၊ ရေးရေးနဲ့ ဉာဏ်ထဲမှာ ထင်လာတယ်။ ထင်အောင်ကြည့်၊ ဘာကြောင့်လဲ ဆိုတော့ ကဲ သူ့ကို နိစ္စ သုခ သုဘ

အတွက်လို့ ရှာရမလဲ၊ သူ့ကိုက သာရမရှိတဲ့ သဘောချည်း။ ဘုရားက–ကိံ ဟိ သိယာ ဘိက္ခဝေ ဝေဒနာယသာရော။

ဝေဒနာက္ခန္ဓာသည် ရေပွက်နဲ့ တူတဲ့နေရာမှာ အနှစ်မဲ့ခြင်း အားဖြင့်လဲ တူတယ်၊ ပကတိရေပွက်ကို ဟုဟ်လား ပကတိရေပွက်မှာ အနှစ်သာရမရှိ–မရသလို ဝေဒနာက္ခန္ဓာမှာလဲပဲ နိစ္စ သုခ အတ္တဆိုတဲ့ အနှစ်သာရဘာမှ ရှာမရဘူး၊ ဒါကြောင့် ရေပွက်နဲ့ တူတယ်။

ပကတိရေပွက်ကို လက်နဲ့ ကိုင်လို့လဲ မရဘူး၊ ကိုင်ပါသော်လဲ လက်ထဲတင်ပျက်မယ်။ ဒီအတိုင်းပဲ ဝေဒနာက္ခန္ဓာမှာလဲပဲ နိစ္စရယ်လို့ ကိုင်ကြည့်၊ ကိုင်တုန်းပျက်၊ သုခရယ်လို့ ကိုင်ကြည့်စမ်း၊ ကိုင်တုန်းပျက်၊ သုခရယ်အတ္တရယ်လို့ ကိုင်ကြည့်၊ ဒိဋ္ဌိလက်နဲ့ ကိုင်ကြည့်၊ ကိုင်လို့ရှိရင်ဖြင့် ကိုင်တုန်းပျက်တာပဲတဲ့။

ပြီးတော့ကောဆိုတော့ ပကတိရေပွက်ဟာ သိပ်ကြာကြာတည်တာမဟုတ်ဘူး။ ယခုဆို ပလုံဆို တပြိုးဖြိုက်ဆို ပျောက်သွား။ ဒီလိုပဲတဲ့ ဝေဒနာဆိုကဲ့ ရေပွက်က ဒီထက်မြန်သေးတယ်၊ လက်ဖြောက် တတွက်အတွင်းမှာ လက်ဘဖျစ် လျှပ်တပြက်အတွင်းမှာ စိတ္တက္ခဏငယ်အပေါင်းတွေ ကုဋေတသိန်းလို့ ဆိုတဲ့အတိုင်း လျှပ်တပြက်အတွင်းမှာ စိတ္တက္ခဏပေါင်းကုဋေတသိန်းကျော်ကျော် ဖြစ်နိုင်တယ်ဆိုတော့ ဝေဒနာပေါင်းလဲ ကုဋေတသိန်းကျော်ကျော် ဖြစ်တာပဲ။ အဲဒီလို ကုတ္တရနေ၁်၊ လျှပ်ပြက်တဲ့အချိန်ကလေး တချိန်အတွင်းမှာပင် လျှပ် ကုဋေတသိန်းကျော်ကျော် ဝေဒနာတွေ ချုပ်ပျောက်ကြ၊ ရေပွက်လဲ ခဏဖြစ် ခဏချုပ်တာ၊ ဝေဒနာလဲ ခဏဖြစ် ခဏချုပ်၊ ဤအနေနဲ့ ရေပွက်နဲ့ ဝေဒနာတူကြတယ်။

ဟင် တခါ စတုတ္ထ အတူက ပကတိရေပွက်ဟာ ဘာ၁ရှိမှဖြစ်တုံး၊ ကြည့်စမ်း၊ ရေပွက်ဆိုတာ အောက်ကရေ အပြင်အခံရှိမှပဲ ဖြစ်တယ်၊ အောက်က ရေအပြင်အခံပေါ်မှာ အထက်ကနေပြီးတော့ မိုးပေါက်ရေပေါက်ကျမှလဲ ဖြစ်တယ်။ ပကတိကြည်နေတဲ့ အောက်က ရေပေါ်မှာ အပေါ်က ရေကြည်ပေါက်ကျလို့လဲ ရေပွက်မဖြစ်ဘူး။ ဒီအောက်ရေပြင်ပေါ်မှာ ရေရဲ့ အကြေး အမြေးကလေးတွေလဲရှိရအုံးမယ်။ အဲဒီ ၃–မျိုး စုံတဲ့နောက်မှ အဲဒီ ၃ မျိုးကို စုပေးတယ်–ဟုတ်လား၊ အစုအပေါင်းပြုလုပ်

ပေးတဲ့ ဝါယောဓာတ်ဆိုတဲ့ အဲဒီ သဘောကလေးတွေလဲ ရှိရအုံးမယ်၊ အဲဒီတရား ၄-မျိုးဆုံမှ ရေပွက်ဆိုတာ ပေါ်ဖြစ်တယ်၊ထို့ အတူပဲ ဝေဒနာ ဆိုတဲ့ ရေပွက်လဲပဲ အောက်က ဝတ္ထုဆိုတဲ့ အခံရေပြင်ရှိရအုံးမယ်။အပေါ် ကကျတဲ့ ရေပေါက်နဲ့ တူသော အာရုံဆိုတဲ့ ရေပေါက်လဲ ရှိရအုံးမယ်၊ ကိလေသာတည်းဟူသော ချေးလဲ ရှိရအုံးမယ်။ ဒါကတော့ အကုသိုလ် ဝေဒနာတွေအတွက် ရေချေး၊ ဖဿတည်းဟူသော လုံးစုပေးတဲ့ တွေ့ ထိမှု ထိခိုက်မှုဖဿတည်းဟူသော စုပေါင်းပေးတဲ့ဟုတ်လား လေသဘော မျိုးလဲ ရှိရအုံးမယ်။ အဲဒီ အကြောင်းလေးပါးစုံမှ ဝေဒနာတည်းဟူသော ရေပွက်ဖြစ်တယ်၊ အဲဒီလိုဖြစ်တဲ့ အကြောင်းလေးပါးကြောင့် ပကတိ ဥပမာ ရေပွက်မှာ အနှစ်သာရ ရှာမရသလို ယှဉ်မရသလို ဥပမေယျဖြစ် တဲ့ ဝေဒနာမှာလဲပဲ အနှစ်သာရ ရှာမရပါတကား၊ နိစ္စ အနှစ် သုခ အနှစ်. အတ္တအနှစ် ရှာမရပါတကား၊ ဒါကြောင့် ဘုရားကိုယ်တော်မြတ် ကြီးက ဝေဒနာသည် ရေပွက်နဲ့ တူတယ် ဟောပါတကားလို့ ဉာဏ် ထဲမှာ စဉ်းစား။

တတိယကျတော့ ဘုရားက-

သေယျထာပိ ဘိက္ခဝေ ဂိမှာနံ ပစ္ဆိမေ မာသေ ဌိတေ မဇ္ဈ
နှိကေ ကာလေ မရီစိကာ ဖန္ဒတိ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ သေယျထာပိ၊ လောကူ ပမာ နှိုင်းဖွယ်ရာကား။ ဂိမှာနံ၊ နွေလတို့၏။ ပစ္ဆိမေမာသေ၊ နောက် ဆုံးဖြစ်တဲ့ နယုန်လပြည့်ကျော် ၁ ရက်မှသည် ဝါဆိုလပြည့်တိုင် ဤတလ အတွင်း၌ (နွေလ၏နောက်ဆုံး တလဆိုတာ နယုန်လပြည့်ကျော် ၁-ရက် က ဝါဆိုလပြည့်လိုအောင် ဒီတလအတွင်းမှာ ဘာဖြစ်တတ်တုံးဆိုတော့) ဌိတေ မဇ္ဈန္ဟိကေ ကာလေ၊ နေမွန်းတည့်ရှိန်ရှိန်တည့်မတ်သော ကာလ၌။ မရီစိကာ၊ လင်းလပ်ခေါ်တဲ့ တံလျှပ်သည်။ ဖန္ဒတိ၊ ကလျှပ်လျှပ် တုန် လှုပ်၏။

မြော်ကြည့်စမ်းတဲ့၊ နယုန်ဝါဆိုဆိုတဲ့ အညာမှာ ဒါသာ ဖြစ်တယ်၊ တကာတဲ့ မိုးဦးကလဲမကျတကျ၊ နွေနှောင်း အင်မတန်လဲပူခိုက်။ အဲဒီလို ပူပြီဆိုတဲ့ အချိန်အခါမှာ ရေငွေ့မကင်းတဲ့နေရာမှာ လင်းလပ်လို့ခေါ်

တဲ့ တံလျှပ်ဟာ ပေါ်တတ်တယ်နော်၊ အဲဒီပေါ်တဲ့ လင်းလပ်တံလျှပ်ဟာ ကြည့်လိုက်လို့ရှိရင် ရိပ်ရိပ် ရိပ်ရိပ် ရိပ်ရိပ်နဲ့ တကတဲ လှိုင်းလိပ်ကြီးများ လို လှိုင်းအဟုန်ကြီးများ ထနေသလို ထင်ရတယ်၊ ထင်ချင်ထင် တောင် ပေါ်က သွားပြီးတော့ အနောက်ဘက်က ရေပြင်ကြီးများလှမ်းပြီး ကြည့် လိုက်လို့ရှိရင် ရေတွေကို ရိပ်ရိပ် ရိပ်ရိပ်နဲ့ လှိုင်းလိပ် တက်နေသလိုပဲ ထင်ရတယ်၊လင်းလပ်တွေနော်၊ လင်းလပ်တွေ။ အဲဒီ လင်းလပ်တွေ မြင် တယ် မဟုတ်လား၊ တရိပ်ရိပ်နဲ့ လှုပ်နေတယ်။

ဟာမေနံ စက္ခုမာ ပုရိသော ပဿေယျ နိဇ္ဈာယေယျ ယောနိ သော ဥပပရိက္ခေယျ။

အဲဒီလင်းလပ်ကို ဉာဏ်အမြင်ရှိတဲ့ ပကတိ မျက်စိလဲ ကောင်းတဲ့ အမျိုးကောင်းသား မင်းယောကျ်ားတယောက်ဟာ ကြည့်လဲကြည့်မယ်၊ စဉ်းစဉ်းစားစား စိုက်စိုက်စူးစူးလဲကြည့်မယ်၊ ဉာဏ်နဲ့သက်ဝင် ဆင်ခြင် ပြီးတော့လဲ ကြည့်မယ်ပဆိုလို့ရှိရင်-

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတော ရိတ္တကညေ၀ ခါယေယျ၊ တုစ္ဆကညေ၀ခါယေယျ၊ အသာရကညေ၀ ခါယေယျ။

ရှေ့ကအတိုင်း အနက်က၊ အဲဒီလို လင်းလပ်ကို စိုက်စိုက်စူးစူး ဉာဏ် ပညာ သက်ဝင်ဆင်ခြင်ကြည့်ရှုတဲ့ အမျိုးကောင်းသား မင်းယောကျ်ား ရဲ့ဉာဏ်ထဲမှာ အဲဒီလင်းလပ် ဘယ်လိုထင်လာသတုံး၊ ဘာမှ ကိုင်စရာ ယူစရာ တွယ်စရာ ရစရာဟူ၍ လုံးဝ မရှိမရှေ့ အဲဒီသဘောတွေမှ ဆိတ်၍၊ အဲဒီသဘောတွေမှ သုဉ်း၍၊ အဲဒီသဘောတွေမှ အချည်းနှီးဖြစ်၍ ဘာမှ အနှစ်မရတဲ့ အနေနဲ့ ထို အမျိုးကောင်းသား မင်းယောကျ်ား၏ဉာဏ် ထဲမှာ ထင်မလာဘူးလား၊ လာတယ်။

ကိံ ဟိ သိယာ ဘိက္ခဝေ မရီစိကာယ သာရော။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့၊ မရီစိကာယ၊ လင်းလပ် ၌ (ဝါ) တံလျှပ်၌။ သာရော၊ အနှစ်သာရသည်။ ကိံ ဟိ သိယာ၊ အဘယ်

မှာရှိပါအံ့နည်း။ န သိယာ ဝေ။ မရှိကေန် မှန်လှသည်သာ။ ပကတိ လင်းလပ် အနှစ်သာရ ရှာမရ။

ဝေမေဝ ခေါ ဘိက္ခဝေ၊ ယာ ကာစိ သညာ အတီတာ နာဂတ ပစ္စုပ္ပန္နာ အဇ္ဈတ္တံ ဝါ ဗဟိဒ္ဓါဝါ ဩဠာရိကာ ဝါ သုခုမာ ဝါ ဟီနာ ဝါ ပဏီတာ ဝါ ယာ ဒူရေ သန္တိကေ ဝါ။

ဤနည်းအတူပဲ၊ စောစောကပြောတဲ့ လိမ်မာတယ် ပါးနပ်တယ်လို့ ပုထုဇဉ်တွေမှာ သုံးနှုန်းတဲ့ သညာခေါ်တဲ့ တရား ၁၁ ပါး မရှိဘူးလား။ အဲဒီ ၁၁ ပါးကို တံ ဘိက္ခု ပဿတိနိဇ္ဈာယတိ ယောနိသော ဥပပရိက္ခတိ၊ ဉာဏ်မျက်စိနဲ့ ကြည့်မယ်။ ဥပစာရ သမာဓိရောက်လို့ စိုက်စိုက် စူးစူး စဉ်းစဉ်း စားစား ဒီသညာတရားကိုကြည့်မယ်၊ဟုတ်မှန်သော အကြောင်း နဲ့ ပစ္စယပရိဂ္ဂဟ ဉာဏ်နဲ့ ပိုင်ပိုင်နိုင်နိုင်ကြီး အဲဒီ သညာရဲ့ အကြောင်း ကို ပညာသက်ဝင် ဆင်ခြင်ကြည့်ရှုမယ်ပဆိုရင်-

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပ ပရိက္ခတော ရိတ္တကညေဝ ခါယတိ၊ တုစ္ဆကညေဝ ခါယတိ၊ အသာရကညေဝ ခါယတိ၊ ကိံ ဟိ သိယာ ဘိက္ခဝေ၊ သညာ ယ သာရော။

**အဲဒီ**သညာက္ခန္ဓာကို စိုက်စိုက် စူးစူး ကြည့်ရှုတဲ့ ယောဂီပုဂ္ဂိုလ် သူမြတ် ၏ ဉာဏ်ဝယ် အဲဒီ သညာက္ခန္ဓာဟာ နိစ္စ သုခ အတ္တ သုဘဆိုတဲ့ ဒီ သဘောများ လားလားမျှမရိပ် အဲဒီသဘောတွေမှ ဆိတ်၍လည်းကောင်း ဒီသဘောတွေနဲ့ လားလားမျှ မပြီး အချည်းနှီးဖြစ်၍ လည်းကောင်း၊ဤ အနှစ်သာရတွေမှာ ရှာမရသော အနေနဲ့လည်းကောင်း၊ ဉာဏ်ဝမှာ ထင်လာပါတယ်။ ချစ်သားတို့မှာ သညာက္ခန္ဓာမှာ အနှစ်သာရရယ်လို့ ဘယ်မှာရှိသလဲ၊ ဒီခန္ဓာမှ ဘယ်ခန္ဓာမှ အနှစ်သာရမရှိဘူး၊ အကယ်၍ သညာက္ခန္ဓာမှာ အနှစ်သာရရှိတယ်၊ အကယ်၍များ ရှိတယ်ပဆိုလို့ရှိရင် သူတော်ကောင်း တရားကျင့်ခြင်းဆိုတာ မပေါ်နိုင်ဘူးတဲ့၊ ဒီခန္ဓာငါးပါး က အနှစ်သာရနဲ့ဘင် တင်းတိမ်နေမှာ။ အဲဒါကြောင့် ခန္ဓာငါးပါး

စလုံး ဘယ်သူ့မှ မရှိပါဘူး၊ နို့ ဒီသညာကန္ဓာမှာကော အနှစ်သာရမရှိ တာခြင်းတူကယ်၊ စွဲယူလို့မရတာခြင်းတူတယ်။ ဘေးကလူတွေကို ပကတိ လင်းလပ်ဟာ ဘယ်လိုပြောစေသလဲ၊ ဟာ–ရေရှိတဲ့ မြစ်ကြီးထင်ပဟာ၊ စသည်ဖြင့် အလွဲလွဲအမှားမှား ပြောကြားစေတယ်၊ ပကတိ လင်းလပ် အဲဒီလိုပဲ၊ ဒီသညာကလဲပဲ ပုထုဇဉ်သတ္တဝါတွေကို သူ ဘယ်လို ပြောစေ သလဲ၊ နိစ္စ–အင်မတန်လှတယ် အင်မတန် တင့်တယ်တယ် အင်မတန် ဖွယ် ရာတယ် စသည်ဖြင့် နှုတ်ဖျားမှာပေါ့လေ အလွဲလွဲ အမှားမှားပြောကြား စေတယ်၊ အဲဒီလို အလွဲလွဲ အမှားမှား ပြောကြားစေသော အနေနဲ့လဲပဲ သညာသည် လင်းလပ်ခေါ်တဲ့ တံလျှပ်နဲ့တူတယ်။

ပကတိ လင်းလပ်တံလျှပ်သည် ဘယ်တော့မှ ရပ်တည်၍ မနေဘူး၊ တလျှပ်လျှပ်လှုပ်တယ်၊ တလျှပ်လျှပ်လှုပ်လို့ သူ့ကို တံလျှပ်လို့ ဒီလိုခေါ် နေဟယ်။ သညာကော ထို့အတူပဲ၊အဲတလျှပ်လျှပ် တုန်လှုပ်ပြီးတော့ ဒီလို မနေတဲ့တရား၊ ဒီအနေဖြင့် သညာနဲ့ တံလျှပ်တူတယ်။ တံလျှပ်နဲ့တူသော ဤသညာကန္ဓာသည် အနှစ်သာရ မရှိပါတကား။ ဒီသညာကန္ဓာကို သညာတရားအစုကို လိမ်မာမှု ပါးနပ်မှု သညာတရားအစုကို နိစ္စ သုခ သုဘ အတ္တဟူ၍ စွဲယူသော်လဲ လင်းလပ်ကို စွဲယူ၍ မရသကဲ့သို့ ယူမရ ပါ တကားလို့ သညာကန္ဓာပေါ်၌ ဘုရားအလိုတော်ကျ သိနိုင်ပါစေ။

သေယျထာပိ ဘိက္ခဝေ ပုရိသော သာရတ္ထကော သာရဂဝေ
သီ သာရပရိယေသနံ စရမာနော တိဏှံ ကုဌာရိံ အာဒါယ ဝနံ
ပဝိသေယျ။

ဘိက္ခဝေ၊ ရဟန်းတော်များ အို့ချစ်သားတို့။ သေယျထာပိ၊ လောကူ ပမာ နှိုင်းဖွယ်ရာကား။ သာရတ္ထိကော၊ အနှစ်ကို အလိုရှိသော။ သာရ ဂဝေသီ၊ အနှစ်ကို ရှာမှီးလေ့ရှိသော။ ပုရိသော၊ ယောကျာ်းသည်။ သာရပရိယေသနံ၊ သစ်ပင်၏အနှစ်ကို ရှာမှီးဖို့ရန်။ စရမာနော၊ ရိပ်ရိပ် ကျက်စား သွားလာလတ်သည်ရှိသော်။ တိဏှံ၊ ထက်စွာသော။ ကုဌာရိံ၊ ပုဆိန်ကို။ အာဒါယ၊ယူ၍၊ ဝနံ၊ တောအတွင်းသို့။ ပဝိသေယျ၊ ဝင်လေ

လူတယောက် အမျိုးကောင်းသား မင်းယောကျ်ားတယောက် ခိုင်မာတဲ့သစ်ပင်အနှစ်ကိုလိုချင်လို့ အင်မတန်ထက်လှစွာသော ဓားမကြီးကိုင်ပြီး တောအတွင်းဝင်ခဲ့—

သော တတ္ထ ပဿေယျ မဟန္တံ ကဒလိက္ခန္ဓံ ဥဇုံ နဝံ အကုက္ကုကဇာတံ။

သော။ ထိုအနှစ်ကို အလိုရှိတဲ့ ယောကျ်ားသည်။ တတ္ထ၊ ထိုတောအတွင်း၌၊ မဟန္တံ။ အထယ်အားဖြင့် ကြီးသည်လည်းဖြစ်သော။ ဥဇုံ၊ ကျောက်ဖယောင်းတိုင်အလား ဖြောင့်မတ်သည်လည်းဖြစ်သော။ နဝံ။ အသစ်စက်စက်လည်းဖြစ်သော။ အကုက္ကုကဇာတံ၊ အတွင်း၌ လုံးဝအနှစ်မရောက်သော။ ကဒလိက္ခန္ဓံ၊ ငှက်ပျောတုံးကြီးကို။ ပဿေယျ၊ မြင်လေရာ၏။

အနှစ်လိုချင်လို့ ခိုင်မာတဲ့ တိုင်ကြီး လိုချင်လို့မို့လို့ ဖြောင့်တဲ့တိုင်ကြီးလဲလိုချင်လို့ တောထဲသွားရှာတော့ ငှက်ပျောပင်ကြီး သွားတွေ့။ ကြည့်လိုက်ရ ကျောက်ဖယောင်းတိုင်ကြီးလိုမဲ၊ ထူးပြီးတော့တောင် ရွေးရမှာမဟုတ်ဘူး၊ဖြူးလို့ပဲ သွားတွေ့၊ ဘာမှ ကော်ပတ်နဲ့ ဘာနဲ့စားဖို့မလိုဘူး၊ သူ့ကိုက အရောင်ထွက်ပြီးတော့ အသစ်စက်စက်ကြီး၊ တခါထဲပြိုးပြိုးပြက် လက်နေတယ်၊ ဒါကြီး သွားတွေ့၊ သို့သော် သူရဲ့အတွင်းကတော့ အနှစ်မရောက်တဲ့ သဘောပါပဲ။

တမေနံ မူလေ ဆိန္ဒေယျ။ ။တမေနံ၊ ထိုအနှစ်မဲ့တဲ့ ငှက်ပျောပင်ကြီးကို။သော၊ထိုအနှစ်ကိုအလိုရှိတဲ့ အမျိုးကောင်းသား မင်းယောကျ်ားသည်။ မူလေ၊ အရင်း၌။ ဆိန္ဒေယျ၊ ဖြတ်တောက်လေရာ၏။ ဒါကြီးဖြင့်တိုင်လုပ်လို့ ကောင်းမှာပဲဟ ဆိုပြီးတော့ တခါထဲ အရင်းကနေလှဲလိုက် အရင်းကနေလှဲတော့ အရင်းဖြင့် အနှစ် တယ် မတွေ့ဘူး၊ တချက်ခုတ်တာနဲ့ ဒီတိုင်ကြီးဟာ လဲသွားတာပဲ၊ ဒီအပင်ကြီးဟာ လဲသွားပြီဆိုပြီးတော့ မူလေ ဆေတွာ အဂ္ဂေ ဆိန္ဒေယျ။ ။မူလေ၊ အရင်း၌။ ဆေတွာဖြတ်ပြီးလျှင်။ အဂ္ဂေ၊ အဖျား၌။ ဆိန္ဒေယျ၊ ဖြတ်ရာ၏။ အရင်းဖြတ် အဖျားဖြတ် ဖြတ်ပြီးပြီ၊ ဖြတ်ပြီးတော့ ဘာလုပ်သတုံးဆိုတော့ အဂ္ဂေ ဆေတွာ

ပတ္တဝဋ္ဋံ ဝိနိဗ္ဘုဇေယျ။ ။အဂ္ဂေ၊ အဖျားနှံ၌။ ဆေတွာ၊ ဖြတ်ပြီးလျှင်။ ပတ္တဝဋ္ဋံ၊ ငှက်ပျောလွှာတွေကို။ ဝိနိဗ္ဘုဇေယျ၊ တလွှာတလွှာခွာ၍ ဖြတ်ငြားအံ့။ ငှက်ပျောတုံးကြီးက အပေါ်ရံအလွှာတွေကို တလွှာနှစ်လွှာ အနှစ်တွေ့နိုးနိုးနဲ့ လွှာလွှာပြီး ကြည့်လိုက်တဲ့အခါ သော တသ ပတ္တဝဋ္ဋံ ဝိနိဗ္ဘုဇန္တော ဖေဂ္ဂုမ္ပိ နာဓိဂစ္ဆေယျ၊ ကုတော သာရံ။ ။သော၊ ထိုအနှစ်လိုလား မင်းယောကျ်ားသည်။ တဿ၊ ထိုငှက်ပျောတုံးကြီး၏။ ပတ္တဝဋ္ဋံ၊ အပေါ်ရံ အပေါ်ရံ အလွှာအစုစုကို။ ဝိနိဗ္ဘုဇန္တော၊ ခွာချသည်ရှိသော်။ ဖေဂ္ဂုမ္ပိ၊ အကာမျှကိုပင်သော်လည်း။ နာဓိဂစ္ဆေယျ၊ မရနိုင်လေရာ။သာရံ အနှစ်သာရကို။ ကုတောအဓိဂစ္ဆေယျ၊ အဘယ်မှာလျှင် ရနိုင်အံ့နည်း။ အနှစ်ရနိုးနဲ့ ငှက်ပျောတုံးကြီးကို အပေါ်ကနေပြီး တလွှာ နှစ်လွှာ လွှာချ၊ ဘယ်လောက်ပဲချချ နောက်ဆုံး အကာတောင်မှ မရဘူးတဲ့၊ အနှစ်ဆိုတာ မပြောနဲ့၊ အဲဒီ အမျိုးကောင်းသား မင်းယောကျ်ား အနှစ်လိုချင်လို့ လွှာချသွားတဲ့ ငှက်ပျောတုံးကြီးကို–

တမေနံ စက္ခုမာ ပုရိသော ပဿေယျ နိဇ္ဈာယေယျ ယောနိသော ဥပပရိက္ခေယျ။

ဉာဏ်မျက်စိ ပကတိမံသမျက်စိ အမြင်ကောင်းတဲ့ မင်းယောကျ်ား တယောက် ငှက်ပျောတုံးကြီး အလွှာအလွှာ လွှာချထားတဲ့ ငှက်ပျောတုံးကြီးကို စေ့စေ့စပ်စပ်ကြည့်ပြီဆိုပါစို့၊ ကြည့်လေ–အဲဒီ ငှက်ပျောတုံးကြီး အနှစ်မရှိတာကို မြင်တယ်၊ အဲဒီငှက်ပျောတုံးကြီးက ဘာမှ သုံးမဖြစ်တာကိုလဲ သူမြင်တယ်၊အလွှာတွေများနေတာကိုလဲသူမြင်တယ်၊ အဲဒီငှက်ပျောတုံးကြီးမှာ တလွှာနဲ့တလွှာ အသွေးအရောင်တွေ ကွဲပြားနေဘာလဲသူမြင်တယ်၊ မြင်ပြီးတော့ လူ့ပြည်လောက၌ ဒီငှက်ပျောတုံးကြီးကိုပေါ့လေ လူရဲ့အသုံးအဆောင် အိမ်ထောင်ပရိဘောဂ အနေနဲ့ အသုံးချကြည့်၊ ဘာမှအသုံးချမရပဲနဲ့ အိမ်ထောင်ပရိဘောဂ အသုံးချဖို့ ရန် အရိပ်လုံးဝမသိပဲနဲ့ အဲဒီသဘောတွေမှ ဆိတ်၍ သုဉ်း၍ အချည်းနှီးဖြစ်၍ သူ့ဉာဏ်ထဲ ထင်နေတယ်။ ထို့အတူပဲ–

ဧဝမေဝ ခေါ ဘိက္ခဝေ ယေကေစိ သင်္ခါရာ အတီတာနာဂတပစ္စုပ္ပန္နာ လို့ ဥပမာညွှပ်ပြီး ဥပမေယျဖြစ်တဲ့ သင်္ခါရက္ခန္ဓာဘက်ကိုလဲပဲ ချစ်သားတို့ ဒီနည်းအတိုင်းပဲ ပစ္စုပ္ပန်အတိတ် အနာဂါတ် အဇ္ဈတ္တ ဗဟိဒ္ဓ ဩဠာရိက သုခုမ ဟီန ပဏီတ ဒူရသန္တိက ဟီန ပဏီတ သုခုမ ဩဠာရိက ပြားတဲ့ သင်္ခါရက္ခန္ဓာတရားမရှိဘူးလား၊ သင်္ခါရက္ခန္ဓာ ၅၀–ရှိတတ်။ အဲဒီ သင်္ခါရက္ခန္ဓာ ၅၀–ကို ယောဂီပုဂ္ဂိုလ်သူမြတ်ဖြစ်တဲ့ ရဟန်းတော်အရှင်သူမြတ်ဟာ စေ့စေ့ငပ်စပ် ကြည့်ပြီဆိုလို့ရှိရင် ငှက်ပျောတုံးကြီးလိုပဲ နိစ္စ သုခ သုဘ အတ္တဆိုတဲ့ အနှစ်သာရ လုံးဝမရိပ်ပဲနဲ့ အဲဒီသဘောတွေမှ ဆိတ်၍ အဲဒီသဘောတွေမှ အချည်းနှီး မနှီး မန္တယ်ပဲနဲ့ အဲဒီ အနှစ်သာရ လုံးဝရှာမရတဲ့ အနေနဲ့သာလျှင် ဉာဏ်ပညာ မျက်စိထဲမှာ ယင်လာတယ်။

ကိံ ဟိ သိယာ ဘိက္ခဝေ သင်္ခါရေသု သာရော....လို့၊ သင်္ခါရက္ခန္ဓာ ဘယ်အနှစ်ရှာရမလဲ။ အနှစ်မရှိတာချင်း ငှက်ပျောတုံးနဲ့တူတယ်။ပကတိ ငှက်ပျောတုံးကို ယူပြီးတော့ အိမ်ခေါင်မိုးပေါ် တင်ပြီးတော့ ရေကျက်တို့ ထုပ်တို့ ဒိုင်းတို့ မြှားတို့ လုပ်ကြည့်စမ်းပါ။ သူများ လုပ်မရသလို နိစ္စ ဟည်းဟူသော ကိုင်ကြီး သုခတည်းဟူးသော ထုပ်ကြီး ရောက်ကြီး အတ္တ ဟည်းဟူသော ဒိုင်းကြီး မြှားကြီး သုဘတည်းဟူသော အခြင်ရနယ်ကြီး လုပ်ပြီးကော့ ကြည့်စမ်းပါ၊ ဘယ်နေ့ရေ့မှ သင်္ခါရက္ခန္ဓာ ၅၀–မှာ လုပ်မရဘူးလို့ ယူလို့ သုံးလို့ကို မရခြင်းအားဖြင့်လဲပဲ ငှက်ပျောတုံးနဲ့ တူတယ်။ အလွှာများခြင်း အနေနဲ့လဲပဲ ငှက်ပျောတုံးနဲ့တူတယ်။ ငှက်ပျောတုံးမှာ တလွှာ နှစ်လွှာ စသည်ဖြင့် အလွှာလွှာ အထပ်ထပ်ရှိတယ်၊ သင်္ခါရက္ခန္ဓာမှာ အလွှာပေါင်း ၅၀–ရှိတယ်။ ပကတိ ငှက်ပျောတုံး၌ တလွှာနှင့်တလွှာ အသွေးအရောင် မတူတာလို သင်္ခါရက္ခန္ဓာ ၅၀–မှာလဲပဲ တပါးနဲ့တပါး လက္ခဏာအသွေးအရောင်မတူကြဘူး၊ ဖဿက–တွေ့ထိခြင်း လက္ခဏာရှိတယ်။စေတနာက စေ့ဆော်ခြင်းဆိုတဲ့ အသွေးအရောင်ရှိတယ်။ ဧကဂ္ဂတာက တည်ကြည်မှုဆိုတဲ့ အသွေးအရောင်ရှိတယ်။ ဇီဝိတိန္ဒြေက စောင့်ရှောက်မှုဆိုတဲ့ အသွေးအရောင်ရှိတယ်။ ငါးဆယ်စလုံးဟာ အသွေးငါးဆယ် ထွက်နေတယ်။အသွေးအရောင် ကွဲပြားခြင်းအနေ

နဲ့လဲပဲ သင်္ခါရက္ခန္ဓာနဲ့ ငှက်ပျောတုံးတူတယ်။ ငါးဆယ်သောသင်္ခါရက္ခန္ဓာ တရားတို့သည် အနှစ်သာရ မရှိသောအနေအားဖြင့်လည်းကောင်း။ နိစ္စ သုခ သုဘ အတ္တဟူ၍ စွဲယူမရသော အနေအားဖြင့် လည်းကောင်း၊ တရားကိုယ်အားဖြင့်အလွှာများသကဲ့သို့ တရားကိုယ်အားဖြင့် ၅၀ အပြား ရှိသော အနေနှင့်လည်းကောင်း အဆင်းအရောင် ကွဲပြားသကဲ့သို့ လက္ခဏာ ကွဲပြားသောအနေနှင့်လည်းကောင်း ငှက်ပျောတုံးနှင့် တူကုန် စွတကားလို့ သင်္ခါရက္ခန္ဓာ ၅၀ အပေါ်မှာလဲဒီအတိုင်းရှုနိုင်ပါစေ။

သေယျထာပိ ဘိက္ခဝေ မာယာကာရော ဝါ မာယာကာရန္တေဝါသီ ဝါ စတုမဟာပထေ မာယံ ဝိဒံသေယျ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ မာယာကာရော ဝါ၊ မျက်လှည့်ဆရာသည်လည်းကောင်း။ မာယာကာရန္တေဝါသီဝါ၊ မျက်လှည့် ဆရာ၏ တပည့်သည်လည်းကောင်း၊ စတုမဟာပထေ၊ လူသူလေးပါးဆုံရာ လမ်းလေးခွ၌။ မာယံ၊ မျက်လှည့်ရုပ် အမျိုးမျိုးကို။ ဝိဒံသေယျ ပြနေလေရာ။

စိတ်ကူးထဲမှာကြည့်စမ်း၊ မျက်လှည့်ဆရာတယောက် သို့မဟုတ် မျက်လှည့်ဆရာရဲ့ လိမ်မာတတ်သိတဲ့ အန္တေဝါသိက တပည့်တယောက်လူသူ လေးပါးဆုံရာ လမ်းလေးဆုံမှာ မျက်လှည့်ရုပ် အမျိုးမျိုး ပြနေတယ်ဆိုပါ စို့၊ ပြတော့ဘာပြုတုံး၊ အဲဒီလို ပြတဲ့အနားမှာ–

တမေနံ စက္ခုမာ ပုရိသော ပဿေယျ နိဇ္ဈာယေယျ ယောနိသော ဥပပရိက္ခေယျ။ အဲဒီသူပြတဲ့ မျက်လှည့်ရုပ်ကို ဉာဏ်မျက်စိလဲ ရှိရမယ်၊ ပကတိမျက်စိလဲကောင်းမယ်၊ အဲဒီမျက်စိနှစ်ပါး ကောင်းမွန်တဲ့ အမျိုး ကောင်းသား မင်းယောကျ်ားသည် စိုက်စိုက်စူးစူး ထိုသူပြတဲ့မျက်လှည့် ရုပ်ကို ကြည့်ပြီဆိုပါစို့၊ ကြည့်ရင် ထိုသူပြတာ–ပြတဲ့ မျက်လှည့်ရုပ်တွေ ဟာ မခိုင်မမာတဲ့ ယူမရ သုံးမရတဲ့ အနေနဲ့သာလျှင် ထိုသူ့ ဉာဏ်ထဲ ထင်မလာဘူးလား။ ထင်ပါတယ်။

ဝေမေဝ ခေါ ဘိက္ခဝေ ယံ ကိဉ္စိ ဝိညာဏံ အတီတာ နာဂတ– ပစ္စုပ္ပန္နံ အဇ္ဈတ္တံ ဝါ ဗဟိဒ္ဓာ ဝါ ဩဠာရိကံ ဝါ သုခုမံ ဝါ ဟီနံ ဝါ ပဏီတံ ဝါ ယံ ဒူရေ သန္တိကေ ဝါ။ ဤနည်းပဲ ချစ်သားတို့။ ၁၁–ပါး

အပြားရှိတဲ့အကျယ် ၁၂၁–ပါးရှိသော ဝိညာဏက္ခန္ဓာတရားအစု မရှိဘူးလား၊ ရှိတယ်။ အဲဒီဝိညာဏက္ခန္ဓာ တရားအစုထဲက လောကီစိတ် ၈၁–ပါးဆိုတဲ့ ဝိပဿနာဘူမိတရားတွေ။

တံ ဘိက္ခု ပဿတိ နိဇ္ဈာယတိ ယောနိသော ဥပပရိက္ခတိ။

တံ၊ ထိုဝိညာဏက္ခန္ဓာကို။ ဘိက္ခု ယောဂီရဟန်းသည်။ ပဿတိ၊ ရှုကြည့်၏။ နိဇ္ဈာယတိ၊ ဥပစာရ သမာဓိဖြင့် စိုက်စိုက်စူးစူး စဉ်းစဉ်းစားစား ရှုကြည့်၏။ ယောနိသော၊ ဟုတ်မှန်သော အကြောင်းဖြင့် ။ဥပပရိက္ခတိ၊ ပညာသက်ဝင် ဆင်ခြင်၍ရှုကြည့်၏။

တဿ တံ ပဿတော နိဇ္ဈာယတော ယောနိသော ဥပပရိက္ခတော ရိတ္တကညေဝ ခါယတိ၊ တုစ္ဆကညေဝ ခါယတိ၊ အသာရကညေဝ ခါယတိ၊ ကိံ ဟိ သိယာ ဘိက္ခဝေ ဝိညာဏေ သာရော။

တံ၊ ထိုဝိညာဏက္ခန္ဓာကို။ ပဿတော၊ ကြည့်ရှုသော (ရိုးရိုးပဲ)။ နိဇ္ဈာယတော၊ ဥပစာရ သမာဓိဖြင့် စိုက်စိုက်စူးစူး ကြည့်ရှုသော (သမာဓိ ရင့်လာတဲ့အချိန်)။ ယောနိသော၊ ဟုတ်မှန်သောအကြောင်းဖြင့်။ ဥပပရိက္ခတော၊ ပညာသက်ဝင် ဆင်ခြင်ကြည့်ရှုသော (အကြောင်းနှင့်တကွ ကိုင်ပြီးတော့ ဒီ ဝိညာဏက္ခန္ဓာရဲ့ သဘောကို ဆင်ခြင်ကြည့်ရှုတဲ့)။တဿ၊ ထိုယောဂီရဟန်းတော် အရှင်သူမြတ်၏ဉာဏ်၌။ တံ၊ ထိုဝိညာဏက္ခန္ဓာသည်။ ရိတ္တကညေဝ၊ (စောစောကလို) နိစ္စ သုခ အတ္တ သုဘ ဟူသည် မြူမျှမရိပ် ဆိတ်သည်ဖြစ်၍သာလျှင်။ တုစ္ဆကညေဝ၊ နိစ္စ သုခ သုဘ အတ္တ ဟူသည် မြူမျှမရှိ အချည်းနှီး ဖြစ်၍သာလျှင်။ အသာရကညေဝ၊ နိစ္စ သုခ သုဘ အတ္တဆိုတဲ့ အနှစ်သာရတို့မှ ကင်းဆိတ်သည်ဖြစ်၍သာလျှင်။ခါယတိ ထင်ခဲ့၏။ ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့။ ဝိညာဏေ၊ ဝိညာဏက္ခန္ဓာ၌။ သာရော၊ နိစ္စသာရ သုခသာရ အတ္တသာရဆိုတဲ့ နိစ္စလို့ စွဲယူစရာအနှစ် သုခလို့ စွဲယူစရာ အနှစ် အတ္တလို့ စွဲယူစရာအနှစ်သည်။ ကိံ ဟိ သိယာ၊ အဘယ်မှာလျှင် ရှိနိုင်အံ့နည်း။ မရှိသည်သာလို့။ အဲဒီလို နိဂုံးအုပ်ပြီးတော့ ဘုရားဟောခဲ့တယ်။

မျက်လှည့်ရုပ်နဲ့ ဝိညာဏက္ခန္ဓာနဲ့ တူတယ်။ ဘယ်လိုတူတုံး၊ ပကတိ မျက်လှည့်သမားပြတဲ့ အရုပ်လိုပေါ့လေ။ ကြည့်စမ်းပါ၊

အနှစ်မရှိပါဘူး၊ ဝိညာဏက္ခန္ဓာလဲပဲ နိစ္စ သုခ သုဘ အတ္တ ဆိုတဲ့ အနှစ် မရှိဘူး၊ ပကတိ မျက်လှည့်ရုပ်ကို သူပြထားလို့ ရွှေပဲလို့ ပြထားပေမယ် လို့ ယူသုံးလို့မရဘူး၊ ရွှေပေမဲ့ သုံးမဖြစ်ဘူး၊ ထို့အတူပဲ ဝိညာဏက္ခန္ဓာ လဲပဲ နိစ္စ သုခ သုဘ အတ္တလို့ သုံးမဖြစ်ဘူး၊ သုံးလို့မရ၊ သုံးမဲ့ကြံ ပကတိ ဇာတိပေါ်ပြီးတော့ ပျောက်သွားတာပဲ၊ ထို့အတူပဲ ဒီဝိညာဏ်ကလဲ နိစ္စ သုခ သုဘ အတ္တ-ရယ်လို့ ဒီက သုံးမဲ့ကြံတုံးရှိသေး သူက ပျောက် သွားတယ်။ ပကတိမျက်လှည့်ရုပ်ဟာ ကြာကြာမခံဘူး၊ မျက်လှည့်သမား ဟာ မြန်မြန်ကြီး သိမ်းရတယ်၊ မြန်မြန်မသိမ်းရင် သူတို့ရဲ့ ဇာတိရုပ် တွေပေါ်မယ်၊ ထို့အတူ ဝိညာဏ်ဟည်းဟူသော မျက်လှည့်ရုပ်၊ မျက်လှည့် သမား မဟုတ်ဘူး၊ ဝိညာဏ်သည် မျက်လှည့်ရုပ်။မျက်လှည့်သမားပြထား တဲ့ အရုပ်လိုပဲ၊ မျက်လှည့်သမားပြထားတဲ့ အရုပ်ဟာ ကြာကြာမခံပဲနဲ့ ခဏအတွင်း ပျက်သွားတယ်၊ ဒါကြောင့် မြန်မြန်သိမ်းရတယ်၊မျက်လှည့် တခန်းတခန်း မြန်မြန်သိမ်းရတယ်၊အဲဒီလိုပဲ ဝိညာဏ်ဟာလဲ ခဏအတွင်း ချုပ်ပျောက်သောအနေနဲ့ မျက်လှည့်ရုပ်နဲ့တူတယ်၊ ပကတိမျက်လှည့် ရုပ်ဟာ မြင်တဲ့ပရိသတ်တွေကို ဟာ ရွှေတုံးကြီးတဲ့၊ ဟာ ငွေတုံးကြီးဟ အုတ်ခဲကြီးကနေ၊ ဤကဲ့သို့ အလွဲလွဲ အမှားမှား ပြောကြားစေသလို ဝိညာဏ် တည်းဟူသော မျက်လှည့်ရုပ်လဲပဲ ဟာ တင့်တယ်တယ်၊ မြဲတယ်၊ ချမ်းသာတယ်၊ အတ္တပဲလို့ အလွဲလွဲ အမှားမှား ပြောကြားစေတတ် တယ်၊ ဒါကြောင့် ဝိညာဏ်သည် မျက်လှည့်ရုပ်နဲ့တူတယ်၊ အဲဒီ မျက်လှည့် ရုပ်နဲ့တူတဲ့ ဝိညာဏက္ခန္ဓာပေါ်မှာ ဝိညာဏက္ခန္ဓာတရားစုသည် အနှစ် သာရမရှိသောအနေ သုံးစွဲ၍ မရသောအနေ ကြာမြင့်စွာ မတည်သော အနေ လူသူလေးပါးတို့အား အလွဲလွဲ အမှားမှား ပြောကြားစေတတ် သော အနေအားဖြင့် မျက်လှည့်သမားတို့ ပြစားတဲ့ မျက်လှည့်ရုပ်နဲ့ တူပေစွတကားလို့ အဲဒီလို ကြည့်ပါတဲ့။ ကြည့်လို့ရှိရင် ဘာဖြစ်မတုံး ဆိုတော့-

ဧဝံ ပဿ ဘိက္ခဝေ သုတဝါ အရိယသာဝကော ရူပသ္မိမ္ပိ နိဗ္ဗိန္ဒတိ၊ ဝေဒနာယပိ နိဗ္ဗိန္ဒတိ၊ သညာယပိ နိဗ္ဗိန္ဒတိ၊ သင်္ခါရေသုပိ နိဗ္ဗိန္ဒတိ၊ ဝိညာဏသ္မိမ္ပိ နိဗ္ဗိန္ဒတိ။

ဘိက္ခဝေ၊ ရဟန်းတော်များ အိုချစ်သားတို့၊ ဧဝံ၊ ဤသို့ ခန္ဓာငါးပါးကို အနှစ်သာရမရှိသောအနေ ခွဲယူ သုံးယူ၍ မရသောအနေ ကာလမြင့်ရှည် မတည်တဲ့အနေ နိစ္စ သုခ သုဘ အတ္တဆိုတဲ့ အနှစ်သာရ ရှာမရတဲ့အနေ စသည့်ဖြင့်။ ပဿံပဿန္တော၊ ကြည့်ရှုသော။ သုတဝါ။ ပညာပဟုသုတနဲ့ ပြည့်စုံသော အရိယသာဝကော၊ ငါဘုရား၏ တပည့်သား သာဝက တပည့်မ သာဝိကာ အရိယာ သူတော်မြတ်သည်။ရူပသ္မိမ္ပိ၊ ရူပက္ခန္ဓာ၌လည်း။ နိဗ္ဗိန္ဒတိ၊ ငြီးငွေ့တော့၏။ ဝေဒနာယပိ၊ ဝေဒနာက္ခန္ဓာ၌လည်း၊ နိဗ္ဗိန္ဒတိ၊ ငြီးငွေ့တော့၏။ သညာယပိ၊ သညာက္ခန္ဓာ၌လည်း။ နိဗ္ဗိန္ဒတိ၊ ငြီးငွေ့တော့၏။ သင်္ခါရေသုပိ၊ သင်္ခါရက္ခန္ဓာတို့၌လည်း။နိဗ္ဗိန္ဒတိ၊ ငြီးငွေ့တော့၏။ ဝိညာဏသ္မိမ္ပိ၊ ဝိညာဏက္ခန္ဓာ၌လည်း၊ နိဗ္ဗိန္ဒတိ၊ ငြီးငွေ့တော့၏။

အဲဒီလို ကြည့်မယ်ဆိုရင် ခန္ဓာငါးပါးစလုံး အကုန်လုံး နိစ္စ သုခ သုဘ အတ္တ ရှာမရတဲ့ အသိဉာဏ်မျိုး ငြီးငွေ့တဲ့ အသိဉာဏ်မျိုးပေါ်လာပါလိမ့်မယ်။ နိဗ္ဗိန္ဒံ နိဗ္ဗိန္ဒန္တော။ ငြီးငွေ့သည်ရှိသော်။ ဝိရဇ္ဇတိ၊ တပ်ခြင်းကင်း၏။ ငြီးငွေ့လာပြီဆိုတဲ့နောက်မှာဆိုလျှင် ဝိရာဂမည်သော အထက်ဝိပဿနာဉာဏ်ဖြင့် ထိုခန္ဓာငါးပါးတို့အပေါ်၌ တွယ်တာ တပ်မက်ခြင်း ကင်းလိမ့်မယ်။ ဝိရာဂ-တပ်ခြင်းကင်းခြင်းဟူသောအထက်ဝိပဿနာဉာဏ်ကြောင့်။ ဝိမုစ္စတိ၊ ကိလေသာတို့မှ လွတ်ဆဲဆိုတဲ့ မဂ်ဉာဏ်ပေါ်၏၊ ဝိမုတ္တသ္မိံ၊ ကိလေသာမှ လွတ်ပြီးသော ဖိုလ်ခဏ၌ ဝါ ဖိုလ်တရား၌။ ဝိမုတ္တမှိတိ၊ ကိလေသာမှ လွတ်ပြီးသော ဖိုလ်တရားဟူ၍။ ဉာဏံ၊ သိတတ်တဲ့ ပစ္စဝေက္ခဏာဉာဏ်သည်။ ဟောတိ၊ ဖြစ်၏။ ခီဏာ ဇာတိ၊ အရဟတ္တဖိုလ်ပေါက်ရောက်တဲ့အခါကာလ ဘဝဖြစ်ထွေ ကုန်၏၊ ဝုသိတံ ဗြဟ္မစရိယံ၊သာသနာထော်တည်းဟူသောမြတ်သောအကျင့်ကို ငါသာအဆုံးရောက် ကျင့်သုံးရပြီ၊ ကတံ ကရဏီယံ၊ရဟန်းကိစ္စငါပြုပြီးပြီ၊ နာပရံ-ဣတ္ထတ္တာယာတိ ပဇာနာတိ၊နောက်ထပ်တဖန် ခန္ဓာအသစ် ငါ့ဝယ်ဖြစ်ဖွယ် မရှိတော့ပြီ၊ နောက်ထပ်တဖန် သစ္စာလေးချက် သိဖို့ရာ တရားအားထုတ်ဖို့ရာ မရှိတော့ပြီဟူ၍ ပိုင်းပိုင်းခြားခြား ပစ္စဝေက္ခဏာဉာဏ်အဆင့်ဆင့်ဖြင့် သိမြင်တော့၏လို့။

သုတ္တန်ကလဲပြီးပါပြီ။ ပစ္စဝေက္ခဏာဉာဏ်အဆင့်ဆင့်ဖြစ်ပြီးတဲ့ နောက် ဘုရားသဗ္ဗညုက ပစ္စဝေက္ခဏာဉာဏ် ၁၉ တန်ဖြင့် အထွတ်တတ်ပြီး ဟော ပြီးတဲ့နောက် တိက္ခ နေယျဖြစ်ကြတဲ့ ပုဂ္ဂိုလ် များ ဒီဖေဏပိဏ္ဍူ ပမသုတ္တန်ကို အကျဉ်းချုပ် မှတ်သားနိုင်အောင်ဆိုပြီးတော့ ဘုရားက–

ဖေဏပိဏ္ဍူပမံ ရူပံ၊ ဝေဒနာ ပုဗ္ဗုဠူပမာ။
မရီစိကူပမာ သညာ၊ သင်္ခါရာ ကဒလူပမာ။
မာယူပမဉ္စ ဝိညာဏံ၊ ဒေသိတာဒိစ္စဗန္ဓုနာ။

ရူပံ၊ ၂၈–ပါးသော ရုပ်တရားအစုသည်။ ဖေဏပိဏ္ဍူပမံ၊ ရေမြှုပ်ခဲ ရေမြှုပ်စိုင်လျှင် နှိုင်းယှဉ်ဖွယ်ရာ ဥပမာရှိချေ၏။ ဝေဒနာ၊ ၁၁–ပါး အပြားရှိတဲ့ ဝေဒနာ၊တရားအစုသည်။ ဝေဒနာ၊အကျဉ်းအားဖြင့် ခံစား မှု စံစားမှုသဘော၊ ဝေဒနာတရားအစုသည်။ ထို့ထက် အကျယ်ချဲ့လျှင် သုခ ဒုက္ခ ဥပေက္ခာ ၃–ပါး၊ ထို့ထက် အကျယ်ချဲ့လျှင် ၅–ပါး၊အာရုံ ၆– ပါးနှင့် မြှောက်ပွားလျှင် ၆–ပါး။ သုခ ဒုက္ခ ဥပေက္ခာတို့ဖြင့် ထပ်၍ မြှောက်ပြန်လျှင် ၁၈ ပါး၊ ကာလ၃–ပါးဖြင့် ပွားလို့ရှိလျှင် ၅၄–ပါး၊ သန္တာန် ၂–ပါးနှင့် မြှောက်ပွားပြန်သည်ရှိသော် ၁၀၈–ပါး အကျယ် ပြားသည့် ဝေဒနာက္ခန္ဓာ တရားအစုသည်။ ပုဗ္ဗုဠူပမာ၊ ရေပွက်လျှင် နှိုင်းယှဉ်ဖွယ်ရာ ဥပမာရှိပေ၏၊သညာ သညာက္ခန္ဓာတရားအစုသည်။မရီစိ ကူပမာ။ လင်းလက်တံလျှပ်လျှင် နှိုင်းယှဉ်ဖွယ်ရာ ဥပမာရှိပေ၏။ သင်္ခါရာ၊ သင်္ခါရက္ခန္ဓာ ဂိုဏ်းဝင် ၅၀–သော တရားအစုတို့သည်။ ကဒလူပမာ၊ ငှက်ပျောကိုင်းလျှင် နှိုင်းယှဉ်ဖွယ်ရာ ဥပမာရှိကုန်၏။ ဝိညာဏဉ္စ၊ဝိညာ ဏက္ခန္ဓာ တရားအစုကတော့။ မာယူပမံ၊ မျက်လှည့်သမားတို့ ပြစားတဲ့ မျက်လှည့်ရုပ်လျှင် နှိုင်းယှဉ်ဖွယ်ရာဥပမာရှိပေ၏။ ဣတိ၊ ဤသို့။ အာဒိစ္စ ဗန္ဓုနာ၊ နေမင်း အဆွေ ဖြစ်တော်မူသော မြတ်စွာဘုရားသည်။ ဒေသိတံ၊ ဟောကြားတော်မူအပ်ခဲ့လေပြီ။

ခုနက သုတ္တန်ကြီးတခုလုံး ဒီလို ချုံးပြီးတော့ ဟောတယ်။
ယထာယထာ နိဇ္ဈာယတိ၊ ယောနိသော ဥပပရိက္ခတိ။
ရိတ္တကံ တုစ္ဆကံ ဟောတိ၊ ယော နံ ပဿတိ ယောနိသော။

ယော၊ အကြင် ဝိပဿနာဉာဏ်မျက်စိရှိတဲ့ ငါ့ဘုရား၏ တပည့်သား သာဝက တပည့်မ သာဝိကာ အရိယာ သူတော်ကောင်းသည်။ နံ၊ ထို ခန္ဓာငါးပါး ရုပ်နာမ်တရားကို။ ယောနိသော၊ ဟုတ်မှန်သောအကြောင်း ဖြင့်။ ပဿတိ၊ ကြည့်ရှုငြားအံ့။ ယထာ ယထာ၊ အကြင် အကြင်သို့သော အခြင်းအရာအားဖြင့်။ နိဇ္ဈာယတိ၊ ဥပစာရသမာဓိဖြင့် စူးစူး စိုက်စိုက် စဉ်းစဉ်းစားစား ကြည့်ရှု၏။ ယောနိသော၊ ဟုတ်မှန်သော အကြောင်း ဖြင့်။ ဥပပရိက္ခတိ ပညာသက်ဝင် ဆင်ခြင်ပေ၏။ တထာ၊ ထိုသို့သော အခြင်းအရာအားဖြင့် ဆင်ခြင်သည် ရှိသော်။ ရိတ္တကံ၊နိစ္စ သုခ သုဘဟူ သည် မြူမျှမရိပ် ထိုသဘောတို့မှ ကင်းဆိတ်သည်ဖြစ်၍သာလျှင်။တုစ္ဆကံ၊ နိစ္စ သုခ သုဘဟူသည် မြူမျှမနှီး အချည်းနှီးဖြစ်၍ သာလျှင်။ ဟောတိ၊ ဖြစ်တော့၏။

ဣမဉ္စ ကာယံ အာရဗ္ဘ၊ ဘူရိပညေန ဒေသိတံ။
ပဟာနံ တိဏ္ဏံ ဓမ္မာနံ၊ ရူပံ ပဿထ ဆဍ္ဍိတံ။

ဣမဉ္စ ကာယံ၊ ဤရုပ်-ကို ဤခန္ဓာကိုယ်ကြီးကို။အာရဗ္ဘ၊ အကြောင်း ပြု၍။ ဘူရိပညေန၊ မြတ်စွာဘုရားသည်။ ဒေသိတံ၊ ဟောကြားတော်မူ အပ်ခဲ့ပြီ။(ဘယ်လိုဟောတုံး။ ဤခန္ဓာကိုယ်ကြီးကိုအကြောင်းပြုပြီးတော့ ဘုရားကိုယ်တော်မြတ်ဟောခဲ့တယ်၊ ဒီအထဲမှာ ရုပ်ဟာ အားကြီး သိစရာ ကောင်းတယ်။) တိဏ္ဏံ ဓမ္မာနံ၊ အာယု, ဥသ္မာ, ဝိညာဏ်ဆိုတဲ့ သက်စောင့် ကိုယ်စောင့် တရားသုံးပါးတို့၏ ဝါ သုံးပါးတို့က။ ပဟာနံ၊ စွန့်ပစ်အပ် သည်ရှိသော်။ ဆဍ္ဍိတံ၊သုသာန်တစ သင်းချိုင်းဝဝယ် စွန့်ပစ်ရတဲ့သဘော ရှိတဲ့။ ရူပံ၊ ရုပ်ကို။ ပဿထ၊ ရှုကြည့်ကြကုန်။

ရုပ်ကို နိစ္စ သုခ သုဘ အတ္တဆိုတဲ့အနေနဲ့ ချစ်သား ချစ်သမီးတို့ မကြည့် ကြနဲ့၊ ဘယ်လိုကြည့်ရမတုံး၊ ဒီရူပက္ခန္ဓာဆိုတဲ့ ရုပ်တရားပေါ်မှာ အာယု ခေါ်တဲ့ ဇီဝိတတရားရယ်၊ ဥသ္မာခေါ်တဲ့ ကိုယ်စောင့် ကိုယ်ငွေ့ သက် စောင့် ကိုယ်ငွေ့ရယ်၊ ဝိညာဏ်ခေါ်တဲ့ စိတ်တရားရယ်-အဲဒီတရား ၃-ပါး အကြင်အခါ၌ စွန့်ပစ်သွား၏။ ထိုအခါကျရင်ဖြင့် ဒီရုပ်တရားကြီး ဟာ သုသာန်တစ သင်းချိုင်းဝမှာ **ပစ်စွန့်အပ်သော သဘောရှိလေစွ**

တကား။ အာယု, ဥသ္မာ, ဝိညာဏ်ဆိုတဲ့ ဤတရား ၃-ပါး စွန့်လို့ ရှိရင် ဖြင့် စွန့်ပစ်အပ်တဲ့ သဘောချည်းပဲလို့ အဲဒီလိုကြည့်ကြတဲ့။

အာယု ဥသ္မာ စ ဝိညာဏံ၊ ယဒါ ကာယံ ဇဟန္တိမံ။
အပဝိဒ္ဓော တဒါ သေတိ၊ ပရဘတ္တံ အစေတနံ။

အာယုစ၊ ရုပ်ဇီဝိတ နာမ်ဇီဝိတခေါ်တဲ့ ဇီဝိတနှစ်ပါးသည် လည်းကောင်း။ ဥသ္မာ စ၊ ကမ္မဇတေဇောဓာတ်သည်လည်းကောင်း ကိုယ်ငွေ့ခေါ်တဲ့ ကမ္မဇ တေဇောဓာတ်သည်လည်းကောင်း။ ဝိညာဏံ စ၊ စိတ်ဝိညာဏ်ယည်လည်းကောင်း၊ ယဒါ၊ အကြင်အခါ၌။ ဣမံ ကာယံ။ ဤကိုယ်ကြီးကို။ ဇဟန္တိ၊ စွန့်ပစ်၍ သွားကြကုန်၏။ တဒါ၊ ထိုအာယု ဥသ္မာ ဝိညာဏ်ခေါ်တဲ့ ၊ကိုယ်စောင့်တရား ၃ ပါးတို့ ဤခန္ဓာကိုယ်မှခွာ၍ သွားသော အခါကာလ၌။ အပဝိဒ္ဓော၊ စွန့်ပစ်အပ်သော သဘောရှိသည် ဖြစ်၍။ ပရဘတ္တံ၊ ကျီး ခွေး ငှင်းတ အစရှိသော သူတပါးတို့၏ အစာသဘော သက်ရောက်သည်ဖြစ်၍။ အစေတနံ၊ စိတ်,စေတနာ လုံးဝမရှိပဲ၊ သေတိ၊ သုသာန်တစဝယ် စင်းစင်းကြီး လဲလျောင်းကာနေရ၏၊ သေရတော့၏။

တောဒိသာယံ သန္တာနော၊ မာယာယံ ဗာလလာပိနီ၊
ဝဓကော သေ အက္ခာတော၊ သာရော ဧတ္ထ န ဝိဇ္ဇတိ။

အယံ သန္တာနော၊ ဤခန္ဓာငါးပါးတို့၏ အစဉ်သည်။ တောဒိသော၊ ဤဆိုအပ်ပြီးသော သဘောရှိပေ၏၊ အယံ၊ ဤဝိညာဏ်တည်းဟူသော တရားအစုသည်။ ဗာလလာပိနီ၊ မလိမ်မာတဲ့ လူမိုက်တို့ကို နိစ္စ သုခ သုဘ အတ္တ ဟူ၍ အလွဲလွဲ အမှားမှား ပြောကြားစေတတ်တဲ့။ မာယာ၊ မျက်လှည့်သမားတို့ ပြစားတဲ့ မျက်လှည့်ရုပ်နဲ့ တူလှပေ၏။ သေ, သော ခန္ဓာငါးပါးအပေါင်းကို။ ဝဓကော၊ သူ့သက်ယောက်ျားကြီးများဟူ၍။ အက္ခာတော၊ မြတ်စွာဘုရား ဟောကြားအပ်ပေ၏။ ဧတ္ထ၊ ဤခန္ဓာငါးပါး၌။ သာရော၊ နိစ္စအနှစ် သုခအနှစ် အတ္တအနှစ်သည်။ န ဝိဇ္ဇတိ၊ တစိုးတစိ မရှိပေ။

ဧဝံ ခန္ဓေ အဝေက္ခေယျ၊ ဘိက္ခု အာရဒ္ဓ ဝီရိယော။
ဒိဝါ ဝါ ယဒိ ဝါ ရတ္တိံ၊ သမ္ပဇာနော ပဋိဿတော။

ဧဝံ၊ ဤသို့။ သမ္ပဇာနော၊ ကောင်းစွာ ဉာဏ်အမြင်ရှိသော။ ပဋိဿတော၊ သတိနှင့်ယှဉ်သော။ ဘိက္ခု၊ ငါ၏ချစ်သား ရဟန်းတော်သည်။ ဒိဝါ ဝါ၊ နေ့၌လည်းကောင်း။ ယဒိ၊ ထိုမှတပါး။ ရတ္တိံ ဝါ၊ ညဉ့်၌လည်းကောင်း။ အာရဒ္ဓဝီရိယော၊ လုံ့လကြီးကုတ် အားထုတ်အပ်သော လုံ့လဝီရိယ ရှိသည်ဖြစ်၍။ အဝေက္ခေယျ၊ ခန္ဓာငါးပါးတို့ကို အသာရ အနေ အဂယျုပဂ အစရှိသော အနေဖြင့် ကြည့်ရှုရာ၏။

ကြည့်ရှုပြီးတော့ ဘာလုပ်ရမလဲ။

ဇဟေယျ သဗ္ဗသံယောဂံ၊ ကရေယျ သရဏတ္တနော။
စရေယျာ ဒိတ္တသီသောဝ၊ ပတ္ထယံ အစ္စုတံ ပဒံ။

သဗ္ဗသံယောဂံ၊ ကြွင်းမဲ့ဥဿုံ အလုံးစုံသော သံယောဇဉ် လွန် ချည်ကြိုးကို။ ဇဟေယျ၊ စွန့်ပယ်ရာ၏။ (နာနာကြည့်ပါ၊ ကြည့်ရင် သံယောဇဉ် ၁၀ မျိုး ဆယ်လွန်းတင်ကြိုးကြီးကို ဖြတ်ချိုးနိုင်ပါလိမ့်မယ်)။ အတ္တနော။ မိမိ၏၊ သရဏံ၊ ကိုးကွယ်ရာဖြစ်တဲ့ တရားကို၊ ကရေယျ၊ ပြုနိုင်လေရာ၏။ (အဲဒီလိုကြည့်မှ ကိုယ်ရဲ့ ကိုးစားရာ ကိုယ်အားထားရာ တရားကို ထင်နိုင်မယ်)။ အစ္စုတံ ပဒံ၊ စုတေခြင်း အလျင်းမရှိတဲ့ နိဗ္ဗာန်တရားကို။ ပတ္ထယံ ပတ္ထယန္တော၊ တောင့်တလင့်ဆို အလိုရှိသည်ဖြစ်၍။ အာဒိတ္တသီသောဝ၊ ရဲရဲပြောင်ပြောင် ဦးခေါင်းဝယ် မီးလောင်နေသော သူကဲ့သို့။ စရေယျ၊ သူတော်တရား ပွားများကြိုးကုတ် ကျင့်ကြံအားထုတ်ရာ၏လို့ ဒီဒေသနာနိဂုံး အဆုံးသတ်ခဲ့တယ်။ **ဖေဏပိဏ္ဍူပမသုတ္တန်** ဒေသနာတော်ပါပဲ။

ဤသို့ **ဖေဏပိဏ္ဍူပမသုတ္တန်** ဒေသနာတော်မြတ်ကို ကြားနာရခြင်း ဓမ္မဿဝန ကောင်းမှုကုသိုလ်ကံစေတနာ၊ သရဏဂုံသီလတို့ကို မကျိုး မပေါက် မပြောက်မကျားရအောင် ထိန်းသိမ်းစောင့်ရှောက်ရခြင်း သီလမယ ကောင်းမှုကုသိုလ်ကံ စေတနာ၊ ဒေသနာအရင်းကို အစဉ်လျှောက် သဖြင့် မိမိတို့ဉာဏ်မြင်သမျှ ခန္ဓာငါးပါးရုပ်နာမ်တရားတို့၏ အနိစ္စ ဒုက္ခ

အနုတ္တ ဖြစ်ပုံ အသာရဖြစ်ပုံ အဂယှျုပဂဖြစ်ပုံကို ဆင်ခြင် စဉ်းစား နှလုံးထားရခြင်း ဘာဝနာမယ ကောင်းမှုကုသိုလ်ကံ စေတနာ၊ ပုည မင်္ဂလာ ဖြစ်ပါစေခြင်း အကျိုးငှာ ယမန်နေ့ကလည်းကောင်း။ ဤသနေ့ လည်းကောင်း သံဃာတော်အရှင်မြတ်တို့အား မြတ်စွာဘုရားအမျိုးရှိ သော သံဃာတော်အရှင်မြတ်တို့အား မွန်မြတ်သောဆွမ်းခဲဖွယ်ဘောဇဉ် တို့ဖြင့် သဒ္ဓါပြဋ္ဌာန်း လှူဒါန်းကျွေးမွေးရခြင်း ကောင်းမှုကုသိုလ်ကံစေ တနာ၊ ကြွလာကြသော ဓမ္မပဋိဂ္ဂါဟက သူတော်စင် အပေါင်းတို့အား ဓမ္မပူဇာ ဖြစ်ပါစေခြင်းအလို့ငှာ အလိုရှိရာ သုံးစွဲနိုင်ရန် ရည်သန်ပြဋ္ဌာန်း အပ်သော ဒေယျဓမ္မ လှူဖွယ်ဝတ္ထုတို့ကို သဒ္ဓါပြဋ္ဌာန်း လှူဒါန်းရခြင်း တည်းဟူသောကောင်းမှုကုသိုလ်ကံစေတနာ၊ဓမ္မဒါန ဖြစ်ပါစိမ့်သောငှာ ဓမ္မလက်ဆောင်ပေးလှူရခြင်းကောင်းမှုကုသိုလ်ကံစေတနာ၊ဤသို့စသည် များပြား ပေါင်းအပ်သော ကောင်းမှုကုသိုလ်ကံ စေတနာ တို့ကြောင့် ဤဖေဏပိဏ္ဍူပမ သုတ္တန်၌ လာရှိသောအတိုင်း ရူပက္ခန္ဓာကို ရေမြှုပ် အနေဖြင့်လည်းကောင်း၊ဝေဒနာက္ခန္ဓာကိုရေပွက်အနေဖြင့်လည်းကောင်း သညာက္ခန္ဓာကို တံလျှပ်အနေဖြင့်လည်းကောင်း၊ သင်္ခါရက္ခန္ဓာကို ငှက် ပျောတုံးအနေဖြင့်လည်းကောင်း၊ ဝိညာဏက္ခန္ဓာကို မျက်လှည့်ရုပ်အနေ ဖြင့်လည်းကောင်း၊ ဘုရားအလိုတော်ကျ ကြည့်ရှုနိုင်ကြ ပါစေ ကုန် သတည်း။ နိဗ္ဗာနယေယျဟူသော တရားအရ ဥပစာရသမာဓိအရောက် ပေါက်ရောက်အောင် စိုက်စိုက်စူးစူး ကြည့်ရှုနိုင်ကြပါစေ သတည်း၊ ယောနိသော ဥပပရိက္ခေယျ ဟူသော ပါဠိတော်အရ ဟုတ်မှန်သော အကြောင်းဖြင့် ပညာသက်ဝင် ဆင်ခြင်စဉ်းစားနိုင်ကြ ပါစေသတည်း။ ယင်းသို့ ပညာသက်ဝင် ဆင်ခြင် စဉ်းစား၍ ဘုရားမျိုးမွမ်းတော်မူအပ်တဲ့ သုတဝါအရိယသာဝကော-ဟူသော ဂုဏ်ပုဒ်ဖြင့် ချီးမွမ်းအပ်တဲ့ ပဋိ ပတ္တိ သုတ, အဓိဂမသုတ-နှင့် ပြည့်စုံကြတဲ့ သုတဝန္တ ပုဂ္ဂိုလ်တွေဖြစ်၍ ဘုရားတည်းဟူသော အရိယာပုဂ္ဂိုလ် သူမြတ်၏ သားတော် သမီးတော် စင်စစ်ဖြစ်ကြပြီးလျှင် ရူပသ္မိံ ပိနိဗ္ဗိန္ဒတိ၊ ဝေဒနာယပိ နိဗ္ဗိန္ဒတိ အစရှိသော ပါဠိတော်အရ ရူပက္ခန္ဓာ ဝေဒနာက္ခန္ဓာ သညာက္ခန္ဓာ သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာတည်းဟူသော ခန္ဓာငါးပါးတို့၌ ငြီးငွေ့အားသန် နိဗ္ဗိဒါ

ဉာဏ် ရင့်သန်ကြပါစေကုန် သတည်း၊ ထိုနိဗ္ဗိဒါဉာဏ်၏ အခြားမဲ့၌ အထက်ဖြစ်သော ဝိပဿနာဉာဏ်တို့ဖြင့် ခန္ဓာငါးပါးဝယ် တပ်ခြင်း ကင်းကြပါစေကုန်သတည်း၊ ထိုခန္ဓာငါးပါးဝယ် တပ်ခြင်း ကင်းသော အထက်အထက် ဝိပဿနာဉာဏ်တို့မှ အထောက်အပံ့ပစ္စည်း အားကြီးသော ဥပနိဿယကို ရရှိသဖြင့် လေးပါးသောမဂ် လေးချက်သော ဖိုလ် ထီးရိပ်ကို မပင်မပန်း ချမ်းသာလွယ်ကူသော အကျင့်ပဋိပတ် လျင်မြန်သော အသိဉာဏ်ဖြင့် ကိုယ်စီကိုယ်ငှ ခိုနိုင်ကြပါစေကုန်သတည်း။ အရဟတ္တမဂ် အရဟတ္တဖိုလ်တည်းဟူသော စတုတ္ထမြောက် ထီးရိပ်ကို ခိုလှုံမိသော နောက် ပစ္ဆိမဘဝ နောက်ဆုံး ပရိနိဗ္ဗာနစုတိစိတ်မှ အခြားမဲ့ ဖြစ်သော နောက်ကာလဝယ် တစုံတခုသော ဘဝ ဂတိ ယောနိ ဝိညာဏဋ္ဌိတိမှာမ ရူပက္ခန္ဓာ ဝေဒနာက္ခန္ဓာ သညာက္ခန္ဓာ သင်္ခါရက္ခန္ဓာ ဝိညာဏက္ခန္ဓာ တည်းဟူသော အနှစ်မရှိတဲ့ စွဲယူ၍မရတဲ့ ခန္ဓာငါးပါး ရုပ်နာမ် ၂ပါး ဒုက္ခသစ္စာတရားတို့ မီးတောက်ကြီး ငြိမ်းသည့်ပမာ တဖန် မဖြစ်သော ချုပ်ခြင်းဖြင့် အနုပ္ပါဒ နိရောဓဖြင့် ချုပ်ငြိမ်းခြင်း တည်းဟူသော အနုပ္ပါဒ ပရိနိဗ္ဗာန် ကိုယ်စီစံကြ၍ ကမ္မဝဋ် ကိလေသဝဋ် ဝိပါကဝဋ် တည်းဟူသော ဝဋ်ဒုက္ခခပ်သိမ်း သံသရာမီးကြီး ငြိမ်းကြပါစေကုန်သတည်း။

သာဓု သာဓု သာဓု

## မွန်မြတ်လှသည့် ဓမ္မအရသာ

သဗ္ဗဒါနံ ဓမ္မဒါနံ ဇိနာတိ၊
သဗ္ဗရသံ ဓမ္မရသော ဇိနာတိ။

တရားအလှူသည် အလှူအားလုံးကို အောင်နိုင်၏။
တရားအရသာသည် အရသာအားလုံးကို အောင်နိုင်၏။

တဏှာဝဂ်-သက္ကပဉှာဝတ္ထု
(ဓမ္မပဒပါဠိတော်)

ဘောဇဉ်မြိုက်ခဲ၊ ဓမ္မပွဲလျှင်၊ လက်ထဲပုံသော၊ ဆိုက်ရောက်နေလျက်၊ ရှောင်သွေ့နှလုံး၊ ကိုယ်မသုံးသော်၊ အရှုံးကိုယ့်ပြင် ရှိချိမ့်လော။

# အနာထပိဏ္ဍိကောဝါဒ သုတ္တန်လာ

## ဝိပဿနာ ၁၀-မျိုး

## တရားလင်္ကာ

(အမှာ)။ ။သူတော်ကောင်းတို့ ဘုန်းကြီးသည် ရှေးက လူဝတ်ကြောင် ပါဋ္ဌိမကျွမ်းကျင်ကြသော ဒကာ ဒကာမများအတွက် ဝိပဿနာ ရှုပုံ တရားလင်္ကာပိုဒ်များကို မိမိဉာဏ်မှီသလောက် ရေးသား ဖြန့်ချိစေခဲ့ရာ ထိုရှေးဖြစ်သော တရားလင်္ကာတို့၌ "အနိစ္စ, ဒုက္ခ,အနတ္တ"ဟူ၍ ရှုဆင်ခြင်သော စာပိုဒ်မျှသာဖြစ်နေ၍ "နေတံ မမ၊ နေသောဟမသ္မိ၊ န မေသော အတ္တာ"ဟူ၍ ရှုဆင်ခြင်သော စာပိုဒ်များပါ ပါရှိစေရန် ဤအနာထ ပိဏ္ဍိကော ဝါဒ ဝိပဿနာလင်္ကာတို့၌ အနည်းငယ် ပြင်ဆင်ဖြည့်စွက် ရေးသားဖြန့်ချိစေပါသည်။ ရှေးက မိမိတို့ လေ့လာပြီးသော ဝိပဿနာတရားလင်္ကာတို့၏ နောက်ပိုင်း စာပိုဒ်များကို ဤအနာထပိဏ္ဍိကောဝါဒ ဝိပဿနာ တရားလင်္ကာအတိုင်း ရွတ်ဆို ပွားများနိုင်ကြပါသည်။

## (၁) ဒွါရ ၆-ပါး တရားလင်္ကာ

၁။ မျက်စိတွင်မည်၊ ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မဟည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏၊ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်-မပါဘူး၊ ပညာစက္ခု၊ မြော်ထောက်ရှုလျှင်၊ သူ့သဘာဝ၊ အနိစ္စနှင့်၊ ဒုက္ခ+အနတ္တာ၊ မှန်လှစွာ၏။ ငါ, ငါ့ဥစ္စာ၊ ငါ့လိပ်ပြာတို့၊ ဘာတခုမျှ၊ မဟုတ်ကြသည်၊ ဓမ္မသက်သက်ပါတကား။

၂။ နားဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)

၃။ နှာခေါင်း တွင်မည်၊ ရုပ် အကြည်လည်း။ (ရှေးနည်းဆက်၍ ဆိုလေ)

၄။ လျှာဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)
၅။ ကိုယ်ဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)
၆။ မနောတွင်မည်၊ စိတ်အကြည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

## (၂) အာရုံ ၆-ပါး တရားလင်္ကာ

၁။ အဆင်းတွင်မည်၊ ရုပ်ထို၌ကား၊ (ရှေးနည်းဆက်၍ဆိုလေ)
၂။ အသံတွင်မည်၊ ရုပ်ထို ၌လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)
၃၊ အနံ့တွင်မည်၊ ရုပ်ထို ၌လည်း (ရှေးနည်းဆက်၍ဆိုလေ)
၄။ အရသာတွင်မည်၊ ရုပ်ထို ၌လည်း၊ (ရှေးနည်း ဆက်၍ဆိုလေ)
၅။ အတွေ့တွင်မည်၊ ရုပ်ထို ၌လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၆။ ဓမ္မတွင်မည်၊ ရုပ်နာမ်သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)

## (၃) ဝိညာဏ် ၆ ပါး တရားလင်္ကာ

၁။ မျက်စိ၌မှီ၊ ဝိညာဏ်သည်ကား၊ (ရှေးနည်းဆက်၍ ဆိုလေ)
၂။ နား၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၃။ နှာခေါင်း၌မှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)
၄။ လျှာ၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၅။ ကိုယ်၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၆။ မနောတွင်မည်၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

## (၄) ဖဿ ၆ ပါး တရားလင်္ကာ

၁။ မျက်စိ၌မှီ၊ အတွေ့သည်ကား၊ (ရှေးနည်းဆက်၍ဆိုလေ)
၂။ နား၌စွဲမှီ၊ အတွေ့သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၃။ နှာခေါင်း၌မှီ၊ အတွေ့သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၄။ လျှာ၌စွဲမှီ၊ အတွေ့သည်လည်း၊ (ရှေးနည်းဆက်၍ ဆိုလေ)
၅။ ကိုယ်၌စွဲမှီ၊ အတွေ့သည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)
၆။ မနော၌မှီ၊ အတွေ့သည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

## (၅) ဝေဒနာ ၆ ပါး တရားလင်္ကာ

၁။ မျက်စိအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှုနည်းဆက်၍ဆိုလေ)

၂။ နားဦးအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းဆက်၍ဆိုလေ)

၃။ နှာခေါင်းအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းဆက်၍ဆိုလေ)

၄။ လျှာဦးအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းဆက်၍ဆိုလေ)

၅။ ကိုယ်ဦးအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းဆက်၍ဆိုလေ)

၆။ မနောအတွေ့၊ တွဲယှဉ်၍လျှင်၊ ဖြစ်လေ့ပွားစည်၊ ဝေဒနာသည်လည်း၊ မြင့်ရှည်ကာလ၊၊ မတည်ထပဲ (ရှေးနည်းဆက်၍ဆိုလေ)

## (၆) ဓာတ် ၆-ပါး တရားလင်္ကာ

၁။ အကြမ်း + အနု၊ နှစ်ခု ပထဝီ၊ မြေဓာတ်သည်ကား၊ (ရှေးနည်းဆက်)

၂။ ဖွဲ့သော + စည်းသော၊ အာပေါနှစ်မည်၊ ရေဓာတ်သည်ကား၊ (ရှေးနည်း)

၃။ ပူသော + အေးသော၊ တေဇောနှစ်မည်၊ မီးဓာတ်သည်လည်း။ (ရှေးနည်း)

၄။ ပျော့သော + မာသော၊ ဝါယောနှစ်မည်၊ လေဓာတ်သည်လည်း၊ (ရှေးနည်း)

၅။ ကလာပ်ခြားမျှ၊ အာကာသမည်၊ ထိုဓာတ်သည်လည်း၊ (ရှေးနည်းဆို)

၆။ မြင်+ကြား+နံ+စား၊ ထိ+သိ အားဖြင့်၊ ခြောက်ပါးဓာတ်မည်၊ ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းဆက်၍ဆိုလေ)

## (၇) ခန္ဓာ ၅-ပါး တရားလင်္ကာ

၁။ ရုပ်ဟုတွင်မည်၊ ခန္ဓာသည်ကား၊ (ရှေးနည်းဆက်၍ဆိုလေ)

၂။ ဝေဒနာမည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

၃။ သညာတွင်မည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

၄။ သင်္ခါရမည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

၅။ ဝိညာဏ်ခြောက်မည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းဆက်၍ဆိုလေ)

## (၈) အရူပဈာန် ၄-ပါး တရားလင်္ကာ

၁။ အာကာသတွင်မည်၊ ဈာန်စိတ်သည်ကား၊ (ရှေးနည်းဆက်လေ)

၂။ ဝိညာဏတွင်မည်၊ ဈာန်စိတ်သည်လည်း၊ (ရှေးနည်းဆက်လေ)

၃။ အာကိဉ္စတွင်မည်၊ ဈာန်စိတ်သည်လည်း၊ (ရှေးနည်းဆက်လေ)

၄။ နေဝတွင်မည်။ ဈာန်စိတ်သည်လည်း၊ (ရှေးနည်းဆက်လေ)

## (၉) စည်းစိမ်နှစ်ပါး တရားလင်္ကာ

၁။ ဣဿရဝဏ္ဏတည်၊ စည်းစိမ်သည်ကား၊ (ရှေးနည်းဆက်လေ)

၂။ တမလွန်ဥဏ္ဏတည်၊ စည်းစိမ်သည်လည်း၊ (ရှေးနည်းဆက်လေ)

## (၁၀) ဒိဋ္ဌာဒိဝါရ တရားလင်္ကာ

၁။ မြင်အပ် + ကြားအပ်၊ ရောက် + သိအပ်ဟု၊ လေးရပ်တွင်မည်၊ ရုပ်နာမ်သည်လည်း၊ မြင့်ရှည်ကာလ၊မတည်ထပဲ၊ ခဏဖြစ်လျက် ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ် မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုလျှင်၊ သူ့သဘာဝ၊ အနိစ္စနှင့်၊ ဒုက္ခ + အနတ္တာ၊ မှန်လှစွာ၏၊ ငါ ငါ့ဥစ္စာ၊ ငါ့လိပ်ပြာတို့၊ ဘာတခုမျှ၊ မဟုတ်ကြသည်၊ ဓမ္မသက်သက် ပါတကား။ ။

အနာထပိဏ္ဍိကောဝါဒ သုတ္တန်လာ

**ဝိပဿနာ ၁၀-မျိုး တရားလင်္ကာပြီး၏။**



မန္တလေးမြို့ အနောက်ဘက်

မင်းကွန်း တောင်ရိုး

**ပထမ ဓမ္မနာဒ ဆရာတော်ဘုရားကြီး၏**

# ခေတ်ဌ ပဂါး သိမ်းဆည်းပုံကျမ်း

နှင့်

တိပိဋကဓရ ဆရာတော်ဘုရား၏

**ဓမ္မသံဝေဂ ဂါထာလင်္ကာများ**

အဓိပ္ပာယ် ရှင်းလင်းချက်များ

နိဒါန်း

## ဤစာစောင်ကျမ်းငယ် ဖြစ်ပေါ်လာရပုံ အကြောင်းရင်း

**နမော ဗုဒ္ဓာယ။** ဤ 'ဓာတ် ၆-ပါး သိမ်းဆည်းပုံ' စာစောင်ကျမ်းငယ်
**(ခံဒွမ်)** ဖြစ်ပေါ်လာရခြင်း အကြောင်းရင်းကို အကျဉ်းမျှ ဖော်ပြလိုပါသည်မှာ-

ကောဇာသက္ကရာဇ် ၁၂၉၈-ခုနှစ် နှောင်းတပေါင်းလတွင် မင်းကွန်း ဓမ္မနာဒကျောင်းတိုက် ပထမဆရာတော်ဘုရား (ဦးပညာဝံသမထေရ်) ၏ ကိုယ်ဝယ် အသက်ကိုပင်ချွေမည့် ဇီဝိတပရိယာဒါန လည်ပင်းရောဂါ စွဲကပ်လာလေသည်။

ဆရာတော်သည် ၁၂၉၉-ခု နှစ်ဦး တန်ခူးလတွင် မန္တလေးမြို့ ကင်းဝန်မင်းကြီးတိုက် 'သီရိဝေပုလ္လတိုက်ကျောင်း'သို့ ကြွရောက် သီတင်းသုံး၍ မန္တလေးမှ မြန်မာအင်္ဂလိပ် ဆေးပညာရှင်ဆရာကြီး၏ အကုအသကို ခံတော်မူရသည်။ ဆရာတော်နှင့် ဆေးဆရာကြီးတို့သည် အကုအသခံမှု, ကုသမှုပြုကြသော်လည်း ခန္ဓာကိုယ်အပေါ်၌ ပြုရမည့် ဝတ္တရားအရသာ ပြုကြခြင်းဖြစ်သည်၊ မျှော်လင့်ချက်ကား လုံးဝမရှိကြပါပေ။

ဆရာတော်သည် ထိုအသက်ကို ချွေမည့်ရောဂါ စွဲကပ်သည်မှအစ အသက်ကြွေသည့် ၁၂၉၉-ခုနှစ် တော်သလင်းလပြည့်ကျော် ၉-ရက် နေ့အထိ ရောဂါကြောင့် မျက်နှာရှုံ့မဲ့ ဖောက်ပြန်ခြင်း အလျဉ်းမရှိပဲ အဓိဝါသန ခန္တီနှလုံး အမြဲသုံးတော်မူပါသည်။ ထို့ကြောင့်ပင် ဆရာတော်အထံသို့ သူနာမေးရောက်ကြတိုင်းသော ရဟန်းရှင်လူ အပေါင်းတို့သည် အံ့သြကြည်ညိုရုံမက သနားကရုဏာ ပိုနှိုး လာကြလေသည်။

ဆရာတော်၏ ရောဂါဒဏ်ကို ကြံ့ကြံ့ ခံနိုင်ပုံကို မြင်ရ၍ ကင်းဝန်မင်းကြီးတိုက် 'သီရိဝေပုလ္လတိုက်ကျောင်းဆရာတော်' အရှင်ဇာဂရ ငင်ထံရှိသည် ဤမျှ ပြင်းထန်သည့် ရောဂါဒဏ်ကို ညည်းတွား ပင်ပန်းမှု မရှိပကတိ သည်းခံနိုင်သော ဆရာတော်၏ သန္တာန်ဝယ် အထူးနှလုံးသွင်း

အပ်သည့်ကျမ်းများ မချေကန်ရှိမည်ဟု ယုံကြည်အားကိုးစွာဖြင့် ဆရာတော်အား 'တပည့်တော်များ အသက်ထက်ဆုံး နှလုံးသွင်း၍ ကောင်းမည့်တရားကို ညွှန်ကြားတော်မူပါဘုရား' ဟု လျှောက်ထား တောင်းပန်လေသည်။

ထိုအခါ ဆရာတော်သည် နှုတ်မြွက်၍ အကျယ်တဝင့် ဟောပြရန် ရောဂါက အခြေအနေ မပေးသဖြင့် ''ဦးဇာဂရ....ဗလာစာအုပ်တခု ပေးပါ''ဟု မိန့်မြွက်တောင်းယူကာ ရောဂါနှိပ်စက်မှုကို လျစ်လျူရှု၍ ဤ 'ခါတ် ၆-ပါး သိမ်းဆည်းပုံ' ဟူသော စာစောင်ကျမ်းငယ်ကို ရေးသားတော်မူပါတော့သည်။

ထိုစာစောင်ကျမ်းငယ်မှာ စာနေကျဉ်းသလောက် အနက်အဓိပ္ပာယ် ကျယ်ဝန်းနက်နဲလှပါသည်။ ဆရာတော်ကိုယ်တိုင်ကပင် အဘိဓမ္မာ မူလဋီကာကျမ်း, သဒ္ဒါဘက်ဆိုင်ရာ မောဂ္ဂလာန် ဗျာကရုဏ်းကျမ်းတို့ကို အထူးနှစ်သက်တော်မူသည့် သံခိတ္တချစ်ပုဂ္ဂိုလ်မြတ်ပီပီ ဤစာစောင်ကျမ်းငယ်ကို ရေးရာ၌လည်း စာနေကျဉ်းနှင့် အနက်အဓိပ္ပာယ် ပြည့်ကြွယ်နက်နဲသည့် တရားလုံးတို့ကို စကားအသုံး တိုတိုကျဉ်းကျဉ်းဖြင့် ရေးသားတော် မူခဲ့ပါသည်။

ယခင်အခါက စာစောင်ကျမ်းငယ်အဖြစ် တကြိမ်မျှသာဖြန့်ဝေခဲ့ပြီး ရန်ကုန်မြို့၊ သမိုင်းရပ် ဝိပဿနာ ပြန့်ပွားရေး အဖွဲ့ဝင် ဒါယကာ ဦးသန်းအောင်၏ လျှောက်ထားတောင်းပန်ချက်အရ ၄-၄-၃၂ ရက်နေ့စွဲဖြင့် (ဤစာစောင် ကျမ်းငယ်ကို) နောက်ဆက်တွဲပါ ရုပ်+နာမ် ရှုနည်း တရားတော်နှင့် စမ္မလက်ာများ အဓိပ္ပာယ် ရှင်းလင်းချက်များကို ပါ ပူးတွဲလျက် (ပထမအကြိမ်ရိုက်အဖြစ်) ခွင့်ပြုခဲ့ဘူးပါသည်။

ယခု တဖန် ဦးသန်းအောင်ကပင် အများကောင်းမှု (ဓမ္မဒါန)ပြုလိုပါကြောင်း ထပ်မံလျှောက်ထား တောင်းပန်သဖြင့် (ယင်းမူအတိုင်း) တည်းဖြတ်သန့်စင်၍ (ဒုတိယအကြိမ်) ပုံနှိပ်ရန် ပေးအပ်လိုက်ပါသည်။

**(ပုံ) ဦးဝိစိတ္တသာရာဘိဝံသ**

(၁၀-၁၀-၃၆)



ပဋ္ဌပ ဝပ္ပနာဒ ဆရာတော် ဦးပညာသက္ကမထေရ် ပုံတော်

(ဓါတ်ပုံ ရိုက်ကူးသောနှစ် ၁၂၈၂-ခု)

ပထမ ဓမ္မနာဒ ဆရာတော်

၏

# ခေတ် ၆-ပါးသိမ်းဆည်းပုံ

**နမော တေ ဗုဒ္ဓ ဝီရ + တ္ထု။**

**ပရမတ္ထ ဟူသမျှ မရဖြစ်ကိုယ်။**

ပရမတ္ထ, တရားမှန်သမျှ ဖြစ်ဟူလျှင် မြူကိုမျှ မရအပ်။ ပရမတ်သို့ ဆိုက်ရောက်အောင် ကြည့်ရှုလိုလျှင် အလုံး, အခဲ, အရှည်, အတို, အပု အဝိုင်း စသောစိတ်၌ ထင်မြင်နေသည့် သဏ္ဍာန်များကို ပျောက်အောင် ဖျောက်ရမည်။

**ဖျောက်ပုံမှာ**

**ငရုတ်စေ့၌၊ စိတ်တွေ့သတ်သတ်၊ အစပ်ကိုတိ၊ သိမြင်ဘိသို့၊ သတ္တိကိုမျှ၊ ရှုကြည့်ရ၊ ပရမတ္ထကို။**

ငရုတ်စေ့၌စိတ်ဖြင့်သာတွေ့ရှိထင်မြင်ခံစားရသောအစပ် အရသာကို ကြည့်ရှုသိမြင်ရသကဲ့သို့။ ပထဝီစသောပရမတ္ထ သဘာဝ ဓာတ်တို့ကိုလည်း **သ**တ္တိကိုသာ မြင်အောင် ကြည့်ရှုရာ၏၊ သတ္တိကို ဉာဏ်ဖြင့် တွေ့သိမှ ပရမတ္ထသို့ ဆိုက်သည်။ အလုံး, အခဲ, အရှည်, အတို, အဝိုင်း, အပုစသော သဏ္ဍာန်ကို အနည်းငယ်မျှ မထင်မြင်စေရ။ သဏ္ဍာန်ကို ထင်မြင်နေသမျှ ပရမတ္ထသို့ မဆိုက်ရောက်သေးဟူ၍ မှတ်ယူရာ၏။

## သဏ္ဌာန် ဖျောက်နည်း

သဏ္ဌာန်ပျောက်အောင် ဖျောက်နည်းကား

ပဓဝီစသော ကသိုဏ်းတို့ဖြင့် ဈာန်ကိုရရှိပြီးသော ဈာနလာဘီ ပုဂ္ဂိုလ်သည်၊ ထိုပထဝီစသော ကသိုဏ်းအနေဖြင့် ထင်မြင်ချက်ကို ပျောက် ပျက်အောင် အနည်းနည်း ပယ်ဖျောက်၍ ကောင်းကင်အာရုံ ပေါ်သော မှ ထိုကောင်းကင်အာရုံကို **"အာကာသော အနန္တော၊ အာကာသော အနန္တော"** ဟု စိတ်၌ကြည့်ရှု ပွားများရသကဲ့သို့ သဏ္ဌာနပညတ် ပျောက် လိုသော ယောဂီ ပုဂ္ဂိုလ်သည်လည်း အလုံး, အခဲ, အရှည်, အတို, အပု, အဝိုင်း စသော သဏ္ဌာန်ကို နှလုံးမသွင်းပဲ ဆိုလတ္တံ့သော အဘိုး ခက်မာမှု စသော သတ္တိကိုသာ (ရေတ်စေ့၏ အဝိုင်း ပြားချပ်ချပ် သဏ္ဌာန်ကို ဖျောက်ပယ်၍ အစပ်အရသာကို ကွက်၍ ဆင်ခြင် စဉ်းစား သကဲ့သို့) ရှုဆင်ခြင်ရာသည်။

### ဃန-လေးပါး

**သမူဟနှင့်၊ သန္တတိမျှ၊ ကိစ္စအာရုံ၊ ဤလေးပုံ၊ အစုံခွဲဖျက်ဖို့။**

၁။ သမူဟဃန = အပေါင်းအခဲကြီး တပုံ
၂။ သန္တတိဃန = အစဉ်ခဲကြီး တပုံ
၃။ ကိစ္စဃန = ပရမတ္ထ သဘာဝတို့၏ အလုပ် ကိစ္စ အစု အခဲကြီးတပုံ
၄။ အာရမ္မဏဃန = အာရုံအစုအခဲကြီး တပုံ

ဤလေးပုံတို့ကို သူ့သတ္တိနှင့်သူ ပေါ်လွင်အောင် ခွဲနိုင်၊ ဖြန့်နိုင်၊ ဖျက်နိုင်စေရမည်။ ဤလေးပုံကွဲပါမှ အလုံး, အခဲ, အရှည်, အတို, အပု, အဝိုင်း စသော သဏ္ဌာန်အနေဖြင့် ထင်မြင်နေသမျှ ပျောက်ကွယ်၍ ပရမတ်စစ်စစ်သို့ ဆိုက်ရောက် ပေလိမ့်မည်။ ဤသဏ္ဌာန်ပျောက်မှ ငါ, သူတပါး, ယောက်ျား, မိန်းမ စသော အထင်တို့ပျောက်လိမ့်မည်။

ဤလေးပုံ လေးခဲတို့တွင်

၁။ သမူဟဃနကား ဒြဗ်ဟူသမျှနှင့် သက်ဆိုင်သည်
၂။ သန္တတိဃနကား ကာလနှင့် သက်ဆိုင်သည်
၃။ ကိစ္စဃန
၄။ အာရမ္မဏဃနတို့ကား ဒြဗ်, ကာလ နှစ်ဌာနတို့နှင့် သက်ဆိုင်သည်ဟု အကျဉ်း မှတ်ယူရာ၏။

## သမူဟ ဃန ဖြိုနည်း

၁။ ထိုလေးပါးတို့တွင် သမူဟဃန,ကို ဖြိုဖျက်ရာ၌ ခန္ဓာ ငါးပါး အနေဖြင့် ကြည့်၍ ဖြိုဖျက်နည်း အာယတန တဆယ့်နှစ်ပါး အနေဖြင့် ကြည့်၍ ဖြိုဖျက်နည်း။

ဓာတ်တဆယ့်ရှစ်ပါးအနေဖြင့် ကြည့်၍ ဖြိုဖျက်နည်း စသည်ဖြင့် များပြားစွာရှိလေသည်။ အဘိဓမ္မာ ပိဋကတ်, သုတ္တန်ပိဋကတ်တို့၌ ဟောတော်မူသမျှသော တရားစုတို့သည် ထိုအခဲကြီးများကို ဖြိုဖျက်ရန် ဟောကြားအပ်သည့် တရားတို့ပေတည်း။ အချုပ်အားဖြင့် သဂြိုဟ်ကျမ်း တကျမ်းလုံးသည် ထိုဃန, ခေါ်သည့် အခဲကြီးလေးမျိုးတို့ကို ဖြိုဖျက်ရန် နည်းကောင်းကြီးပေတည်း။

ထိုသို့ဖြိုဖျက်ရန် နည်းကောင်းကြီး များစွာ တို့တွင် 'ပုဏ္ဏသာတိ' အရှင်အား ဟောကြားအပ်သော ဓာတ်ခြောက်ပါး အနေဖြင့် ကြည့်၍ ဖြိုဖျက်နည်းသည် မကျဉ်းမကျယ် မနည်းမများဖြစ်သဖြင့် ထိုအရှင်မြတ် အနာဂါမ် အရိယာဖြစ်၍ သုဒ္ဓါဝါသဘုံသို့ ကပ်ရောက်သွားကြောင်း ကျမ်းဂန်တို့၌ လာရှိရကား၊ ယင်း **"ဓာတ်ခြောက်ပါးနည်း"** ဖြင့်ယခင်ရှေ့သုံးခဲ(သမူဟဃန, သန္တတိဃန, ကိစ္စဃန)တို့ကို ဖြိုဖျက်ပုံ ပြပေအံ့။

**ဓာတ်ခြောက်ပါး ဟူသော်ကား**

က။ ပထဝီဓာတ်
ခ။ အာပေါဓာတ်

ဂ။ တေဇောဓာတ်

ဃ။ ဝါယောဓာတ်

င။ အာကာသဓာတ်

စ။ ဝိညာဏဓာတ်၊ ဤခြောက်ပါးတို့တည်း။

ထိုခြောက်ပါးတို့တွင်

**ခက်မာ, ယိုစေး၊ ပူအေး, ထောက်ကန်၊ ရုပ်မှန်ပိုင်းဖြတ်၊ အာရုံဓာတ်ကို၊ တပ်တပ်မြင်သိ၊ ဤသတ္တိ၊ မှတ်ဘိလက္ခဏာ။**

ဟူသော ဆောင်ပုဒ်လင်္ကာအတိုင်း

အကြမ်း,အနူ,ခက်မာမှုသတ္တိသည် ပထဝီဓာတ်၏ လက္ခဏာသဘော ယိုစေးဖွဲ့စည်းမှုသတ္တိသည် အာပေါဓာတ်၏ လက္ခဏာသဘော။ ပူမှုအေးမှု သတ္တိသည် တေဇောဓာတ်၏ လက္ခဏာသဘော။ လှုပ်ရှားထောက်ကန်မှု သတ္တိသည် ဝါယောဓာတ်၏ လက္ခဏာသဘော၊ ရုပ်ကလာပ်မှန်သမျှကို မရောယှက်အောင်ပိုင်းခြားကန့်သတ် ခြား၍ ဖြတ်၍ပေးခြင်း သတ္တိသည် အာကာသဓာတ်၏ လက္ခဏာ သဘော၊ အာရုံခြောက်ပါးကို အစိုးတရသိမြင်မှု သတ္တိသည် ဝိညာဏဓာတ်၏ လက္ခဏာသဘော။

ဤကား လက္ခဏာကိုရှု၍ ဓာတ်ခြောက်ပါး ခွဲပုံတည်း။

**ဆိုလိုရင်းကား**

ဤတလံမျှလောက်သော **ခန္ဓာကိုယ်၌** စမ်းသပ်၍ကြည့်လျှင် တွေ့သိရသော အကြမ်း,အနူ,ခက်မာမှု သတ္တိ သဘောမှန်သမျှသည် ပထဝီဓာတ်သာလျှင် ဖြစ်၏။ (ပုဂ္ဂိုလ်သတ္တဝါမဟုတ်)။ စိတ်ဖြင့် ကြံဆသိရသော ယိုစေး, ဖွဲ့စည်းမှု သတ္တိ သဘောမှန်သမျှသည် အာပေါဓာတ်သာလျှင် ဖြစ်၏။ (ပုဂ္ဂိုလ်သတ္တဝါမဟုတ်)။ စမ်းသပ်၍ကြည့်လျှင် တွေ့သိရသော ပူမှု, အေးမှု, သတ္တိ သဘော မှန်သမျှသည် တေဇောဓာတ်သာလျှင် ဖြစ်၏၊ (ပုဂ္ဂိုလ်သတ္တဝါမဟုတ်)၊ စမ်းသပ်၍ကြည့်လျှင် တွေ့သိရသော လှုပ်ရှား

ကောက်ကန်မှု သတ္တိသဘော မှန်သမျှသည် ဝါယောဓာတ်သာလျှင် ဖြစ်၏။ (ပုဂ္ဂိုလ်သတ္တဝါမဟုတ်)၊ စိတ်ဖြင့် ကြံဆသိရသော ရုပ်ကလာပ် တခုနှင့်တခု မရောယှက်အောင် ပိုင်းခြားကန့်သတ် ခြား၍ ဖြတ်၍ပေးခြင်း သတ္တိ သဘော မှန်သမျှသည် အာကာသဓာတ်သာလျှင်ဖြစ်၏။ (ပုဂ္ဂိုလ် သတ္တဝါမဟုတ်)။ စိတ်ဖြင့် ကြံဆသိရသော အာရုံခြောက်ပါးကို အစိုး တရ သိမြင်မှု သတ္တိ သဘော မှန်သမျှသည် ဝိညာဏဓာတ်သာလျှင် ဖြစ်၏။ (ပုဂ္ဂိုလ်သတ္တဝါမဟုတ်)ဟူ၍ ဆိုလိုသည်။

ထိုဆိုအပ်ပြီးသော ဓာတ်ခြောက်ပါးတို့တွင် **ပထဝီ,အာပေါ,တေဇော ဝါယော** ဤလေးပါးတို့သည် ရုပ်တရားတို့တည်း။ ထိုရုပ်ကြီးလေးပါး (မဟာဘုတ်ကြီး လေးပါး)တို့သည် နှစ်ဆယ့်တရုပ် (တနည်း နှစ်ဆယ့် သုံးရုပ်) ရုပ်ကလာပ်စည်းတိုင်းမှာ အခြေခံမူလ မှတည်အနေဖြင့် ပါလျက်ရှိကြ၏။ ထိုရုပ်ကြီးလေးပါး (မဟာဘုတ်ကြီးလေးပါး) တို့ကို နာနာကြည့်၍ ပွားများလျှင် ဓာတုဝဝတ္ထာန် ကမ္မဋ္ဌာန်း ပေါက်ရောက်၏။

စက္ခု, သောတ, မျက်စိအကြည်ရုပ် နား အကြည်ရုပ် စသည်တို့နှင့် တကွ ထိုရုပ်ကြီးလေးပါး သတ္တိလေးမျိုး တတွဲတတွဲတစုတစုကို ရုပ် ကလာပ်ခေါ်၏၊ (ထင်းချောင်း အပေါင်း အစုအစည်းကို ကဋ္ဌကလာပ ထင်းစည်းဟု ခေါ်သကဲ့သို့ ရုပ်ဘာဝ သတ္တိ အပေါင်း အစု အစည်းကို ရူပကလာပ, ရုပ်ကလာပ်ဟု ခေါ်၏)။ ထိုရုပ်ကလာပ် တစည်းနှင့်တစည်း သဘာဝသတ္တိချင်း မရောယှက်ဖို့ရန် အာကာသဓာတ်သည် ပိုင်းဖြတ် ကန့်သတ်လျက် တည်ရှိ၏။ ယို့ကြောင့် သမူဟဃန, အပေါင်းအခဲကို ဖြိုဖျက်သောအခါ ထိုအာကာသဓာတ်ကို နာနာသွင်း၍ ကြည့်ရသည်။ ထိုသို့ကြည့်နိုင်မှ အစိတ်စိတ် ကွဲပြား၍ ရုပ်သဘာဝ သတ္တိများ ထင်ရှား လာနိုင်သည်။ (ဤကား ရုပ်ဓာတ် ၅ ပါးအတွက်တည်း)။

အာရုံခြောက်ပါးကို အစိုးတရ သိမြင်မှု သတ္တိကား နာမ်ဓာတ် အတွက်တည်း၊ (အာရုံခြောက်ပါးကို အစိုးတရ သိမြင်မှု သတ္တိအစုသည် ဝိညာဏ်ခေါင်းဆောင်သော နာမ်တရားအစုသာဖြစ်၏။ ပုဂ္ဂိုလ်သတ္တဝါ မဟုတ်,ဟု နာနာကြည့်လေဟု ဆိုလိုသည်)။

ရုပ်ဓာတ် သတ္တိကလေးများသည် ပကတိ လူမျက်စိဖြင့် မမြင်ရ မမြင်နိုင်ပဲ နတ်မျက်စိဖြင့်သာ မြင်ရ မြင်နိုင်သည့် ပရမာဏုမြူကလေး တခုစာ၌ပင် ရုပ်ကလာပ်အစည်းပေါင်း ၄၉ စည်းခန့် စုဝေးနေသဖြင့် အလွန် သိမ်မွေ့ သေးဖွဲလှပေ၏။ ၄၉ စည်းအောက် ယုတ်လျော့လျှင် သန္တာန် မဆက်နိုင်ရာသောကြောင့် ပရမာဏုမြူတခုစာ၌ ရုပ်ကလာပ် အစည်းပေါင်း အနည်းဆုံး ၄၉ စည်းခန့် စုဝေးကည်နေသည်ဟု ဆရာ ဆရာတော်များ ခန့်မှန်းဆုံးဖြတ်တော်မူကြလေသည်။

ဤသို့ ပြဆိုအပ်ခဲ့ပြီးသော အကြမ်း, အနု, ခက်မာမှု စသော သတ္တိ လေးမျိုးတို့ မူလအခြေခံ မ,တည်လျက် ရုပ်သဘာဝ သတ္တိအစုအစည်း ရုပ်ကလာပ်တို့ ကလာပ် တစည်းတစည်းအားဖြင့် အစည်းပေါင်း များစွာ စုပေါင်းလျက် သန်းဦးခေါင်းလောက်, စပါးလုံး တထောက်လောက်, လက်ဘသစ်လောက်,တထွာလောက်,ဂတောင်လောက် စသည် တိုးတက် များပြား၍ မြင့်မိုရ်တောင်လောက် မဟာပထဝီမြေကြီးလောက် ပေါင်းစု တည်နေသည်ကိုပင် သက်ရှိ သဝိညာဏက အဇ္ဈတ္တ သန္တာန်၌ လက်,ခြေ ဦးခေါင်း စသည်တို့ဖြင့်လည်းကောင်း၊ သက်မဲ့ အဝိညာဏက ဗဟိဒ္ဓ သန္တာန်၌ တော,တောင်,ရေ,မြေ, သမုဒ္ဒရာ စသည်ဖြင့်လည်းကောင်း၊ အမည်ပညတ် တင်စား၍ ခေါ်ဝေါ်အပ်လေသည်။ ပြဆိုအပ်ပြီးသော အကြမ်း,အနု,ခက်မာမှုစသော အခြေခံမူလ မ,တည်သည့် သတ္တိလေးမျိုး၊ လေးမျိုးတို့ကို နာနာကြည့်ကုန်ရာ၏။

သက်ရှိ သက်မဲ့၊ အဇ္ဈတ္တ, ဗဟိဒ္ဓ သန္တာန် နှစ်ရပ်လုံး၌ပင် ထိုသတ္တိ လေးမျိုး လေးမျိုးတို့ကို ဉာဏ်ဖြင့် တွေ့အောင်ရှု၍ 'ရုပ်တရားအစုပါ တကား'ဟု နှလုံးထား ပွားများရာ၏၊ (**ဖောက်ပြန်တွေ့ပြား၊ ဖြစ်တတ် ငြား၍၊ စကားပုံသေ၊ ရုပ်ခေါ်ပေ၏** ဟူသော လယ်တီဆရာတော်ဘုရား ကြီး၏ခန္ဓာလင်္ကာအတိုင်း အချမ်း,အပူစသော ဆန့်ကျင်ဘက် အကြောင်း တို့ကြောင့် အကြောင်းတရား ပြောင်းလဲတိုင်း ပြောင်းလဲတိုင်း တမျိုး တမျိုး ဖောက်ဖောက်ပြန်ပြန် ထွေထွေပြားပြား ဖြစ်ပွားတတ်သော ကြောင့် ရုပ်ဟု ခေါ်သည်)။

အထူးအားဖြင့် အဇ္ဈတ္တ, သက်ရှိ သဝိညာဏက သန္တာန်၌သာ ဖြစ်ပွား တတ်သည့် ဆိုင်ရာ အာရုံခြောက်ပါးတို့ကို မြင်သိ, ကြားသိ, နံသိ,စားသိ ထိသိ, ကြံသိ ဟူသော သိမှုသတ္တိခြောက်မျိုးတို့ကို ဉာဏ်ဖြင့် ဆင်ခြင်၍ 'နာမ်တရားအစုပါတကား' ဟု နှလုံးထား ပွားများရာ၏။

**သတ္တိရှုက၊ သမူဟ-ဃန ပြို၏တည်း။**

ဤသို့ ရုပ်သဘာဝ သတ္တိ၊ နာမ် သဘာဝသတ္တိတို့ကို အဖန်ဖန် အထပ်ထပ် ရှုကြည့်က သမူဟဃနခေါ်သော အပေါင်း ခဲကြီးပြိုလေ၏။ အပေါင်းခဲကြီး ပြိုလျှင် ထိုအပေါင်းခဲကို စွဲ၍ ပညတ်ထားသည့် လက်, ခြေ,ဦးခေါင်း စသော သဏ္ဌာန်ပျောက်၍ (ထိုသဏ္ဌာန်ကို တပ်မက်သည့်) တဏှာ လောဘ မဖြစ်နိုင်ပေ။

**ဤကား သမူဟဃန ဖြိုနည်းတည်း။**

**သန္တတိဃန ဖြိုနည်း**

၂။ သန္တတိဃနဖြိုနည်းကား၊ ရုပ်သဘာဝသတ္တိ တစုတစုကို ရုပ် ကလာပ် တစည်းတစည်းဟုခေါ်၏။ မြင်မှုစက္ခုဝိညာဏ် အစရှိသော စိတ်တခုခုနှင့် ထိုစိတ်နှင့်အတူယှဉ်လျက် ဖြစ်ပေါ်လာသော နာမ်တရား တစုတစုကို နာမ်ကလာပ် တစည်းတစည်းဟု ခေါ်၏။ ထိုရုပ်ကလာပ် နာမ်ကလာပ်တို့သည် ဖြစ်,တည်,ချုပ်ဟူသော မိမိတို့၏ ဆိုင်ရာ ခဏငယ် သုံးချက်သာ အသက်ရှည်ကြသော တရားတို့ဖြစ်ကုန်၏။ ထိုသို့ ခဏငယ် သုံးချက်မျှသာ အသက်ရှည်ကြသော ရုပ်တရား, နာမ်တရားတို့၏ အကြား မလပ် အစဉ်မပြတ် ဖြစ်ပေါ်နေခြင်းကို ရုပ်သန္တတိ, နာမ်သန္တတိဟူ၍ ခေါ်၏၊ (ရုပ်သန္တတိသည် ခြကြောင်းခြအရေးနှင့်တူ၍ နာမ်သန္တတိသည် မင်ရေး မျဉ်းကြောင်းနှင့် တူ၏)။ ကိုသန္တတိ ဖုံးအုပ်ချက်ကြောင့် အနိစ္စ လက္ခဏာ မထင်ရှားပဲ ရှိရသည်။

ရှေးဖော်ပြရာပါ ရုပ်ဘက်ဆိုင်ရာ သတ္တိလေးမျိုး။ နာမ်ဘက်ဆိုင်ရာ ဂိညာဏ်ဓာတ် သတ္တိများသည် လျှောင်းခြင်း ဣရိယာ ပုထ်အခိုက်၌ တသန္တာန်, ထိုင်ခြင်း ဣရိယာပုထ်အခိုက်၌ တသန္တာန်,ရပ်ခြင်း ဣရိယာ ပုထ်အခိုက်၌ တသန္တာန်, သွားခြင်း ဣရိယာပုထ်အခိုက်၌ တသန္တာန် ဖြစ်ကြကုန်၏။

လျှောင်းခြင်း ဣရိယာပုထ်အခိုက်၌ ဖြစ်ပေါ်ကြသော ရုပ်သတ္တိ,နာမ် သတ္တိ သဘာဝတို့သည် ကွင်းသော ဣရိယာပုထ်သုံးပါးအခိုက်၌ မရှိ ကြကုန်။ ချုပ်ပျောက်ကြလေပြီ၊ ထိုင်ခြင်းဣရိယာပုထ်အခိုက်၌ ဖြစ်ပေါ် ကြသော ရုပ်သတ္တိ, နာမ်သတ္တိ သဘာဝတို့သည် ကြွင်းသော ဣရိယာပုထ် သုံးပါးအခိုက်၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ။ ရပ်ခြင်း ဣရိယာပုထ် အခိုက်၌ ဖြစ်ပေါ်ကြသော ရုပ်သတ္တိ, နာမ်သတ္တိ သဘာဝတို့သည် ကြွင်း သော ဣရိယာပုထ်သုံးပါးအခိုက်၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ။ သွားခြင်း ဣရိယာပုထ်အခိုက်၌ ဖြစ်ပေါ်ကြသော ရုပ်သတ္တိ, နာမ်သတ္တိ သဘာဝတို့သည် ကြွင်းသော ဣရိယာပုထ်သုံးပါး အခိုက်၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ၊ဤသို့ ကြည့်ရှုဆင်ခြင်ခြင်း သိမြင်ရာ၏၊ (ဤသို့ ဣရိယာပုထ်ကို ဦးတည်၍ ကြည့်ရှုခြင်းကား ရုပ်သန္တတိ အဓိကဖြစ် လေသည်)။

နာမ်သန္တတိကို အဓိကထား၍ ရှုလိုလျှင် အဆင်းကို မြင်သောအခိုက် အသံကို ကြားသောအခိုက်,အနံ့ကို နမ်းရှူသောအခိုက်,အရသာကို စား သောအခိုက်, အတွေ့ကို တွေ့ထိသိသောအခိုက်,ရုပ် နာမ် သဘောကို ကြံစည်သိရှိသောအခိုက်ဟူ၍ အခိုက်အတန့် ခြောက်ပါးထား၍ ရှုရာ၏၊ ရှုပုံကား အဆင်းကိုမြင်သောအခိုက်၌ ဖြစ်ပေါ်ကြသော နာမ်သတ္တိ ရုပ် သတ္တိသဘာဝတို့သည် ကြွင်းသော အခိုက်အတန့် ငါးပါးတို့၌ မရှိကြ ကုန်။ ချုပ်ပျောက်ကြလေပြီ၊ အသံကို ကြားသိသောအခိုက်၌ ဖြစ်ပေါ် ကြသော နာမ်သတ္တိ ရုပ်သတ္တိ သဘာဝတို့သည် ကြွင်းသော အခိုက် အတန့် ငါးပါးတို့၌ မရှိကြကုန်။ ချုပ်ပျောက် ကြလေပြီ။ အနံ့ကို နမ်းရှူသောအခိုက်၌ ဖြစ်ပေါ်ကြသော နာမ်သတ္တိ ရုပ်သတ္တိ သဘာဝ တို့သည် ကြွင်းသော အခိုက်အတန့် ငါးပါးတို့၌ မရှိကြကုန်။ ချုပ်

ပျောက်ကြလေပြီ။ အရသာကို စားသောအခိုက်၌ ဖြစ်ပေါ်ကြသော နာမ်သတ္တိ ရုပ်သတ္တိသဘာဝတို့သည် ကြွင်းသော အခိုက်အတန့်ငါးပါးတို့၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ။ အတွေ့ကို တွေ့ထိသိသော အခိုက်၌ ဖြစ်ပေါ်ကြသော နာမ်သတ္တိ ရုပ်သတ္တိသဘာဝတို့သည် ကြွင်းသော အခိုက် အတန့် ငါးပါးတို့၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ။ ရုပ်, နာမ် သဘောကို ကြံစည်သိရှိသော အခိုက်၌ ဖြစ်ပေါ်ကြသော နာမ်သတ္တိ ရုပ်သတ္တိ သဘာဝတို့သည် ကြွင်းသော အခိုက်အတန့် ငါးပါးတို့၌ မရှိကြကုန်။ ချုပ်ပျောက်ကြလေပြီ။ ဤသို့ ကြည့်ရှုဆင်ခြင် သိမြင်ရာ၏။

ဤကဲ့သို့ ဣရိယာပုထ် လေးပါး အခိုက်အတန့် မြင်,ကြား,နံ,စား,ထိ သိအားဖြင့် ခြောက်ပါးသော နာမ်တရားတို့၏ အခိုက်အတန့် အားဖြင့် ဖြတ်၍ ဖြတ်၍ ကြည့်ရှုလျှင်ပင် သန္တတိဃန အစဉ်ခဲကြီး ဖြိုတန်သမျှ ဖြိုရ၍ ဆိုပြီးသော အခိုက်အတန့် တခုတခု၌ပင် အစပိုင်း, အလယ်ပိုင်း,အဆုံးပိုင်း သုံးပိုင်းထား၍ ဆင်ခြင် ကြည့်ရှုလျှင် ပို၍ပင် သန္တတိခဲ ပြိုနိုင်၏။

## ဤကား သန္တတိဃန ဖြိုနည်းတည်း။

## ကိစ္စဃန ဖြိုနည်း

၃။ ကိစ္စဃန ဖြိုနည်းကား ထိုထိုရုပ်ခေတ်, နာမ်ခေတ်, ရုပ်သတ္တိ, နာမ်သတ္တိတို့၏ မိမိ မိမိတို့၏ ကိစ္စကို ရွက်ဆောင် ပြုလုပ်ကြသည်ကိုပင် ပေါင်းစု၍ မိန်းမ,ယောကျ်ားသွားသည်, ရပ်သည်, ထိုင်သည်, လျောင်း သည်, ကြည့်သည်, နားထောင်သည် စသည်ဖြင့် ပညတ်စကား ပြော ကြားကြခြင်းဖြစ်သည်။ ထိုသို့ရုပ်ခေတ်,နာမ်ခေတ်တို့၏ မိမိ မိမိတို့ကိစ္စ ကို ရွက်ဆောင် ပြုလုပ်ကြခြင်းကို အသီးအသီးဉာဏ်ဖြင့် ခွဲစိတ်ကြည့်ရှု လျှင် မိန်းမ, ယောကျ်ား သွားသည်,ရပ်သည်,ထိုင်သည်, လျောင်းသည်, ကြည့်သည်, နားထောင်သည် စသော ထင်မြင်မှု ကိစ္စဃန ပြိုကွဲနိုင်လေ သည်။ ထို့ကြောင့် ရှေးဖော်ပြရာပါ ခေတ်ခြောက်ပါးတို့အနက်-

ပထဝီခေတ်သည် အခြား ဖြစ်ဖော်ဖြစ်ဘက် ရုပ်တို့၏ တည်ရာကိစ္စကို ရွက်ဆောင် ပြုလုပ်သည်။ အာပေါခေတ်သည် အခြား ဖြစ်ဖော်ဖြစ်ဘက်

ရုပ်တို့၏ တိုးပွားစေမှု ကိစ္စကို ရွက်ဆောင်ပြုလုပ်သည်၊ တေဇောဓာတ်သည် ရင့်ကျက်စေမှုကိစ္စကို ရွက်ဆောင်ပြုလုပ်သည်။ ဝါယောဓာတ်သည် ရွေ့ရှားစေမှု ကိစ္စကို ရွက်ဆောင်ပြုလုပ်သည်။ အာကာသဓာတ်သည် ရုပ်ကလာပ်တို့ တခုနှင့်တခု ရောယှက်ခြင်း မရှိရအောင် အဆုံးအပိုင်းအခြား ကိစ္စကို ရွက်ဆောင်ပြုလုပ်သည်။ ဝိညာဏဓာတ် ခြောက်ပါး (စက္ခုဝိညာဏ် မြင်မှု၊ သောတဝိညာဏ် ကြားမှု၊ ဃာန ဝိညာဏ် နမ်းရှုမှု၊ ဇိဝှါ ဝိညာဏ် လျက်မှု စားမှု၊ ကာယ ဝိညာဏ် တွေ့ထိမှု၊ မနော ဝိညာဏ် သိမှု၊ ဤ ဝိညာဏဓာတ်ခြောက်ပါး) တို့သည် မြင်မှု, ကြားမှု စသောကိစ္စတို့၌ ရှေ့ဆောင်ရှေ့ရွက် ရှေ့သွားပြုမှုခေါင်းဆောင်မှုကိစ္စတို့ကို ရွက်ဆောင် ပြုလုပ်ကြသည်၊ ဤသို့ ရှုဆင်ခြင်ရာ၏။ ထိုသို့ ရှုဆင်ခြင်လျှင် ကိစ္စဃန ပြိုကွဲ၍ ဓာတ်ခြောက်ပါးတို့ မိမိတို့ကိစ္စကို အသီးအသီး ရွက်ဆောင် ပြုလုပ်ကြသည်ကို အစိတ်စိတ် သိမြင်သဖြင့် ယောကျ်ားသွားသည်, မိန်းမသွားသည်,စသော အထင်လွဲ အမြင်လွဲတို့ ပျောက်ကင်းနိုင်၏။

## ဤကား ကိစ္စဃန ဖြိုနည်းတည်း။

### အာရမ္မဏဃန ဖြိုနည်း

၄။ အရမ္မဏဃန အာရုံခဲကို ဖြိုနည်းကား-ဓာတ်ခြောက်ပါး အနေဖြင့် လိုက်ရန်မလို၊ ထင်ရှားရှိသောအတိုင်း မိန်းမ, ယောကျ်ား, သမုတ်ထားသော ဝတ္ထုအထည်ကိုယ်ဒြပ်ကြီးတို့၌

မိမိ၏ စက္ခုပသာဒခေါ် မျက်စိအကြည်ဖြင့် ထိခိုက်၍ မိမိ၏ စက္ခုဝိညာဏ် အမြင်စိတ်ဖြင့် သိရသော အဖြူ,အနီ,စသော အဆင်းရူပါရုံကို တပုံ ပုံ၊ မိမိ၏ သောတ ပသာဒခေါ် နားအကြည်ဖြင့် ထိခိုက်၍ မိမိ၏ သောတဝိညာဏ်အကြားစိတ်ဖြင့်သိရသော အသံမျိုးစုံ သဒ္ဒာရုံကို တပုံ ပုံ၊ မိမိ၏ ဃာနပသာဒခေါ် နှာခေါင်း အကြည်ဖြင့် ထိခိုက်၍ မိမိ၏ ဃာန ဝိညာဏ် နမ်းရှုစိတ်ဖြင့် သိရသော အနံ့မျိုးစုံ ဂန္ဓာရုံကို တပုံ ပုံ၊ မိမိ၏

ဇိဝှာ ပသာဒခေါ် လျှာ အကြည်ရုပ်ဖြင့် ထိခိုက်၍ မိမိ၏ ဇိဝှာ ဝိညာဏ် လျက်စိတ် စားစိတ်ဖြင့် သိရသော အချို, အချဉ်, စသော ရသာမျိုးစုံ ရသာရုံကို တပုံ ပုံ။ မိမိ၏ ကာယ ပသာဒခေါ် ကိုယ် အကြည်ဖြင့် ထိခိုက် ၍ မိမိ၏ ကာယဝိညာဏ် တွေ့ထိ စိတ်ဖြင့် သိရသော အကြမ်း, အနု, စသော အတွေ့မျိုးစုံ ဖောဋ္ဌဗ္ဗာရုံကို တပုံ ပုံ၊ ဤ အာရုံငါးပါးမှတပါး မိမိ၏ မနောဝိညာဏ်သက်သက်ဖြင့်သာ သိရသော မိန်းမ, မယောက်ျား အထည် ကိုယ် ဒြပ်အတွင်းမှာ ရှိနေသည့် ရုပ်တရား, စိတ်, စေတသိက် တရားတည်းဟူသော သဘောမျိုးစုံ ဓမ္မာရုံကို တပုံပုံ၊(အာရုံခြောက်ပါး တို့ကို ဉာဏ်ဖြင့် တပုံစီပုံ၍ ကြည့်ဟုဆိုလို၏)။ ဤအာရုံခြောက်ပါးတို့ကို ပင် မိန်းမဟူ၍လည်းကောင်း, ယောက်ျားဟူ၍ လည်းကောင်း, ငါဟူ၍ လည်းကောင်း, သူတပါးဟူ၍ လည်းကောင်း,လောကပညတ် ခေါ်ဝေါ် တင်စားအပ်လေသည်။ ဤ အာရုံခြောက်ပါးမှ တပါး (အသီးအခြား) မိန်းမ, ယောက်ျား,ဟူ၍ မရှိ။ အလုံး အခဲ အပု အဝိုင်း စသည် မရှိ။

ထိုသို့ မရှိပုံကို အဆင်းမျိုးစုံ ရူပါရုံသည် ဝိုင်းဝိုင်းလား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ကြည့်။ အသံမျိုးစုံ သဒ္ဒါရုံသည် ဝိုင်းဝိုင်းလား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ ကြည့်။ အနံ့မျိုးစုံ ဂန္ဓာရုံသည် ဝိုင်းဝိုင်းလား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ကြည့်။ ရသာမျိုးစုံ ရသာရုံသည် ဝိုင်းဝိုင်း လား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ကြည့်။ အတွေ့မျိုးစုံ ဖောဋ္ဌဗ္ဗာရုံသည် ဝိုင်းဝိုင်းလား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ကြည့်။ ရုပ်နာမ် ဓမ္မမျိုးစုံ ဓမ္မာရုံသည် ဝိုင်းဝိုင်းလား, ရှေရှေလား, ပုပုလား, စသည်ဖြင့် ကိုယ့်စိတ်ကို မေး၍ ကြည့်။ စိစစ်၍ ကြည့်။

ထိုသို့ စိစစ်၍ ကြည့်သော အခါ ဝိုင်းဝိုင်း, ရှေရှေ, ပုပု, စသော သဏ္ဌာန် ကင်းပျောက်၍ ရေတ်စေ့၌ အစပ်အရသာ သတ္တိကလေးကဲ့သို့ အလုံးစုံ အကုန် သတ္တိချည်း ဖြစ်သည်ကို သိရှိရပေလိမ့်မည်။ ထိုအခါ

မိန်းမ, ယောကျ်ား,ဟူ၍ စွဲလမ်း မှတ်ထင်နေသော သညာ့ကြီးပျောက်၍ ပရမတ်စစ်သို့ အသိဉာဏ် ရောက်လိမ့်မည်။ ထိုသို့ ပရမတ်စစ်သို့ အသိဉာဏ်ရောက်သော အခါမှ ထို ပရမတ္ထ သတ္တိ သဘာဝတို့၏ မမြဲသော အနိစ္စသဘော, ဆင်းရဲသော ဒုက္ခသဘော, မစိုးပိုင်သော အနတ္တသဘောတို့ကို ဝိပဿနာဉာဏ် ဆယ်ဆင့်ဖြင့် အစဉ်အတိုင်း ရှုဆင်ခြင်၍ မဂ်ဉာဏ်, ဖိုလ်ဉာဏ်သို့ ဆိုက်ရောက်နိုင်သည်။

## ဤကား အာရမ္မဏ သနဖြိုနည်းတည်း။

ဤဖွင့် တရားလုံး လုပ်သားကား ပြဆိုခဲ့ပြီးသော ဓာတ် ၆ ပါး, အာရုံ ၆ ပါး, တို့တည်း။ ထိုဓာတ် ၆ ပါး, အာရုံ ၆ ပါး,တို့ကို ဓာတ်အနေဖြင့် မြင်အောင်၊ အာရုံအနေဖြင့် မြင်အောင်၊ အစဉ်မပြတ် နှလုံးသွင်းရာ၏။

### အထူး လေ့လာ မှတ်သားရန်

"မိန်းမ, ယောကျ်ား, ငါ, သူ တပါး,မဟုတ်"ဟု ဆိုရာ၌ အဋ္ဌကထာနှင့် ဟကွယသော အလုံး စုံသော အဘိ ဓမ္မာ ပိဋကတ် တော်ကြီး သည် အယောက်အယား သက်သေ သာကေပင် ဖြစ်၏။ ထိုအဘိဓမ္မာ ပိဋကတ်ကြီးကိုကား ဆိုခြင်းငှာ မတတ်ကောင်း။ သို့သော် အနည်းငယ်မျှသော ဥပဒေသကို ပြဆိုပါဦးအံ့။

ဤမိန်းမ၏ကိုယ်, ယောကျ်ား၏ကိုယ်, မည်သည်ကား နာမ် ရုပ် မျှသာတည်း၊ ထိုနာမ်,ရုပ်ဟူရား, နှစ်ပါးတို့တွင် ရုပ်ကား တည်ရာဌာန၊ နာမ်ကား တည်တတ်သော သဘော ဌာနီ၊ ဖြစ်သည်။

## နာမ် + ရုပ်ကို သရက်ပင် ဥပမာဖြင့် ပြခြင်း

**ဥပမာ** သရက်သီးမှည့်၏ အတွင်း၌ ထင်ရှားရှိနေသော မျိုးစေ့ ဗီဇဓာတ်၏ တည်ရာကား သရက်စေ့ဆံ၊ သရက်စေ့ဆံ၏ တည်ရာကား အအိမ်၊ အအိမ်၏ တည်ရာကား သရက်သီးမှည့်၊ (ယင်းဗီဇဓာတ် အစေ့၊ အအိမ်တို့ကို စုပေါင်း၍ သရက်သီးဟု ခေါ်၏)။

ထိုသရက်သီး၏ တည်ရာကား အခွံ။ အခွံ၏တည်ရာကား အခက်၊ အခက်၏ တည်ရာကား ပင်စည်၊ ပင်စည်၏ တည်ရာကား အမြစ်။ အမြစ်၏တည်ရာကား မြေကြီး၊ မြေကြီး၌ မြေ၏အရသာ ရေ၏အရသာသည် အမြစ်ကို အစဉ်လျှောက်၍ ပင်စည်သို့တက်၏။ ပင်စည်သို့ အစဉ်လျှောက်၍ အခက်သို့တက်၏။အခက်သို့အစဉ်လျှောက်၍ အညှာသို့ တက်၏၊ အညှာသို့အစဉ်လျှောက်၍ သရက်သီးသို့ ဝင်ရောက်တည၏။

ဤသို့တည်ရာ၌ အမြစ်, ပင်စည်, အခက်, အခွံ အသီးဟု ဆိုအပ်သော အကျိုးငါးခု အပေါင်းဖြစ်သော သစ်ပင်ကြီးအား မျိုးစေ့သည်ဖြစ်စေတတ်သော (ဇနက) သတ္တိဖြင့် ကျေးဇူးပြု၏။ မြေအရသာ၊ ရေအရသာတို့သည် မှီရာအထောက်အပံ့ (ဥပတ္ထမ္ဘက) သတ္တိဖြင့် ကျေးဇူးပြုကုန်၏။ ။ဤကား သစ်ပင်၏ ဥပမာတည်း။

ဤဥပမာ နည်းတူ ဤအတ္တဘော တည်းဟူသော နာမ်ရုပ် အစု၌ အသီးမည်သည်ကား ဥက္ကဋ္ဌ ပရိစ္ဆေဒ အားဖြင့် ခံစားမှု ဝေဒနာသဘောတည်း၊ (ဝေဒနာသည် သရက်သီးနှင့်တူ၏ဟု ဆိုလိုသည်)။ ထိုဝေဒနာ၏ တည်ရာအကြောင်းကား တွေ့ထိမှုဖဿတည်း၊ (ဖဿသည် အခွံနှင့်တူ၏ဟု ဆိုလိုသည်)။ ဖဿ၏တည်ရာအကြောင်းကား သဠာယတန (မျက်စိ, နား, နှာ, လျှာ, ကိုယ်, စိတ်ဟူသောအတွင်း အာယတန ၆-ပါး) တည်း၊ (သဠာယတနသည် အခက်နှင့်တူ၏ဟု ဆိုလိုသည်)။ သဠာယတန၏ တည်ရာကား နာမ်ရုပ် တည်း၊ (နာမ်ရုပ်သည် ပင်စည်နှင့်တူ၏ဟုဆိုလိုသည်)။ နာမ်ရုပ်၏ တည်ရာကား ဝိညာဏ် (ပဋိသန္ဓေ စိတ်ဝိညာဏ်) တည်း၊ (ဝိညာဏ်သည် အမြစ်နှင့် တူ၏ဟု ဆိုလိုသည်)။ ဤအကျိုးတရားငါးပါး (ဝိညာဏ်။ နာမ်ရုပ်၊ သဠာယတန၊ ဖဿ၊ ဝေဒနာ) အပေါင်းကိုပင် ယောကျ်ား၏ကိုယ်, မိန်းမ၏ကိုယ် ဟု ခေါ်ဆိုသမုတ် နေကြရ၏။

**တနည်းမှာ** ရှေးနည်းအတူပင် ဝေဒနာ၏ တည်ရာ အကြောင်းကား ဖဿ၊ (ဖဿသည် အခွံနှင့်တူ၏ဟု ဆိုလိုသည်)။ ဖဿ၏ တည်ရာ အကြောင်းကား ဝိညာဏ်၊ (ဝိညာဏ်သည် အခက်နှင့် တူ၏ဟု ဆိုလိုသည်)။ ဝိညာဏ်၏ တည်ရာ အကြောင်းကား ဝတ္ထုရုပ် ၆-ပါး (ဝတ္ထု

ရုပ်၆-ပါးသည် ပင်စည်နှင့် တူ၏ဟု ဆိုလိုသည်)။ ဝတ္ထုရုပ် ၆-ပါး၏ တည်ရာ အကြောင်းကား ဘူတရုပ်လေးပါး၊ ခေါက်ကြီးလေးပါးတို့တည်း၊ (ဘူတရုပ် လေးပါးတို့သည် အမြစ်နှင့် တူကုန်၏ ဟု ဆိုလိုသည်)၊ ဤသို့ အာဓာရ, အာဓေယ်၊ ဌာန, ဌာနီ၊ တည်ရာတည်တတ်အဖြစ်ဖြင့်အကြောင်း အကျိုး ဆက်သွယ်ကာ တည်ရှိနေသော (ရှေးနည်းအလို) ဝိညာဏ် စသောအားဖြင့် (နောက်နည်းအလို)ဘူတရုပ် စသောအားဖြင့် ပေါင်း အပ်သော သစ်ပင်နှင့်တူသော ဤအတ္တဘော ကိုယ်ကောင်ကြီးအား (မျိုးစေ့သည် သစ်ပင်အား ကျေးဇူးပြုသကဲ့သို့) ကံသည် ဇနက သတ္တိ ဖြင့် ကျေးဇူးပြု၏။ (မြေအရသာ, ရေအရသာ, တို့သည် သစ်ပင်အား ထောက်ပံ့သောအနေဖြင့် ကျေးဇူးပြုသကဲ့သို့) အဝိဇ္ဇာနှင့်တဏှာ၊ ဤ တရားတို့သည် ထောက်ပံ့တတ်သော ဥပတ္ထမ္ဘက သတ္တိဖြင့် ကျေးဇူးပြု ကုန်၏။

ဤဥပမာ၊ ဥပမေယျ၌ စစ်တမ်းထုတ်၍ ကြည့်ရမည်။

**ကြည့်ပုံမှာ**

ဝိညာဏ်, နာမ်ရုပ်, သဠာယတန, ဖဿ, ဝေဒနာ (တနည်း) မဟာ ဘုတ်, ဝတ္ထု, ဝိညာဏ်, ဖဿ, ဝေဒနာ၊ ဤအကျိုးတရား ၅-ပါးမှ တပါး အသီးအခြား ယောကျ်ား, မိန်းမ, အတ္တ, အတ္တနိယ ရှိသလောဟု စိစစ်လေ။ ထိုသို့ စိစစ်သောအခါ ယခင်နည်း နှစ်ပါးလာ အကျိုးတရား ၅-ပါးတို့ကိုသာ တွေ့ရပေလိမ့်မည်။ မိန်းမ, ယောကျ်ား စသည်ရှာ၍ မတွေ့လတ္တံ့ သည်သာလျှင်တည်း။

**ဤအရာ၌**

"ဆိုအပ်ပြီးသော နည်းနှစ်ပါးအရ အကျိုးတရားငါးပါးအစုရှိသည် မှန်ပါစေ လက်ခံပါ၏၊ ယင်းအကျိုးတရား ငါးပါးတို့ကို ပြုလုပ်စီမံ ဖန် တီးတတ်သော ဖန်ဆင်းရှင် လူ, နတ်, ဗြဟ္မာစသည်မှုကား အခြားတပါး ရှိသည် မဟုတ်လော" ဟု မေးမြန်းဖွယ် ရှိလာပြန်၏။

**အဖြေကား** 'မရှိ' ဟူပေ၊ ခဲ့ဦးအံ့။ ယခုဘဝ အကျိုးတရား ငါးပါးတို့ ထင်ရှား ဖြစ်ပေါ်ကြသကဲ့သို့ အတိတ်ဘဝ၌လည်း အကျိုးတရား ငါးပါးတို့ ထင်ရှားဖြစ်ပေါ်ခဲ့ဘူးကြလေပြီ၊ ထိုအတိတ်ဘဝ အကျိုးတရား ငါးပါးထဲ၌ ဝါ ငါးပါးကိုအမှီပြု၍ ယခုဘဝ ပစ္စုပ္ပန်အကျိုးတရားငါးပါးတို့ကို ဖြစ်စေဖို့ရန် ကျေးဇူးပြုကြမည့် တဏှာ, ဥပါဒါန်, ဘဝ, အဝိဇ္ဇာ, သင်္ခါရတည်းဟူသော အကြောင်းတရားစုသည် ပြီးစီးဖြစ်ပေါ်၍ လိုက်ပါခဲ့လေသည်။ ရှေးသစ်ပင်ကြီးထဲတွင် အစိတ်တခုအနေဖြင့် (နောက် သစ်ပင် တပင်ကို ဖြစ်စေမည့်) အစေ့ဗီဇခေါတ် ပါဝင်နေသကဲ့သို့မှတ်ရာ၏၊ထိုအတိတ်ဘဝအကြောင်း ငါးပါးကြောင့် ယခုပစ္စုပ္ပန်ဘဝ အကျိုးငါးပါးတို့ ဖြစ်ပေါ်ကြ၏။ ထို့ကြောင့် ပြုလုပ်စီမံ ဖန်တီးပေးတတ်သူ ဖန်ဆင်းရှင် (အသီးအခြား) လူ,နတ်,ဗြဟ္မာ စသည်မရှိ။ ယခင်အတိတ် အကြောင်း ငါးပါးကသာ ပစ္စုပ္ပန် အကျိုးငါးပါးကို ဖြစ်စေကြ၏။ ယခု ဘဝ၌လည်း မိန်းမ, ယောကျ်ားဟူ၍ သီးခြားမရှိ။ ယခင် ဖော်ပြရာပါ အကျိုးတရား ငါးပါးတို့သာလျှင် ပရမတ် စစ်စစ်အနေဖြင့်ရှိ၏။

**တဖန်**

"ယခုဘဝပစ္စုပ္ပန် ခန္ဓာကိုယ်အတ္တဘောကို ဖန်ဆင်းရှင် မရှိဟူလျှင် ဖြစ်တန်စေ လက်ခံပါ၏။ သို့သော် ပစ္စုပ္ပန်အကျိုး ငါးပါး တရားတို့မှ အသီးအခြား သွားမှု, လာမှု, ခဲမှု, သောက်မှု, ပြောမှု, ဆိုမှု, ချုပ်ချယ်မှု စသည်ကို ပြုလုပ်တတ်သောသူမူကား ရှိသည်မဟုတ်လော" ဟု မေးမြန်းဖွယ်ရှိလာပြန်၏။

ဤမေးမြန်းချက်အတွက် အဖြေမှာလည်း ဘစ်ပင်ကြီးကဲ့သို့ အဆင့်ဆင့်ကြောင်းကျိုး ဆက်စပ် တည်ရှိသော အကျိုးတရား ငါးပါးတို့သည်သာလျှင် ထိုထို ကာယဝိညတ်, ဝစီဝိညတ် အမူမူတို့ကို ပြုကြ၏။ ထိုသို့ ပြုကြရာ၌ စိတ်အလိုအတိုင်း အခြင်းအရာကွဲလွဲသော ကာယဝိညတ် အမျိုးမျိုး အမူအရာ အမျိုးမျိုးတို့ကိုစွဲ၍ သွားမှု, လာမှု, ခဲမှု, သောက်မှု

စသည်ခေါ်ဆိုပညတ်ခြင်း ဖြစ်လေသည်။ စိတ်အလိုအတိုင်း အခြင်းအရာကွဲလွဲသော ဝစီဝိညတ် အမျိုးမျိုး အမူအရာအမျိုးမျိုးတို့ကိုစွဲ၍ ပြောမှု, ဆိုမှု, ချုပ်ချယ်မှု စသည့် ခေါ်ဆိုပညတ်ခြင်းဖြစ်လေသည်။ အချုပ်အားဖြင့်

**၁။ အကြောင်းတရား တရပ်**
**၂။ အကျိုးတရား တရပ်**
**၃။ ဝိညတ်တရား တရပ်**

ဤတရားသုံးရပ်ကို ပိုင်ပိုင်နိုင်နိုင် သိမြင်ထားပါက "ယောကျ်ားမိန်းမ ဖြစ်အောင် ပြုလုပ်တတ်သူ လူ, နတ်, ဗြဟ္မာ ဖန်ဆင်းရှင်ဟူ၍မရှိ။ ယောကျ်ား, မိန်းမ ဟူ၍လည်း မရှိ။ သွားမှု, လာမှု စသည်ကို ပြုတတ်သူဟူ၍လည်း မရှိ"ဟူ၍ ပိုင်ပိုင်နိုင်နိုင် ယုံမှား မရှိ သိမြင်လာလိမ့်မည်။

## အကြောင်းအကျိုး ခွဲခြားပြခြင်း

အတိတ်အကြောင်းတရား ငါးပါး ဟူသည်ကား "အတီတေ ဟေတဝေါပဉ္စ" သင်္ဂြိုဟ်ပါဠိအရ အတိတ် ဘဝက ဖြစ်ခဲ့ပြီးသော အဝိဇ္ဇာ, သင်္ခါရ, တဏှာ, ဥပါဒါန်, ကမ္မဘဝ၊ ဤတရား ငါးပါးတို့တည်း။ အကျိုးတရားငါးပါးဟူသည်ကား 'ဣဒါနိ ဖလပဉ္စကံ' သင်္ဂြိုဟ်ပါဠိ အရ အတိတ်အကြောင်းကြောင့် ယခု ဘဝဖြစ်ပေါ်ကြသောဝိညာဏ်, နာမ်ရုပ်, သဠာယတန, ဖဿ, ဝေဒနာ၊ ဤတရား ငါးပါးတို့တည်း။ ဝိညတ် ဟူသည်ကား ကာယ ဝိညတ်, ဝစီဝိညတ် နှစ်ပါးတို့တည်း။

ဝိညတ် အမူအရာ ဖြစ်ပေါ်ပုံ၌ ဥပမာကား မဟာသမုဒ္ဒရာကိုကူးသန်းသွားလာကြသော လှေသူကြီးတို့၏အဖို့ရာ လှေသည် တည်ရာဌာန ဖြစ်၏။ လှေသူကြီးသည် တည်တတ်သော ဌာနီဖြစ်၏၊ ထိုနှစ်မျိုးတို့တွင် လှေသူကြီး၏ အလိုအတိုင်း လှေသည် ဖြစ်ပေါ်လိုက်ပါရ၏။ လှေအားလျော်စွာ လှေသူကြီးသည် သွားလာရ၏၊ တည်ရာလှေက လှေသူကြီးကို အစိုးမရ၊ လှေသူကြီးကသာ (လောက ပညတ်အလို) လှေကိုအစိုးရ၏၊ ထို့ကြောင့်ပင် လှေသူကြီးအလိုအတိုင်း လှေကို ထားလိုသောအရပ်၌ ထားနိုင်၍ သွားလိုသောအရပ်သို့ သွားနိုင်၏။

## ရုပ်+နာမ်ကို လှေ ဥပမာဖြင့် ပြခြင်း

ဤဥပမာ၌ လှေနှင့် ရူပကာယ ရုပ်ကိုယ်ကြီးသည် တူ၏။ လှေသူကြီးနှင့် စိတ် ဝိညာဏ်သည် တူ၏။ စိတ် အလိုအတိုင်း ရူပကာယရုပ် ကိုယ်ကြီးသည်သွား၏၊ ရပ်၏၊ထိုင်၏၊ လျောင်း၏၊ ရှေ့သို့တက်၏၊ နောက်သို့ဆုတ်၏၊ခဲ၏၊စား၏ စကားပြောဆို၏၊ ရယ်၏၊ငို၏၊အယုတ်ဆုံး (စိတ်အလိုက) လက် တဆစ်တည်း လှုပ်စေလိုလျှင် လက်တဆစ်သာ လှုပ်၏၊ ကြွင်းသော ကိုယ်အလုံးမလှုပ်၊ (စမ်းသပ်လှုပ်ကြည့်ပါလေ)။

ဤ၌ ''စိတ်အလိုအတိုင်း ရူပကာယ ရုပ်ကိုယ်ကြီးသည် သွားလာလှုပ်ရှားရ၏'' ဟူသော စကားကို အစွဲပြု၍

''ထိုသို့ဖြစ်လျှင် စိတ်ဝိညာဏ်သည် ဖန်ဆင်းရှင် အတ္တမည်၏'' ဟု စောဒက ပရဝါဒီက ဆိုလာပြန်ခဲ့သော် (အဖြေကား) ''စိတ်ဝိညာဏ်ချည့် သက်သက် ထိုထိုသွားမှု၊ ရပ်မှု၊ ထိုင်မှု၊ လျောင်းမှု စသည်ကိုမပြုနိုင်၊ ပဓာနနည်းအားဖြင့်သာ စိတ်အလိုအတိုင်း ရုပ်ကိုယ်ကြီးလှုပ်ရှားရ၏'' ဟု ဆိုခြင်း ဖြစ်သည်။ ထို့ကြောင့် စိတ်ဝိညာဏ်သည် ဖန်ဆင်းရှင် အတ္တ မဟုတ်ပါ။ ''စင်စစ်သော်ကား တရားအများ ပေါင်းဆုံမှသာ ထိုထိုသွားမှု၊ ရပ်မှု စသည်ကိုပြုနိုင်၏'' ဟူ၍ ဖြေဆိုရပေမည်။

**ပေါင်းဆုံပုံကား** စိတ် ဝိညာဏ်သည် စေတနာကစေ့ဆော်၍ပေးပါမှ စေတနာသည်လည်း မနသိကာရက ပြီးစေပါမှ မနသိကာရသည်လည်း ဆန္ဒက ယူပေးပါမှ ဆန္ဒသည်လည်း ဝိတက်က ရှေးရှု အာရုံသို့ တင်ပေးပါမှ ဝိတက်သည်လည်း ဝိစာရက သုံးသပ်ပေးပါမှ ဝိစာရသည်လည်း ဝီရိယက ထောက်ပံ့ပေးပါမှ ဝီရိယသည်လည်း ဧကဂ္ဂတာက တပေါင်းတည်းအဖြစ် ရောက်အောင် ပြုပေးပါမှ ဧကဂ္ဂတာသည်လည်း ဇီဝိတက စောင့်ရှောက်ပေးပါမှ ဇီဝိတသည်လည်း ဖဿက တွေ့ထိပေးပါမှ ဖဿသည်လည်း ဝေဒနာက ခံစားပေးပါမှ ဝေဒနာသည်လည်း သညာက မှတ်သားပေးပါမှ သညာသည်လည်း ဝိညာဏ်က သိပေးပါမှ ရှေးဖော်ပြရာပါ သွားမှု၊ ရပ်မှု၊ ထိုင်မှု စသည်ကိုပြုနိုင်၏။ ထို့ကြောင့် ဝိညာဏ်ကို

လည်းကောင်း၊ စေတနာကိုလည်းကောင်း၊ မနသိကာရကိုလည်းကောင်း၊ ဆန္ဒကိုလည်းကောင်း။ ဝိတက်ကိုလည်းကောင်း၊ ဝိစာရကိုလည်းကောင်း၊ ဝီရိယကိုလည်းကောင်း၊ ဧကဂ္ဂတာကို လည်းကောင်း၊ ဇီဝိတကို လည်းကောင်း၊ ဖဿကိုလည်းကောင်း၊ ဝေဒနာကိုလည်းကောင်း၊ သညာကို လည်းကောင်း၊ ဖန်ဆင်းရှင် အတ္တဟူ၍ မဆိုရဟု မှတ်ကုန်ရာ၏။

**ဝိ, စေ, မန၊ ဆန္ဒ, တက္ကာ၊ ဝိစာ, ဝီရိ၊**
**ဇီဝိ, ဖဿာ၊ ဝေ, သညာနှင့်၊**
**စိတ်သာတကွ၊ ပေါင်းပြုမှ၊ ပြီးရစီးရသည်။**

သို့သော် စိတ်ဝိညာဏ်သည် ရွေ့သွား ဖြစ်သည့်အတွက် ထိုစိတ် ဝိညာဏ်ကို ရွေ့သွား အဦးပြု၍

**သွားလို ရပ်လို၊ ထိုင်နေလို၊ အိပ်လို စိတ်ဟုသိ။**
**စိတ်ကြောင့်ဖြစ်သော၊ ဓာတ်ဝါယော၊ နှံ့နှော့ကိုယ်ဝယ်ပြည့်။**
**ဝါယောပြည့်သော်၊ ဝိညတ်ပေါ်၊ ရုပ်သော်သွားလာ၏။**
**ပုဂ္ဂိုလ်မသွား၊ ငါမသွား၊ * ရုပ်သွား ဉာဏ်ဖြင့်ကြည့်။**
**ပုဂ္ဂိုလ်မရပ်၊ ငါမရပ်၊ * ရုပ်ရပ်ဉာဏ်ဖြင့်သိ။**
**ပုဂ္ဂိုလ်မထိုင်၊ ငါမထိုင်၊ * ရုပ်ထိုင်ဉာဏ်ဖြင့်သိ။**
**ပုဂ္ဂိုလ်မအိပ်၊ ငါမအိပ်၊ * ရုပ်အိပ်ဉာဏ်ဖြင့်သိ။**

ဤကား သတိပဋ္ဌာန် အဋ္ဌကထာ၊ သမ္မောဟ ဝိနောဒနီ ဝိဘင်းအဋ္ဌကထာ တို့အတိုင်း ပညာရှင်တို့ မှတ်တမ်းပြု၍ ထားကြလေသည်။

**ဤတွင် တဖန် စောဒက ပရဝါဒီပုဂ္ဂိုလ်က**

သိတတ်သော သဘောကလေးသည် စိတ်ဝိညာဏ်မဟုတ်၊ ဖန်ဆင်း ရှင်အတ္တဖြစ်ပါသည်။ ဖန်ဆင်းရှင် အတ္တကလေးကသိပါသည်၊ စေ့ဆော်မှု

---

* သွားသော အခြင်းအရာ၊ ရပ်သော အခြင်းအရာ၊ ထိုင်သော အခြင်းအရာ၊ အိပ်သော အခြင်းအရာဖြင့် ရုပ်ဖြစ်၏ဟု ဆိုလိုသည်။

အကျယ်ကို- ( အခိပ္ပာယ်ရှင်းလင်းချက်များကဏ္ဍ )တွင် ကြည့်။

သဘောကလေးသည် စေတနာမဟုတ် ဖန်ဆင်းရှင် အတ္တဖြစ်ပါသည်။ ထိုဖန်ဆင်းရှင် အတ္တကလေးက စေ့ဆော်ပေးပါသည်။ နှလုံးသွင်းမှု သဘောကလေးသည် မနသိကာရမဟုတ် ဖန်ဆင်းရှင် အတ္တဖြစ်ပါသည်။ ထိုဖန်ဆင်းရှင် အတ္တကလေးက နှလုံးသွင်းပါသည်။ (ပ) ဆန္ဒမဟုတ် ဖန်ဆင်းရှင်အတ္တက ယူတတ်ပါသည်၊ (ပ) ဝိတက်မဟုတ် ဖန်ဆင်းရှင် အတ္တက ရွေးရှုတင်တတ်ပါသည်။ (ပ) ဝိစာရမဟုတ် ဖန်ဆင်းရှင်အတ္တက သုံးသပ်ပါသည်။ ဝီရိယမဟုတ် ဖန်ဆင်းရှင်အတ္တက ထောက်ပံ့ပါသည်။ ဇီဝိတမဟုတ် အတ္တက စောင့်ရှောက်ပါသည်။ ဖဿမဟုတ် အတ္တက တွေ့ထိပါသည်။ ဝေဒနာမဟုတ် အတ္တက ခံစားပါသည်၊ သညာမဟုတ် အတ္တက အမှတ်ပြု၍ သိပါသည်။ သိခြင်း သဘောကလေးသည် စိတ်ဝိညာဏ်မဟုတ် ဖန်တီးရှင် အတ္တဖြစ်ပါသည်၊ ဖန်ဆင်းရှင် အတ္တကလေးက သိပါသည်ဟု အဘိဓမ္မာကျမ်းလာ စိတ်,စေတသိက် ပရမတ္ထတရားတို့ကို ပယ်လှန်၍ အတ္တချည်းသာ ပြောနေခဲ့ပါသော်

သင်၏ဖန်ဆင်းရှင် အတ္တကလေးသည် "အားလုံးရှိရှိသမျှကိစ္စကို ပြီးစေနိုင်သည်၊ သိမှုကိုပြုတတ်သည်၊ ခံစားမှုကိုလည်း သူပင်ပြုသည်၊ နှလုံးသွင်းမှု စသည်ကိုလည်းသူပင်ပြုသည်" ဟု သင်ပရဝါဒီ ပုဂ္ဂိုလ်ဆို၏၊ အကယ်၍ သင်ဆိုသည့်အတိုင်း သင်၏ ဖန်ဆင်းရှင် အတ္တကလေးသည် အလုံးစုံသော ကိစ္စကို ပြီးစေနိုင်ခဲ့သော် သင်၏ဖန်ဆင်းရှင် အတ္တသည်-

**တခါတရံကျတော့ မင်း**

**တခါတရံကျတော့ ကျွန်**

**တခါတရံကျတော့ ချမ်းသာရ**

**တခါတရံကျတော့ ဆင်းရဲရ၊ အရိုက်,အပုတ်,အနှောင်အဖွဲ့ခံရ**

**တခါတရံကျတော့ ရောဂါရှိရ**

**တခါတရံကျတော့ အနာကင်းရ ကျန်းမာရ**

**တခါတရံကျတော့ ဥစ္စာရှိရ**

**တခါတရံကျတော့ မွဲတေရ**

ဤသို့ စသည်ဖြင့် အဘယ့်ကြောင့် ဖောက်ဖောက်ပြန်ပြန် ဖြစ်ရသနည်း၊ ဖန်ဆင်းရှင် အတ္တသည် တမျိုးတည်းဖြစ်ပါက အလုံးစုံ တမျိုး

တည်းသာ ဖြစ်ပါတော့လော၊ ယခုမှု တမျိုးတည်းမဖြစ်ပဲနှင့် အကွဲကွဲ အခြားခြား ဖြစ်သောကြောင့် သင်၏ ဖန်ဆင်းရှင် အတ္တဟူသည် သင်၏ ထင်မြင်ယူမှားချက်မျှသာ ဖြစ်၏။ စင်စစ် တရားသားမရှိဟု ပယ်လှန်ရာ၏။

ထို့ကြောင့် ပြဆိုခဲ့ပြီးသည့် စိတ်ဝိညာဏ် စေတနာစသော တရား အစုတို့ ညီညွတ်ပေါင်းဆုံသည့်အခါ၌ စိတ်အလိုအတိုင်း သွားမှု, ရပ်မှု စသော ကာယဝိညတ် အမူအရာဖြစ်ပေါ်လာသည်။ ပြောမှု,ဆိုမှုစသော ဝစီဝိညတ် အမူအရာဖြစ်ပေါ်လာသည်၊ ထိုစိတ် ဝိညာဏ်စသော တရား အပေါင်းသည်လည်း မမြဲသော အနိစ္စ,မခိုင်သော အဓုဝ တရားမျိုးတို့သာ ဖြစ်ကုန်၏။ အကြောင်းတို့ ပေါင်းဆုံ ညီညွတ်ခိုက်ဖြစ်ပေါ်၍အကြောင်း တရားတို့ ပျောက်ကွယ်သော် ထိုစိတ် ဝိညာဏ်, စေတနာစသော တရား တို့သည်လည်း ပျောက်ကွယ် ချုပ်ငြိမ်းကြကုန်၏။ ဆီ, မီးစာ,မီးခွက်တို့ ရှိခိုက် မီးတောက် မီးလျှံဖြစ်ပေါ်၍ ထိုသုံးမျိုးတွင် တခုခုချို့တဲ့က မီး တောက်မီးလျှံ ပျောက်ကွယ် ချုပ်ငြိမ်းရသကဲ့သို့တည်းဟု သန္နိဋ္ဌာန်ကျ ဆုံးဆုံးဖြတ်ဖြတ် မှတ်ယူကုန်ရာ၏။

သို့သော်လည်း လှည်းအိမ်,လှည်းသံ, ဝင်ရိုးစသည်တို့၏ အပေါင်းကို လှည်းဟူ၍ ခေါ်ဆိုပြောကြား သမုတ်တင်စားသကဲ့သို့ ဝိညာဏ်, နာမ် ရုပ် စသည် အပေါင်းကို "အတ္တ ကိုယ်ကောင်"ဟု ရှေးသူဟောင်းတို့ ခေါ် ဝေါ်လွယ်စေရန် သမုတ်ပညတ်ကြသည်။ ပရမတ္ထအားဖြင့်မူ ခဲတတ်, စားတတ်, သွားတတ်, စကားပြောဆိုတတ်သော တစုံတရာ အတ္တမည် သည်မရှိ။ ရှေးဖော်ပြရာပါ နာမ်တရား,ရုပ်တရား အစုမျှသာဖြစ်၏။

ထိုနာမ်,ရုပ်တရား နှစ်ပါးတို့တွင် ရုပ်ကား အလေး, အနှေး,အနုံ့ သမား၊ တစုံတခုကို မသိတတ်၊ အားမထုတ်တတ်၊ မပြီးစေတတ်၊ သစ် သားရုပ်ကြီးနှင့်တူ၏၊ ဝိတ်ဝိညာဏ်စသည်တို့က ဝိုင်းဝန်း ခြံရံ ကူပံ့ပေး အပ်သော ရူပကာယ အတွင်းရှိ စေတနာ နာမ်တရား ကလေးကသာ ကြိုးကိုဆွဲ၍ကပြသော ရုပ်သေးသမား(အရုပ်ဆွဲဆရာ)ကဲ့သို့ ရုပ်အပေါင်း ကို မောင်းနှင်၏။ ရပ်အောင်, သွားအောင် တည်အောင်, စသည် ပြု လုပ်၏။

ဤအရာ၌

**အာရုံခြောက်ဖြာ၊ ထမ်းပိုးသာ၊ ကြိုးမှာကေဂ္ဂ။**
**စေတနာမူ၊ မောင်းနှင်သူ၊ လှည်းမူရုပ်ရူပ။**
**ဝိ,စေ, မန၊ ဆန္ဒ, တက္ကာ၊ ဝိစာ, ဝီရိ၊ ဇီဝိ,ဖဿာ၊**
**ဝေ,သညာ၊ ဆယ်ဖြာနွားမှတ်ကြ။**

ဟူသော မှတ်တမ်း ဥပမာကိုလည်း ဆောင်၍ အထူး နှလုံးသွင်းရာ၏။

ဤဥပမာ၌ အဓိပ္ပာယ်ကား ထမ်းပိုး ငါးခု။ နွားဆယ်ကောင်က, ရသော ဝန်တင်လှည်းကြီးရှိရာ၏။ ထိုလှည်းကြီး၌ ပဌမ ထမ်းပိုးနှင့် ထို ထမ်းပိုးဝယ်က,သော နွားတရှဉ်းကိုသာ မောင်းနှင်ပါက လှည်းကြီး သည် ရွေ့မည်မဟုတ်။ ထို့အတူ ဒုတိယ, တတိယ, စတုတ္ထ, ပဉ္စမ, ထမ်း ပိုးနှင့် ထိုထမ်းပိုးဝယ် က,သော နွားတရှဉ်းကိုသာ မောင်းနှင်ပါက လှည်းကြီးသည် ရွေ့မည်မဟုတ်။ စင်စစ်သော်ကား ထမ်းပိုး ငါးခုတို့၌ က,သော နွားဆယ်ကောင်လုံး တညီတညွတ်တည်း မောင်းနှင်မှ လှည်း ကြီးသည် ရွေ့ရှားသကဲ့သို့ စိတ်ဝိညာဏ်စသော တရား ဆယ်ပါးတို့ ပေါင်းဆုံ ဆောင်ရွက်ကြမှသာ ရုပ်=ကိုယ် တည်းဟူသော ဝန်တိုက် လှည်းကြီး၏ ကာယဝိညတ် တရားသာ သွားလာလှုပ်ရှားမှု, ဝစီဝိညတ် တရားသာ ပြောမှု, ဆိုမှု, စသည်တို့ ဖြစ်ပေါ်လေသည်ဟု အထူးနှလုံး သွင်း မှတ်ယူရာ၏။

## နိဂုံး မှာထားချက်

ဤသို့လျှင် ယောက်ျား,မိန်းမ စသည်ကို ပြုလုပ်စီမံတတ်သော လူ, နတ်, ဗြဟ္မာ စသည့် ဖန်ဆင်းရှင် ယောက်ျား,မိန်းမ, အထည်ဒြဗ်ကြီး သွားမှု, လာမှု,စသော အထင်လွဲမှု ပညတ်ချက်အမျိုးမျိုးတို့ ကင်းရှင်းစေ ရန် ကျယ်ဝန်းစွာ ရေးသားဖော်ပြခဲ့သော်လည်း အခြေခံမူလ မ-တည် ခဲ့သော ဓာတ် ခြောက်ပါးတို့ကို ကွင်းကွင်း ကွက်ကွက် ဉာဏ်မျက်စိ ဖြင့် ကြည့်ရှုကုန်ရာ၏၊ ထို ဓာတ်ခြောက်ပါးတို့တွင်လည်း ရုပ်ဓာတ်

ငါးပါးတို့ကို ရှေးဦးစွာ ကြည့်ရှုကုန်ရာ၏။ ရုပ်ဓာတ်ငါးပါးတို့တွင်လည်း အာကာသဓာတ်ကား ဃန-အခဲကြီးများ ပြိုသွားဖို့ရန် သွင်း၍ ကြည့်ရန် ဖြစ်၏၊ တရားသားရရှိသော ပထဝီစသော ဓာတ်လေးပါးတို့ကို နာနာ ကြည့်ရှုကုန်ရာ၏။ **ရေတ်စေ့ ၌ အစပ်သတ္တိကလေး** ကို ဉာဏ်ဖြင့် စိတ်ဖြင့် တွေ့သိနေသကဲ့သို့ ခက်မာမှုသတ္တိ စသည်တို့ကို တွေ့သိနေအောင် ကြည့် ရှု ကုန်ရာ၏။

ထိုဓာတ်လေးပါးတို့တွင်လည်း လက်ဖြင့် စမ်းသပ်၍ စိတ်ဖြင့် သိရသော ခက်မာမှုသတ္တိ ပထဝီဓာတ်၊ ပူမှု, အေးမှုသတ္တိ တေဇောဓာတ် ဤ ဓာတ်နှစ်ပါးတို့သည် အထူးသဖြင့် ထင်မြင် လွယ်ကုန်၏၊ ထင်မြင်လွယ်သော ဓာတ်စုတို့ကိုသာ တကိုယ်လုံး ပရမတ်ဓာတ်သားသတ္တိတွေချည်း ဖြစ်ကုန်အောင်ကြည့်။ မထင်နိုင်သော ဓာတ်တို့ကို နောက်မှ တဖြည်းဖြည်း ကြည့်၍ ကြည့်၍ မှတ်ယူကုန်ရာ၏။ (ဤကား ဓာတ်ကမ္မဋ္ဌာန်း တည် ထောင်ပုံတည်း)။

**ပထမ ဓမ္မနာဒဆရာတော်၏**

**ဓာတ် ခြောက်ပါး သိမ်းဆည်းပုံ ပြီး၏။**

ပု, ဒိ, အာ နှင့် လျင်စွာ ပြည့်စုံရပါလို၏။

# နောက်ဆက်တွဲ

နောက်ဆက်တွဲပါ ဓမ္မကထာများ ထည့်သွင်း ရိုက်နှိပ်ရန် အတွက် ပေးစာ

ယခုနောက်ဆက်တွဲပြုစုနိုင်ရန်အတွက်ပေးပို့လိုက်သော ပါဠိ၊ ဂါထာ၊ လင်္ကာများနှင့် ပတ်သက်၍ ဦးပဥ္ဇင်းကြားဘူးသည်မှာ ပထမ ဓမ္မနာဒ ဆရာတော်ဘုရားကြီး အသည်းအသန် မကျန်းမမာ ရောဂါဖြစ်နေချိန်၌ ယခုလက်ရှိ ဦးပဥ္ဇင်းတို့၏ တံပိဋကမရဆရာတော်က ဆရာတော်ဘုရားကြီးမှာ တရားနှလုံးသွင်းလျက် ရှိမရှိ သိရှိရန်နှင့် အကယ်၍ နှလုံးမသွင်းနိုင်ခဲ့သော် စာရားသတိ ရရှိတော်မူပါစိမ့်သောငှာ စုံစမ်းသောအနေဖြင့် လျှောက်ထားရာ၊ ဆရာတော်ကြီးက ဝဇီရာထေရီ ဘိက္ခုနီမလေးက မာရ်နတ်အား ဟောကြားအပ်သော(ဒုက္ခမေဝဟိ သမ္ဘောတိ-စသော)တရားဂါထာကို ဟောပြောတော်မူကာ ဆက်လက်၍ ဆရာတော်ဘုရားကြီးနှလုံးသွင်းရင်းရှိသော တရားဂါထာကိုပါ ရွတ်ဆိုပြတော်မူသည်ဟု ဆရာတော်ထံမှ ကြားနာ မှတ်သားဘူးပါသည်။

ထိုပထမ ဓမ္မနာဒဆရာတော်ဘုရားကြီးက မိမိ နှလုံးသွင်းရင်း ရှိသည့်အတိုင်း ရွတ်ဆိုဟောကြားခဲ့သော တရားဂါထာကို ၊ပါဠိစာပေ မကျွမ်းကျင်သူများပါ သိရှိ ပွားများနိုင်ကြရန် ဦးပဥ္ဇင်းတို့၏ ဆရာတော်က တရားတော်၏ အလိုက်လင်္ကာများနှင့်**တ**ကွ ဝိပဿနာလက္ခဏာယာဉ် တင်နိုင်ရန် ဖော်ပြရာပါ ဒုတိယတရားဂါထာနှင့် လင်္ကာတပုဒ်ကိုပင် ရေးသားတော်မူသည်ဟု ဆရာတော်၏ အမိန့်ရှိသည်ကို ကြားရဘူးပါသည်။

သို့ဖြစ်ပါ၍ ယခုပေးပို့လိုက်သော တရားဂါထာများသည် ပထမ ဓမ္မနာဒ ဆရာတော်ဘုရားကြီး၏ နောက်ဆုံး ဟောကြားခဲ့သော "ပစ္ဆိမ

ဓမ္မကထာ" များပင် ဖြစ်ပါသဖြင့် ယခု ရိုက်နှိပ်မည့် စာအုပ်၌ ထည့်သွင်း ရိုက်နှိပ်သင့်သည်ဟု ယူဆမိပါသည်။

ထို့ကြောင့် ယခုပေးပို့လိုက်သောတရား ဂါထာလင်္ကာများ၌ ပါရှိသည့် မင်းကွန်း ပထမ ဓမ္မနာဒ ဆရာတော်ဘုရားကြီး၏ 'နောက်ဆုံးဟောကြားမိန့်မှာတော်မူပုံ' ဖြစ်ရပ်မှန်ကို ဦးပဉ္ဇင်းတို့၏ တိပိဋကဓရဆရာတော်ဘုရားအား ချီးမြှင့်ပေးပါရန် လျှောက်ထားပြီးမှ ဆရာတော်ဘုရား မိန့်ကြားအပ်သော ဖြစ်ရပ်မှန် (နိဒါန်း) ကိုပါ ထည့်သွင်းရိုက်နှိပ်မှု ပြုလျှင် ပို၍ ကောင်းမည်ဟု ထင်မြင်မိပါသည်။

(ပုံ) ဦးဝေပုလ္လာစာရ
ဓမ္မနာဒတိုက် – မင်းကွန်း

ဤနောက်ဆက်တွဲပါ အကြောင်းအရာတို့ကို ထည့်သွင်း ရိုက်နှိပ်ရာတွင် ဖော်ပြပါ အရှင်ဝေပုလ္လာစာရ၏ စာအရ အကျိုးများဖွယ်ရာ ဓမ္မအနှစ်သာရများသာဖြစ်ပါသဖြင့် ဆရာတော်ဘုရား ရန်ကုန်သို့ကြွရောက်တော်မူစဉ် ဤပေးပို့ အမိန့်ရှိ စာနှင့်တကွ နောက်ဆက်တွဲပါ တရားဓမ္မအားလုံးတို့ကို လျှောက်ထား ပြသရာ ဆရာတော်ဘုရားကြီး၏ 'ပစ္ဆိမဓမ္မကထာ' များကို ထည့်သွင်းလျှင် ကောင်းကြောင်းနှင့် ဆရာတော်ကိုယ်တိုင် စစ်ဆေး တည်းဖြတ်မည့်အကြောင်း အမိန့်ရှိပါသဖြင့် စာမူများကို ဆရာတော်ထံသို့ ပို့အပ် ဆက်ကပ်ပြီးလျှင် အပြည့်စုံဆုံး ဖြစ်အောင် ကြိုးစားစီစဉ် ရိုက်နှိပ်မှု ပြုလိုက်ရပါသည်။

(ပုံ) သန်းအောင် [ဓမ္မအကျိုးဆောင်]
၅၁–၂၀၅ ကျိုက်ဝိုင်းဘုရားလမ်း
သမိုင်း၊ ရန်ကုန်မြို့။

မင်းကွန်း ပဌမ

**ဓမ္မနာဒ ဆရာတော်ဘုရား**

နောက်ဆုံးဟောကြား အမိန့်ရှိခဲ့သည့်

**ရုပ်နာမ်ရှုနည်း တရားတော်**

**နမော တဿ ဘဂဝတော အရဟတော**
**သမ္မာသမ္ဗုဒ္ဓဿ**

ဝဇီရာထေရီ ရွတ်ဆိုအပ်သော ဂါထာ

**ဒုက္ခမေဝ ဟိ သမ္ဘောတိ**
**ဒုက္ခံ တိဋ္ဌတိ ဝေ တိစ။**
**နာညတြ ဒုက္ခာ သမ္ဘောတိ**
**နာညံ ဒုက္ခာ နိရုဇ္ဈတိ။**

ဣမသ္မိံ ကာယေ=ဤကိုယ်ကာယ တလံမျှ၌။ ဒုက္ခ မေဝ ဟိ=ရုပ်နာမ်နှစ်ပါး ဒုက္ခတရားသည် သာလျှင်။ သမ္ဘောတိ=ဥပါဒ်ထင်ရှား ဖြစ်ပွား၍နေ၏၊ ဒုက္ခ =ရုပ်နာမ်နှစ်ပါး ဒုက္ခတရားသည်။ တိဋ္ဌတိ စ=ဌီခဏ အနေဖြင့် တည်လည်း တည်ပေ၏။ ဝေတိ စ=ဘင်ခဏသို့ ရောက်၍ ချုပ်လည်း ချုပ်ပျောက်၏။ ဒုက္ခာ=ရုပ်နာမ်နှစ်ပါး ဒုက္ခတရားကို အညတြ ဌပေတွာ=ချန်လှပ်ဖယ်ရှား အလွတ်ထား၍ (အညံ=တပါးသော အတ္တ လိပ်ပြာ သတ္တဝါသည်) နသမ္ဘောတိ=ဖြစ်သည်လည်း မဟုတ်။ ဒုက္ခာ=ရုပ်နာမ်နှစ်ပါး ဒုက္ခတရားမှ။ အညံ=တပါးသော အတ္တလိပ်ပြာ သတ္တဝါ ဆိုတဲ့သဘောသည်။ န နိရုဇ္ဈတိ=ချုပ်သည်လည်း မဟုတ်။ (ထိုသဘော သည် ရှိလည်း မရှိ)။

ထိုဂါထာနှင့် သဘောတူ မင်းကွန်း ပဌမ ဓမ္မနာဒဆရာတော်ဘုရား နောက်ဆုံး ဟောအပ်သည့် တရားဂါထာ

**နာမရူပံဝ သမ္ဘောတိ**
**တံဝ တိဌတိ စေတိ စ။**
**နာညတြ တမှာ သမ္ဘောတိ**
**နာညံ တမှာ နိရုဇ္ဈတိ။**

ဣမသ္မိံ ကာယေ = ဤကိုယ်ကာယ တလံမျှ၌၊ နာမရူပံဝ=နာမ်ရုပ် တရား ဤနှစ်ပါးသည် သာလျှင်။ သမ္ဘောတိ=ဥပါဒ်ထင်ရှား ဖြစ်ပွား နေ၏။ တံဝ=နာမ်ရုပ်တရား ထိုနှစ်ပါးသည်သာလျှင်။ တိဌတိ စ=ဌီခဏ အနေဖြင့် တည်လည်း တည်ပေ၏။ ဝေတိစ=ဘင်ခဏသို့ ရောက်၍ချုပ် လည်းချုပ်ပျောက်၏။ တမှာ=နာမ်ရုပ်တရားထိုနှစ်ပါးကို။ အညတြ ဌပေ တွာ=ချန်လှပ်ဖယ်ရှား အလွတ်ထား၍(အညံ=တပါးသော အတ္တလိပ်ပြာ သတ္တဝါသည်) န သမ္ဘောတိ= ဖြစ်သည်လည်းမဟုတ်။ တမှာ=နာမ်ရုပ် တရား ထိုနှစ်ပါးမှ။ အညံ=တပါးသော အတ္တလိပ်ပြာ သတ္တဝါဆိုတဲ့ သဘောသည်၊ န နိရုဇ္ဈတိ=ချုပ်သည်လည်း မဟုတ်။ (ထိုသဘောသည် ရှိလည်းမရှိ)။

## ထိုဂါထာ၏ဆိုင်ရာ တရားလင်္ကာ

ဤကိုယ်ကာယ၊ တလံမျှ၌၊ နှစ်ဝနာမ်ရုပ်၊ ဖြစ်၍ချုပ်၏။ နာမ်ရုပ် နှစ်ပါး၊ အလွတ်ထား၍၊ ဤကားလိပ်ပြာ၊ ဤကားငါတည့်၊ ဤမှာဇီဝ၊ ဤအတ္တဟု၊ ညွှန်ပြဖွယ်ရာ၊ မရှိပါသည်၊ ခန္ဓာနာမ်ရုပ် မျှသာတည်း။

## ထိုဂါထာ၏အဆက်
## တိပိဋကဓရ ဆရာတော် ရေးသားအပ်သော
## တရားဂါထာ

**တဥ္စ ဟုတွာ အဘာဝေန**
**ဥဒယဗ္ဗယပီဠနာ။**
**အဝသဝတ္တနာ+နိစ္စံ**
**ဒုက္ခာ+နတ္တာဝ ကေဝလံ။**

တဥ္စ=နာမ်ရုပ်တရား ထိုနှစ်ပါးသည်လည်း။ ဟုတွာ အဘာဝေန=ဖြစ်ပြီးသည့်နောက် တခဏချင်း ချုပ်ပျောက်တတ်သောကြောင့်။ ကေဝလံ အနိစ္စံဝ=သက်သက်ကေန် အနိစ္စမှန်စွာတကား။ ဥဒဗ္ဗယပီဠနာ=ဖြစ်ခြင်းပျက်ခြင်း ဤနှစ်သင်းဖြင့် အတင်းအကျပ် နှိပ်စက်အပ်သောကြောင့်။ ကေဝလံ ဒုက္ခံဝ=သက်သက်ကေန် ဒုက္ခမှန်စွာတကား။ အဝသဝတ္တနာ=အလိုအကြိုက်သို့ မလိုက်ပါခြင်းကြောင့်။ကေဝလံ အနတ္တာဝ=သက်သက်ကေန် အနတ္တမှန်စွာတကား။

## ထိုဂါထာ၏ဆိုင်ရာ တရားလင်္ကာ

**ရုပ်နာမ်တရား၊ ဤနှစ်ပါးလည်း၊ ရှည်လျားကာလ၊ မတည်ကြပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၍၊ နှိပ်စက်ခြင်းရာ၊ လိုမပါဘူး။ သဘာဝအား၊ ဤသုံးပါးကြောင့်၊ ဖြစ်မှားသမျှ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တချည်းပါတကား။**

ဤတရားဂါထာ ဖြစ်ပေါ်လာပုံ အကြောင်းစုံကို သာသနာတော် ၂၅၁၄-ခုနှစ်၊ ကောဇာသက္ကရာဇ် ၁၃၃၂-ခု၊ ဝါဆိုလပြည့်ကျော် ၈ ရက်နေ့ မင်းကွန်း တိပိဋကရေဆရာတော် အရှင်ဦးဝိစိတ္တသာရာဘိဝံသ မန္တလေးမြို့ (ဟေမမာလာ-မျက်ပါး ရပ်ကွက်)ဥပုသ်တရားပွဲတွင် ဟောကြားအပ်သော တိပ်ခွေတရားမှ ထုတ်နုတ်ပြီး ဆရာတော်ကိုယ်တိုင် ထပ်မံစိစစ်လျက် ဖော်ပြအပ်ပါသည်။

## ဤတရားဂါထာများနှင့် ဓမ္မလင်္ကာများ ဖြစ်ပေါ်လာရပုံ အကြောင်း

ဒီတရားဂါထာ လင်္ကာများ ဖြစ်ပေါ်လာပုံကို အကျဉ်းချုပ် ပြောကြပါစို့။

**ဓမ္မနာဒ**တိုက်ကို အစဆုံးတည်ထောင်သွားတဲ့ (ဘုန်းကြီး၏ ဥပဇ္ဈာယ်ဆရာ) ပထမ ဓမ္မနာဒဆရာတော်ဟာ "၁၂၈၉-ခုနှစ် တော်သလင်း

လပြည့်ကျော် ၉ ရက်နေ့မှာ ပျံလွန်တော်မူပါတယ်” ဆရာတော် ‘ပျံလွန်တော်မမူခင် ၄-၅-ရက် အလိုမှာ ဗိဝိတိနေ့ ကြွေတော့မည့် အရိပ်နိမိတ်ကို တွေ့မြင်ရသဖြင့် မိမိ၏ ဥပဇ္ဈာယ်ဆရာဖြစ်လေတော့ “ဆရာတော်မှာ မေ့မေ့လျော့လျော့များ ဖြစ်နေမည်လား” လို့ စုံစမ်းသောအနေဖြင့် လျှောက်ထား၍ ဆရာတော်က ပြန်လည်အမိန့်ရှိတော်မူပုံတို့မှာ

(တပည့်) ဆရာတော်ဘုရား အသည်းသတ်တုံ့သို့ ရောက်ကြတဲ့ ဖြဟ္မာတွေမှာ နာမ်တရားကို ရှုံ့ရှာမုန်းတီးမှုဟာ လမ်းမှန်တယ် မဟုတ်လားဘုရား။

(ဆရာ) မှန်တယ်ကွ။

(တပည့်) အာရုပ္ပဗြဟ္မာဘုံသို့ သွားကြတဲ့ ဗြဟ္မာတွေမှာ ရုပ်တရားကို ရှုံ့ရှာမုန်းတီး စက်ဆုပ်မှုဟာကော လမ်းမှန်တယ် မဟုတ်လားဘုရား။

(ဆရာ) အိမ်း မှန်တယ်ကွ။

(တပည့်) ဒါဖြင့်လျှင်ဘုရား အဲဒီ အမှန်နှစ်ခုကိုစုပြီးတော့ “မိ နာမရူပံ+မိ နာမရူပံ။ နာမရူပံ=နာမ်ရုပ်တရား နှစ်ပါးသည်။မိ=စက်ဆုပ် ရှုံ့ရှာဖွယ် ကြောက်လန့်ဖွယ်တွေ ပါတကား။ နာမရူပံ=နာမ်ရုပ်တရား နှစ်ပါးသည်၊မိ=စက်ဆုပ် ရှုံ့ရှာဖွယ် ကြောက်လန့်ဖွယ် တွေပါတကား” အဲဒီလို နှလုံးသွင်းလျှင် ပြည့်စုံနိုင်တယ် မဟုတ်လားဘုရား၊ ဘာလိုသေးတယ်လို့ ပြောစရာမရှိဘူး မဟုတ်လားဘုရားလို့ လျှောက်ထားတော့-

(ဆရာတော်က) အိမ်း ဟုတ်ပါတယ်၊ ဒါပေမဲ့ကွာ တို…ဒို့သံယုတ် ပါဠိတော်မှာလာတဲ့ “မာရ်နတ်က အသက်ခုနစ်နှစ်အရွယ်မျှ ရှိသေးတဲ့ ဝဇိရာထေရီရဟန္တာမလေးထံလာပြီးတော့ မဟုတ်မဟပ် ပြောဘူးတယ်၊ အဲဒီလိုပြောတုန်းက ဝဇိရာထေရီ ဘိက္ခုနီမလေးက ပြန်ရွတ်တဲ့ ဂါထာ သံယုတ်ပါဠိတော်မှာ ပါတယ်” အဲဒီဂါထာဟာ

**ဒုက္ခ မေဝ ဟိ သမ္ဘောတိ**
**ဒုက္ခံ တိဋ္ဌတိ ဝေတိ စ။**
**နာညတြ ဒုက္ခာ သမ္ဘောတိ၊**
**နာညံ ဒုက္ခာ နိရုဇ္ဈတိ။**

လို့ ရှိတယ်မဟုတ်လားကွာ၊

(တပည့်) ရှိပါတယ်ဘုရား။

(ဆရာ) အေး....ဒီတော့ ရုပ်,နာမ်တရားကို ချုပ်ကြည့် လိုက်လျှင် ဒုက္ခပဲ၊ ဒုက္ခဆိုတာဟာ ရုပ်နာမ်တရားပဲ။ ဒီတော့ သူက အလွန်ဉာဏ်ထက်တဲ့ ပုဂ္ဂိုလ်ဆိုတော့ ဒုက္ခလို့ ဆိုလိုက်လျှင် ရုပ်နာမ်တွေ ဖေ့ကုန်မြင်ကုန်တယ်ကွ၊ ဒီတော့ ဒို့အနေနဲ့ ဆိုလျှင် အဲဒီ ဒုက္ခဆိုတဲ့နေရာမှာ ဒုက္ခရဲ့အရ တရားကိုယ်ဖြစ်တဲ့ နာမ်ရုပ်နဲ့ သွားလျှင် ပိုမကောင်းဘူးလားကွ

**နာမရူပံ စ သမ္ဘောတိ၊**
**တံ စ တိဋ္ဌတိ ဝေတိ စ။**
**နာညတြ တမှာ သမ္ဘောတိ၊**
**နာညံ တမှာ နိရုဇ္ဈတိ။**

အဲဒီလို နှလုံးသွင်းကွ သိပ်ကောင်းဒါပဲ၊ ။(ဆရာတော်ဘုရားကား ဤမျှ အမိန့်ရှိခဲ့ပါသည်။ ဤမျှအမိန့်ရှိလျှင်ပင် မိမိအနေဖြင့် "ငါ့ဆရာ သတိမမေ့ဘူး"ဟု အကဲခတ်၍ ရရှိပြီး စိတ်ထဲက အားရကျေနပ် ထပ်၍ မလျှောက်တော့ပါ)။

ဒီဂါထာကို အနက်ပေးကြည့်ရအောင်-

ဣမသ္မိံ ကာယေ=ဤကိုယ်ကာယ တလံမျှ၌။ နာမရူပံ စ=နာမ်ရုပ် တရား ဤနှစ်ပါးသည်သာလျှင်၊ **သ**မ္ဘောတိ=ဉပါဒ်ဘင်ရှား ဖြစ်ပွား၍ နေ၏။ **တံ စ**=နာမ်ရုပ်တရား ထိုနှစ်ပါးသည်သာလျှင်။ တိဋ္ဌတိ စ=ဌီခဏ အနေဖြင့် တည်လည်းတည်ပေ၏။ ဝေတိ စ=ဘင်ခဏသို့ရောက်၍ ချုပ်လည်း ချုပ်ပျောက်၏။ ။(ဒီတလံမျှလောက်သော ခန္ဓာကိုယ်မှာ နာမ်တရား,ရုပ်တရား နှစ်ပါး သည်သာလျှင် ဖြစ်ကြ + တည်ကြ + ချုပ်ပျောက်ကြတယ်)။

တမှာ=နာမ်ရုပ်တရား ထိုနှစ်ပါးကို။ အညတြ-ဌပေတွာ= ချန်လှပ်ဖယ်ရှားအလွတ်ထား၍။ (အညံ=တပါးသော အတ္တလိပ်ပြာ သတ္တဝါ သည်။ ဝါ-ငါ, သူတပါး, ယောကျ်ား, မိန်းမဆိုတဲ့ ပညတ်သဘောတွေ

သည်) န သမ္ဘောတိ=ဖြစ်သည် မဟုတ်။ ဓာမှာ=နာမ်ရုပ်တရား ထိုနှစ်ပါးမှ။ အညံ=ဓာပါးသော အတ္တလိပ်ပြာ သတ္တဝါဆိုတဲ့ သဘောသည်။ န နိဗ္ဗတ္တိ=ချုပ်သည်မဟုတ်။ ။(ဒီ နာမ် ရုပ်နှစ်ပါး အလွတ်ထားပြီးတော့ ပုဂ္ဂိုလ်, သတ္တဝါ, ငါ, သူတပါး, ယောကျ်ား, မိန်းမ ဆိုတဲ့သဘောတွေဟာ ရှိကို-မရှိဘူး၊ မရှိတဲ့တရားတွေကို ဖြစ်တယ်ဆိုလို့လဲ မရဘူး၊ အမှန်ရှိတာက ရုပ်နာမ် နှစ်ပါးပဲရှိတယ်၊ အဲဒီ ရှိတဲ့ ရုပ်နာမ် တွေသာ ဖြစ်ကြ+ချုပ်ကြတယ်၊ ဤကဲ့သို့ ကြည့်ရပါမယ်)။

နာမရူပံ၀ သမ္ဘောတိ၊ တံ၀ တိဋ္ဌတိ ဝေတိ စ-အစရှိတဲ့ ဒီဂါထာကိုကြားရလျှင် ပါဠိစာပေ နားလည်တဲ့ ဆရာတော်များ ပါဠိ ပညာရှင်များကျတော့ "ဟာ-ဒီဂါထာလေး သိပ်ကောင်းတာပဲ" လို့ မှတ်ချက် ချတော်မူကြပါမယ်၊အဓိပ္ပာယ် အလေးအနက်ကိုလဲ သိကြပါတယ်။ မြို့ထဲ,ရပ်ထဲ,ရွာထဲက ဒကာ, ဒကာမတွေကျတော့ ဘယ့်နှယ်လုပ် သိဖြစ်မလဲ၊ မသိနိုင်ကြဘူးပေါ့၊ သူတို့သိအောင်ဟာ ဘုန်းကြီးတို့ အသိဉာဏ်ပေးရမဲ့တာဝန် ဝတ္တရားရှိတယ်။ ရှိလို့ပေးရမယ် ဆိုပြန်တော့လဲပဲ ဒီ-သမထ+ဝိပဿနာ ဘာဝနာအလုပ်ဆိုတာ အလုပ်ကိုယ်နှိုက်က အင်မတန် ခြောက်ခြောက် သွေ့သွေ့ရှိတယ်၊ လုပ်ရင်းလုပ်ရင်းငိုက်သွားချင်တတ်တယ်။

ဒီတော့ စိတ်ကလေး နဲနဲ ရွှင်ရွှင် လန်းလန်းနဲ့ အားထုတ် ဖြစ်အောင်လို့ ဆိုပြီးတော့ ရှေးဆရာတော်ကြီးများ သံဝေဂလင်္ကာ ရေးသကဲ့သို့ အဲဒီ ဂါထာ၏ ဆိုင်ရာ တရားလင်္ကာအနေနဲ့ ဤဆိုလတ္တံ့သောအတိုင်း ရေးသားထားပါတယ်။

ဤကိုယ်ကာယ၊ တလံမျှ၌။ နှစ်ဝနာမ်ရုပ်၊ ဖြစ်၍ ချုပ်၏။ ။ (နာမရူပံ၀ သမ္ဘောတိ၊ တံ၀ တိဋ္ဌတိ ဝေတိ စ-ဒီဂါထာ ရှေ့ထက်ဝက်ကို ချုပ်တဲ့လင်္ကာဖြစ်ပါတယ်)။ ။နာမ်ရုပ်နှစ်ပါး၊ အလွတ်ထား၍၊ ဤကားလိပ်ပြာ၊ ဤကားငါတည့်။ ဤမှာဇီဝ၊ ဤအတ္တ-ဟု၊ ညွှန်ပြဖွယ်ရာ၊ မရှိပါသည်၊ ခန္ဓာနာမ်ရုပ် မျှသာတည်း။ (နာညတြ တမှာ သမ္ဘောတိ၊ နာညံ တမှာ နိဗ္ဗတ္တိ ဆိုတဲ့ ဂါထာ နောက်ထက်ဝက်ဆိုင်ရာ လင်္ကာဖြစ်ပါတယ်)။

ကိုယ့်အိမ်ကျတော့ တိတ်တိတ် ဆိတ်ဆိတ် စိတ်အေး လက်အေးနှင့် ဖြေးဖြေး စဉ်းစားပြီးတော့ နှလုံးသွင်းကြည့်ပါ။ အဲဒီလို နှလုံးသွင်း ကြည့်လျှင် "အေး....ဟုတ်သားပဲ တလံမျှလောက်သော ငါရဲ့ ကိုယ်မှာ နာမ်တရား ရုပ်တရား နှစ်ပါးပဲရှိတယ်တဲ့၊ ဒီနာမ်ရုပ်နှစ်ပါးကို အလွတ်ထား၍ 'ဒီဟာကတော့-လိပ်ပြာ, ဒီဟာကတော့-ငါ, ဒီဟာကတော့-ဇီဝ ဒီဟာကတော့-အတ္တရယ်လို့ အခိုင်အမာ အနှစ်သာရ ဘာမျှ မရှိဘူး၊ တကယ်ရှိတာက ရုပ်တရား နာမ်တရား နှစ်ပါးပဲ ရှိတယ်' လို့ ကျေကျေ နပ်နပ် သိလာလိမ့်မယ်။

"ဤကိုယ်ကာယ၊ တလံမျှ၌၊ (ပ) ခန္ဓာနာမ်ရုပ်မျှသာတည်း" အဲဒီလို ထပ်တလဲလဲ လေးလေး ဆေးဆေး တွေးတွေး မြော်မြော် နှလုံးသွင်းနေရင် မိမိတို့ထင်နေတဲ့ ပုဂ္ဂိုလ်, သတ္တဝါ, ငါ, သူတပါး, ယောက်ျား, မိန်းမ-ဆိုတဲ့ ပညတ်သဘောတွေနဲ့ တကယ်ရှိနေသော ရုပ်နာမ်နှစ်ပါးတို့ကို ကွဲကွဲပြားပြား သိသွားမယ်၊ အဲဒီလိုသိတဲ့ဉာဏ်ကို "နာမရူပဝဝတ္ထာန ဉာဏ်=နာမ်တရား ရုပ်တရားဆိုတဲ့ ပရမတ္ထဘက်နဲ့ ဟို....ပညတ်ဘက်က ပုဂ္ဂိုလ်, သတ္တဝါ, ငါ, သူတပါး, ယောက်ျား, မိန်းမ-စတဲ့ သဘောတွေကို ခွဲခွဲခြမ်းခြမ်း ပိုင်းပိုင်းခြားခြား သိသောဉာဏ်" လို့ ခေါ်ပါတယ်။ အဲဒီလက်ာကို မကြာမကြာ ရွတ်ဆို နှလုံးသွင်းခြင်းဖြင့် နာမရူပ ဝဝတ္ထာန ဉာဏ်ကို ရင့်သန်စေနိုင်ပါတယ်၊ဖြစ်ပွားစေနိုင်ပါတယ် ၊ရစေနိုင်ပါတယ်။

ဒီ....နာမရူပ ဝဝတ္ထာနဉာဏ်ကို ရရုံနဲ့ ဝိပဿနာသို့ ရောက်ပြီလား ဆိုတော့ မရောက်သေးပါဘူး၊ (ဆရာတော်နဲ့ ပြောကြား မေးမြန်း ဘုန်းကတော့လဲ ဒါနဲ့ပဲ ပြီးလိုက်ပါတယ်)။ နောက်ကျတော့ "သြ....ဒီဂါထာနှင့် လင်္ကာက ဒိဋ္ဌိဝိသုဒ္ဓိနဲ့ ကင်္ခါဝိတရဏဝိသုဒ္ဓိ နယ်တို့မှာ ပါရှိတဲ့ ၁-နာမရူပပရိဂ္ဂဟဉာဏ် (တနည်း) နာမရူပ ပရိစ္ဆေဒဉာဏ်၊ ၂-ပစ္စယ ပရိဂ္ဂဟဉာဏ်၊ ၃-နာမရူပ ဝဝတ္ထာနဉာဏ်-ဆိုတဲ့ ဉာဏ်သုံးပါးထဲမှာ တပါးအပါအဝင်ပဲ ရှိသေးတယ်၊ ဝိပဿနာဉာဏ် ဆယ်ပါးထဲမှာ ဘာဉာဏ်မှ မဟုတ်သေးဘူး၊ ဒီတော့ ဝိပဿနာရောက်အောင် နှလုံးသွင်းဖို့ ဆက်ကြဦးမှပဲ" လို့ နောက်ကျတော့ လွယ်လွယ်နဲ့ပဲ ဤဆိုလတ္တံ့သော ဂါထာနှင့် လင်္ကာတို့ ပေါ်လာဘာယ်။

**တဉ္စ ဟုတွာ အဘာဝေန**
**ဉဒယဗ္ဗယပီဠနာ။**
**အဝသဝတ္တနာ+နိစ္စံ**
**ဒုက္ခာ+နတ္တာဝ ကေဝလံ။**

(ဤ ဂါထာအနက် ရှေးကရေးခဲ့ပေးခဲ့ပြီ)။ ဤဂါထာအတိုင်း ရွတ်ဆိုပွားများ နှလုံးထားလျှင် အနိစ္စ+ဒုက္ခ+အနတ္တ–လို့ ဝိပဿနာရှုတဲ့ သမ္မသနဉာဏ် ဖြစ်နိုင်တယ်၊

ပါဠိပညာရှင်တို့ နယ်ပယ်ကတော့ ဒီဂါထာကို ကြားလိုက်လျှင်ပဲ "ဒီဂါထာဟာ ကောင်းတယ်"လို့ နှစ်သက်တော် မူနိုင်ကြပါတယ်၊ ဒကာ, ဒကာမတွေ အနေနဲ့ကျတော့ ဒီဂါထာရဲ့ အဓိပ္ပာယ်ကို ပါဠိကို ကြားရုံနဲ့ ဟုန်းကြီးများသိသလောက် မသိနိုင်ဘူး၊ ဒီတော့ ဒါကလဲ လိုအပ်သေးတယ်၊ လိုအပ်သည့် အတိုင်းပဲ ဒကာ, ဒကာမများအတွက် လွယ်လွယ်နှင့်ဆက်ပြီးတော့ ဟောဒီ နောက်ဂါထာရဲ့ လင်္ကာလဲပေါ်လာတယ်။

နာမ်ရုပ်တရား၊ ဤနှစ်ပါးလည်း၊ ရှည်လျားကာလ၊ မတည်ကြပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ နှိပ်စက်ခြင်းရာ၊ လိုမပါဘူး၊ သဘာဝအား၊ ဤသုံးပါးကြောင့်၊ ဖြစ်ပွားသမျှ၊ အနိစ္စသည်၊ ဒုက္ခ + အနတ္တ ချည်းသာတည်း။

"နာမ်ရုပ်တရား၊ ဤနှစ်ပါးလည်း၊ ရှည်လျားကာလ၊ မတည်ကြပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏" သြ ဒီခန္ဓာကိုယ်မှာ ရှိနေတဲ့ နာမ်တရား, ရုပ်တရား ဒီနှစ်ပါးတို့ဟာလဲပဲ ကာလရှည်လျားစွာ မတည်ကြဘူး၊နံနက်ကဖြစ်တဲ့ နာမ်ရုပ် နံနက်မှာပင် ချုပ်တယ်။ နေ့လယ်ဘက် မပါဘူး။ ယခုနေ့လယ်မှာဖြစ်တဲ့ နာမ်ရုပ် နေ့လယ်မှာပဲ ချုပ်တယ်၊ ညနေဘက် မပါဘူး။ အို....ကုန်ကုန်ပြောရလျှင် တရားဟောစကဖြစ်တဲ့ နာမ်ရုပ်–တရားဟောစကပဲချုပ်တယ်၊ ယခုအချိန်ထိအောင် မပါဘူး။ သြကာသ–ဆိုတုန်းကအသံကို ပြန်ကြည့်ကြရအောင် (ကာ) ရောက်တော့ (သြ) တုန်းက နာမ်ရုပ်မရှိတော့ဘူး။ (သ) ရောက်တော့ (ကာ) တုန်းက

နာမ်ရုပ် မရှိတော့ဘူး။ ရှေ့စဉ် နောက်စဉ် တခါထဲသူ့ဒနေရာမှာပင်သူတို့ ချုပ်ပျောက်ကုန်ကြတယ်။ အဲဒီလိုကြည့်ပြီးတော့ "နာမ်ရုပ်တရား၊ ဥ၅ နှစ်ပါးလည်း၊ ရှုသည့်လျှားကာလ၊ ၎တည်ကြပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏"ဟု ရွတ်ဆိုနှလုံးသွင်းကြည့်ပါ၊ ဒီစာပိုဒ်က အနိစ္စအချက်ပေါ်အောင် နှလုံးသွင်းပုံကို ဖော်ပြတဲ့ စာပိုဒ် ဖြစ်ပါတယ်။

"နှိပ်စက်ခြင်းရာ" ဒီစာပိုဒ်က ဒုက္ခအချက် ပေါ်အောင် ဖော်ပြတဲ့ စာပိုဒ်ဖြစ်ပါတယ်။ ဖြစ်ခြင်း+ပျက်ခြင်းဆိုတဲ့ ဒီဝေါဟာရ စကားလုံးဟာ သာမန်အနေဖြင့် ကြည့်လျှင် ထိပ်လန့်ဖွယ်ဟု မှတ်ထင်ရန် မရှိသော်လည်း နက်နက်နဲနဲ ဉာဏ်ပညာမျက်စိဖြင့် ကြည့်ရှုဆင်ခြင်လျှင် လွန်စွာကြောက်ဖွယ် အချက် ထင်ရှားလာနိုင်ပါတယ်။ ဖြစ်-လို့ဆိုတဲ့ ဉပါဒ်ခဏမှာ ဇာတိတည်းဟူသော ရန်သူရဲ့ အနှိပ်စက်ခံနေရတယ်၊ ပျက်-ဆိုတဲ့ ဘင်ခဏမှာ မရဏတည်းဟူသော ရန်သူရဲ့အနှိပ်စက်ခံနေရတယ်။ အေးလေ ဖြစ်ပေါ်လာသမျှ ရုပ်နာမ်တရားတွေမှာ ဉပါဒ်ခဏ=ဖြစ်ဆဲခဏ+ ဌီခဏ+ဘင်ခဏ=ပျက်ဆဲခဏရယ်လို့ အချိန်ပိုင်းသုံးခုရှိကြသည် အနက် ဖြစ်-ဆိုသော ဉပါဒ်ခဏမှာ ဇာတိဆိုတဲ့ရန်သူရဲ့ မလိမ့်တပတ် အနှိက်စက်ခံနေရတယ်၊ တည်-ဆိုသော ဌီခဏမှာ ဇရာဆိုတဲ့ရန်သူရဲ့ မလှုပ်နိုင်အောင် အနှိပ်စက်ခံနေရတယ်၊ ပျက်ဆိုတဲ့ ဘင်ခဏမှာ မရဏဆိုတဲ့ရန်သူရဲ့ သေအောင် အနှိပ်စက်ခံနေရတယ်၊ ခဏငယ် သုံးချက်အပိုင်းသုံးပိုင်း လုံးမှာပင် အနှိပ်စက်မခံရတဲ့အပိုင်းဟူ၍ လုံးဝမရှိ၊အပိုင်းသုံးပိုင်းလုံးမှာပင် အနှိပ်စက်ခံနေရဒါကို ရည်ရွယ်ပြီး "နှိပ်စက်ခြင်းရာ" ဟုစပ်ဆိုခဲ့ပါတယ်၊ ဒါ့ကြောင့် ဒုက္ခလက္ခဏာကျတော့ "ဉဒယဗ္ဗယပီဠနဋ္ဌေန ဒုက္ခံ" လို့ ဘုရားဟောတော်မူခဲ့ပါတယ်။

အဲ-ပကိဏ္ဏကဒေသနာ အဋ္ဌကထာကျတော့ ဒီ-ဇာတိ+ဇရာ+မရဏတို့ကို ရန်သူသုံးယောက်နဲ့ ဉပမာ ပေးထားတယ်။ (သမ္မောဟဝိနောဒနီ အဘိဓမ္မာ အဋ္ဌကထာ မှာ)၊ ရန်သူသုံးယောက်တဲ့၊ သူတို့ရန်သူလူတယောက်နှင့် ပက်သက်ပြီးတော့ ဒီလိုတိုင်ပင်ကြသတဲ့၊(ပထမ ရန်သူက)"မပူကြပါနဲ့ကွာ-ဒီအကောင် ဆွေမျိုးတွေနဲ့ ကွဲပြီး တယောက်ထဲ

တောအုပ်သို့ရောက်လာအောင် ထုတ်ခဲ့ဖို့ကတော့ ငါ့တာဝန်ထား''လို့ အာမခံသတဲ့။(ဒုတိယ ရန်သူက)''မင်းကသာ တောအုပ်ထဲရောက်အောင် ထုတ်လာလျှင် ဒီအကောင် မလှုပ်နိုင်အောင် ရိုက်ပုတ်ညှဉ်းဆဲနှိပ်စက်ဖို့ ကတော့ ငါ့တာဝန်ထား''လို့ ပြောသတဲ့။ တဖန်(တတိယရန်သူက) ''အေး....မင်းက ပြန်ပြီး မနှိပ်စက်နိုင်အောင် ရိုက်ပုတ်ညှဉ်းဆဲနှိပ်စက်လို့ ဒီအကောင် ပင်ပန်းနေပြီဆိုလျှင် တချက်ထဲနဲ့ အသက် ပျောက်အောင် နှိပ်စက်ဖို့ ငါ့တာဝန်ထား'' လို့ အဲဒီလို ရန်သူသုံးဦးတို့ တိုင်ပင်ကြပြီး မြို့ထဲ,ရွာထဲ,ဆွေ နှင့်မျိုးနှင့် တင့်တင့်တယ်တယ်နေတဲ့(သူတို့သုံးယောက်ရဲ့ရန်သူ) အဲဒီပုဂ္ဂိုလ်ကို ပထမ ရန်သူက သူဝန်ခံတဲ့အတိုင်း တောအုပ်ထဲ မလိမ့်တပတ်ခေါ်လာတယ်။ ဒုတိယရန်သူက ဘာမှ ပြန်မလုပ်နိုင်အောင် ရိုက်နှက်ပုတ်ခတ်တယ်။တတိယရန်သူကျတော့ထိုသူ့ကိုအသက်ဆုံးစီရင်လိုက်တယ်၊

အဲဒီရန်သူသုံးဦးတို့လိုပဲ ဇာတိ+ဇရာ+ မရဏဆိုတဲ့ (ဖြစ်+တည်+ပျက်) ဒီတရားသုံးပါးတို့လဲပဲ ယခုဘဝ မိနဲ့, ဖနဲ့, သားနဲ့, သမီးနဲ့, မြေးနဲ့, မြစ်နဲ့ ဆွေ နဲ့ မျိုးနဲ့, ဘဝအသိုက်အအုံ အင်မတန်တင့်တယ်နေတုန်း ဇာတိကလာပြီးတော့ ဗျူန်းကနဲဆို ဆွဲခေါ်သွားတယ်၊ ဟာ-ဟို ဘဝတခုမှာ တခါထဲ ပါသွားပြီ။ ဘဝတောအုပ်ကြီးထဲရောက်သွားပြီ။ ဆွေ တွေ မျိုးတွေနဲ့ ကင်းကွာခဲ့ပြီ။

ဒီသတ္တဝါ အဲဒီ ဘဝတောအုပ်ထဲ ရောက်တဲ့အချိန်က စပြီးတော့ မသိမသာ ပထမပိုင်းမှာ ဇရာက နှိပ်စက်လာတယ်၊ သူ့ရဲ့နှိပ်စက်တဲ့ဒဏ်တွေ ဘယ်တော့မှ ကောင်းကောင်း ပေါ်လွင် ထင်ရှား လာသလဲ ဆိုတော့ အသက်လေးဆယ်ကျော် ငါးဆယ်ကျော်တော့ ပေါ်လွင်လာပြီ၊ ဆံပင်တွေ ဖြူလာပြီ။ ဆံတွေဖြူတယ်, သွားတွေကြွေတယ်, အရေတွန့်တယ်-ဆိုဒါ ဇရာရန်သူရဲ့ ပြန်ပြီးမလှန်နိုင်အောင် နှိပ်စက်တဲ့ ဒဏ်ချက်ပဲ ဖြစ်ပါတယ်၊အဲဒီလိုနှိပ်စက်လို့ ဟိုဘက်လဲရောက်ရော၊ မရဏ-ဆိုတဲ့ တတိယ ရန်သူက အသက်ဆုံး စီရင်လိုက်ဟယ်၊ ဘာတတ်နိုင်သေးတုန်း၊ အဲဒီ တဘဝ တဘဝမှာ ဒီ-ဇာတိ+ဇရာ+မရဏ-ဆိုတဲ့ တရားသုံးမျိုး (ဖြစ်+

တည်+ချုပ်) တို့ဟာ သတ္တဝါတွေရဲ့ ရန်သူကြီး သုံးဦးလို့ ဝိဘင်းအဋ္ဌကထာမှာ ဖွင့်ပြထားပါတယ်။ ဒါကြောင့်-ဖြစ်တယ်+တည်တယ်+ပျက်တယ် ဆိုဒါဟာ အနှိပ်စက်ခံနေရဒါပါ၊ အဲဒီလို အနှိပ်စက် ခံနေရတဲ့အတွက် "နှိပ်စက်ခြင်းရာ" လို့ ဖွဲ့ဆိုခဲ့ပါတယ်။

"လိုမပါဘူး" ဆိုဒါကတော့ အနတ္တအချက်ကို ဖွဲ့ဆိုခြင်းဖြစ်ပါတယ်။ ဩ တရားနာခိုက် မှာဖြစ်တဲ့ (၁) တရားနာတဲ့စိတ် (၂) တရားသံ=ဤတရားတွေသည် အလွန်ကောင်းပါ တကား၊ ဒီစိတ်နှင့် ဒီအသံတွေကိုဒို့ အိမ်ရောက်အောင် ယူသွားမယ် ဆိုလို့ ရရဲ့လားတဲ့၊ မရဘူးနော်။ ကိုယ့်အလိုသို့ တစိုးတစိမ့် မပါဘူး၊ အဲဒီလို အလိုမပါတဲ့အတွက် "လိုမပါဘူး" လို့ ဖွဲ့ဆိုခဲ့ပါတယ်၊ အနတ္တ အချက် ပေါ်အောင် ဖော်ပြခြင်းဖြစ်ပါတယ်။

> သဘာဝအား၊ ဤသုံးပါးကြောင့်၊ ဖြစ်ပွားသမျှ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တချည်းသာတည်း။ (သို့မဟုတ်) ဒုက္ခ+အနတ္တပါတကား

လို့ မိမိနှစ်သက်သလို ပွားယူကြပါ။ ယခု တရားနာနေစဉ် သုံးခေါက်လောက် လိုက်၍ အဆိုခိုင်းလျှင် အနည်းဆုံး ၁၅-မိနစ်လောက် အချိန်ကုန်သွားပါမယ်၊ မိမိတို့အိမ်ရောက်တော့မှ စိပ်စိပ် စေးစေး နှလုံးသွင်းကြပါလေ။

## ဝိပဿနာဉာဏ် ဆယ်ပါး

ဒါဖြင့်လျှင် အဲဒီလို ပွားများ နှလုံးသွင်းတော့ ဘာဖြစ်မလဲလို့ မေးစရာ ရှိပါတယ်။ လက္ခဏာသမ္မသနဉာဏ်လို့ ခေါ်တဲ့ ပထမ ဝိပဿနာဉာဏ်ဖြစ်တယ်လို့ ဖြေရပါမယ်၊ ဒီလိုအနိစ္စ + ဒုက္ခ + အနတ္တလို့ ရှုတဲ့ လက္ခဏာသမ္မသနဉာဏ်ကို အထက်ဖြစ်တဲ့ ဝိပဿနာဉာဏ်တို့မှာလဲ အကျွပ်သဘော အသုံးပြု ရှုရပါမယ်။ (၁)

သမ္မသနဉာဏ်ဖြင့် နှလုံးသွင်းဖန်များလို့ ရင့်သန်လာတဲ့ အခါကျတော့-"ဩ ဤတလံမျှလောက်သော ခန္ဓာကိုယ်မှာ နာမ်ရုပ်ရုပ်ဖြစ်

တယ်ဆိုဒါ ခံစားမှုသဘော, မှတ်သားမှု ပါးနပ်မှုသဘော, ပြုပြင်မှု (ကာယကံ + ဝစီကံ + မနောကံ)သဘော, အာရုံယူမှုသဘောများထင်ရှား ဖြစ်လာတာကို ခေါ်တာပါပဲ၊ ရုပ်တရားဖြစ်တယ်ဆိုဒါက ကြမ်းမှု + နူးမှု + ပူမှု + အေးမှု + ပျော့မှု + မာမှု + ဒီသဘာဝတွေဖြစ်လာတာကို ခေါ်တာပါ ပဲ၊ ဖြစ်တယ် + ပျက်တယ်ဆိုတာလဲ ဒီသဘာဝတွေ ဖြစ် + ပျက် တာကိုပင် ခေါ်တာပဲ-လို့ (အနိစ္စ + ဒုက္ခ + အနတ္တ-ဟု ရှုဖန်များလာလျှင်) ရုပ်နာမ် နှစ်ပါးရဲ့ အဖြစ်**သ**ဘော + အပျက်သဘောတွေကို ဉာဏ်အမြင် တဆင့် တိုးပြီးတော့သိလာပါလိမ့်မယ်"။ (ပရိယတ် ကျွမ်းကျင်သော ဆရာတော် များ အနေနှင့် အကြောင်းနှင့် ဆက်စပ်၍ ခန္ဓာငါးပါး၏ ဖြစ်ပုံ + ပျက်ပုံ တို့ကို* **၄-ချက်စီ ၄-ချက်စီ** သိနိုင်သော်လည်း စာမပေ ပရိယတ် မသင် ကြားဘူးသော လူများအဖို့မှာမူ ခဏနှင့် ဆက်စပ်၍ ရှေးဖော်ပြရာပါ အတိုင်း ဖြစ် + ပျက်သဘောတို့ကို သိနိုင်ခွင့်ရှိပါသည်)။ ထိုသို့ ရုပ်နာမ် ခန္ဓာတို့၏ ဖြစ်ပုံ + ပျက်ပုံတို့ကို တဆင့်တိုးပြီး သိသော အသိဉာဏ်ကို ဥဒယဗ္ဗယဉာဏ်ဟူ၍ ခေါ်ပါသည်။ (၂)

ဥဒယဗ္ဗယဉာဏ်သို့ ရောက်ပြီးတော့လဲပဲ အနိစ္စ + ဒုက္ခ + အနတ္တကို ဒီလက္ခဏာအတိုင်းပင် ရှုရပါမည်။ ရှုလို့ ပိုကောင်းလာလိမ့်မည်။ ဥဒယဗ္ဗယ

---

* **ရူပက္ခန္ဓာအတွက်**

၁။ အဝိဇ္ဇာ ဖြစ်ခြင်းကြောင့် ရုပ်ဖြစ်၏။
၂။ တဏှာ ဖြစ်ခြင်းကြောင့် ရုပ်ဖြစ်၏။
၃။ ကံ ဖြစ်ခြင်းကြောင့် ရုပ်ဖြစ်၏။
၄။ အာဟာရ ဖြစ်ခြင်းကြောင့် ရုပ်ဖြစ်၏။

**ဝေဒနာ + သညာ + သင်္ခါရ အတွက်**

(၄)=အချက် (အာဟာရ- နေရာ) တွင် (ဖဿ) ပြောင်းလဲ၍ ထည့်။

**ဝိညာဉ် အတွက်**

(၄) = အချက်တွင် (နာမ် + ရုပ်ဖြစ်ခြင်းကြောင့်ဝိညာဉ်ဖြစ်၏။) ထည့်။

ဉာဏ်နှင့် သမ္မသနဉာဏ်တို့ တလှည့်စီ (ဖြစ်+ပျက်ကိုရှုလိုက်၊ အနိစ္စ+ဒုက္ခ+အနတ္တကို ရှုလိုက်ဖြင့်) အဖြစ်များ၍ အားကောင်းလာသောအခါ ဘာကို တိုးမြင်လာမလဲ၊ "ဩ....ဖြစ်တယ်ဆိုဒါ စကားထဲထဲ့၍သာ ပြောရ၊ နောက်ဆုံးကျတော့ ပျက်တာချည့်ပါတကား"လို့ အဖြစ်ဘက်ကို ဦးစားမပေး အလေးမပြုတော့ပဲ အပျက်တခုတည်းကိုချည်းမဲပြီး ရှုလာလိမ့်မယ်။ လိုရင်းတော့ အပျက်ကိုမြင်မှုလဲပဲ ရုပ်နာမ်ခန္ဓာ သံသရာကြီးမှ ငြီးငွေ့မှာ ဖြစ်ပါတယ်။ အဲဒီလို အပျက်ဘက်ကို ဦးစားပေးပြီးတော့ "အိုး....အဖြစ်ဆိုဒါ စကားထဲမှာ ထဲ့ပြီး ပြောလို့သာ ပြောနေရဒါ၊ ပျက်တာချည်းပဲ့ကိုး"လို့ တဆင့်တိုး တမျိုးတက်လာတဲ့ အသိဉာဏ်ကို ဘင်္ဂဉာဏ်လို့ ခေါ်ပါတယ်။ အဲဒီအခါမှာလဲပဲ အနိစ္စ+ဒုက္ခ+အနတ္တကို လက်မလွှတ်နှင့် ကြည့်လေ ပို၍ ပို၍ ကြည့်ကောင်းလာလိမ့်မယ်။ (၃)

တပျက်ထဲ ပျက်နေတာတွေကို မြင်ဖန်များလာပြီဆိုတော့ "ဟာ....တကယ်ဆိုတော့ ဒို့ တလံမျှလောက်သော ဒီခန္ဓာကိုယ် အတွင်းမှာ ဖြစ်နေတဲ့တရားတွေဟာ သာယာဖွယ် မဟုတ်ပါတကား၊ ကြောက်လန့်ဖွယ်တွေပါတကား"လို့ တဆင့်တိုးပြီး တမျိုးသိမြင်လာလိမ့်မယ်၊ အဲဒီဉာဏ်ကို ဘယဉာဏ်လို့ ခေါ်ပါတယ်၊ (ကြောက်တယ်ဆိုဒါ ဒီနေရာမှာ ဒေါသ၏ အစွမ်းဖြင့် ကြောက်တာမဟုတ်ဘူးနော်၊ ဉာဏ်ပညာဖြင့် ကြောက်ထာ၊ ကြောက်စရာ တရားတွေပါကလားလို့ သိလာတာ။ "ဟာ ဒီရုပ်နာမ်တရားတွေဟာ တကယ်ဆိုတော့ ကြောက်စရာ တရားတွေပါတကား၊ စောစောကတော့ ငါသည် အားကိုးရမဲ့ တရားတွေ ခိုမင်ရမဲ့တရားတွေလို့ အောက်မေ့ခဲ့တယ်၊ ကြပ်ကြပ် ကြည့်ဖန်များမှ ကြောက်စရာ တရားတွေပါတကား"လို့ သိလာလိမ့်မယ်၊ အဲဒီလို ပညာသိ သိတဲ့ အသိမျိုးကိုမှ (ကြောက်ဖွယ်တရားတွေပါတကားဟု သိသော အသိဉာဏ်ကိုမှ)ဘယဉာဏ်လို့ခေါ်တယ်။ ဒေါသနဲ့ ကြောက်ခြင်းကား ကြက်သီးထ, ချွေးဒီးဒီးကျတဲ့ အကြောက်မျိုး၊ ဘယဉာဏ်နဲ့ ကြောက်ခြင်းကားအလွန်ကြည်လင်လှပါတယ်၊"ဩ စောစောကတော့

ဒီရုပ်နာမ်တရားတွေကို သာယာဖွယ် ခုံမင်ဖွယ် နှစ်သက်ဖွယ်တွေလို့ ထင်ခဲ့တယ်၊ လက်စသတ်တော့ ဒီရုပ်နာမ်တရားတွေဟာ ကြောက်စရာ တွေပါတကား''ဟု ဘယဉာဏ်က သိတယ်။ (၄)

တဖန်ဆက်ပြီး အနိစ္စ+ဒုက္ခ+အနတ္တလို့ သမ္မသနဉာဏ်ဖြင့် တည် လိုက်ပါဦး၊ ဘယဉာဏ်တလှည့်, သမ္မသနဉာဏ်တလှည့် ဤသို့ အလဲ အလှယ်ရှုပြီး ဘယဉာဏ် ရင့်သန်လာသောအခါ အာဒီနဝဉာဏ် ပေါ် လာလိမ့်မယ်၊ရုပ်နာမ်တို့၏ အပြစ်ကို မြင်လာလိမ့်မယ်၊စောစောကတော့ ဒီရုပ်နာမ်နှစ်ပါးကိုအကျိုးပဲထင်တယ်၊ ကောင်းကျိုးတွေပဲလို့ ထင်တယ်၊ အင်း....စောစောကတော့ ဒီရုပ်နာမ်နှစ်ပါးကို အားကိုးတယ်၊''ဘယ်သူ့ ကိုမှ ငါ အားမကိုးဘူး၊ ငါ့ကိုယ်ကို ငါ-အားကိုးတယ်၊''ဆိုတာတွေဟာ မိမိရဲ့ ရုပ်,နာမ်ကိုအားကိုးခြင်းပဲ။

အဲဒီ အားကိုးတဲ့စိတ်တွေဟာ ဒီရုပ်နာမ်ဓမ္မတွေရဲ့ အနိစ္စ+ဒုက္ခ+ အနတ္တ သဘောတွေကို ရှုဖန်များလို့ ဝိပဿနာ သမ္မသနဉာဏ်တို့ ဘယ ဉာဏ်တို့ ရင့်သည်ထက် ရင့်သန်လာတော့ အဲဒီအားကိုးတဲ့ နေရာမှာ ''ငါက စောစောက မသိလို့သာ အားကိုးမိဒါ၊ အားကိုးမယ်ကြံတုန်းရှိ သေးသူတို့က တဖြုတ်ဖြုတ်နဲ့ ချုပ်ပျောက်ကုန်ပြီ၊ ဟာ တကယ်ဆိုတော့ အားကိုးရာမရှိတဲ့ တရားတွေပါတကား'' အဲဒီလိုသိတဲ့ဉာဏ်ကို အာဒီနဝ ဉာဏ်ကို ခေါ်တယ်၊ (၅)

အဲဒီ အာဒီနဝဉာဏ်ကျတော့လဲ သမ္မသနဉာဏ်ကို လက်မလွှတ်ပဲ အနိစ္စ ဒုက္ခ+အနတ္တလို့ရှုရပါမယ်၊အဲဒီလိုအာဒီနဝဉာဏ်နဲ့ ရုပ်နာမ်တွေ မှာအားကိုးစရာမရှိဒါကို သိလိုက်,သမ္မသနဉာဏ်နဲ့ လက္ခဏာရေးသုံးပါး ကိုသုံးသပ်လိုက်, ဤသို့ ပွားဖန်များလာတော့ နိဗ္ဗိဒါဉာဏ် ပေါ်လာ မယ်၊ ပြောနေတာက ကြာတယ်နော်၊ အဟုတ် အလုပ်လုပ်လို့ ရှိလျှင် မကြာခင် တက်တက်ပြီးတော့ အထက်အထက် အသိဉာဏ်တွေကို တွေ့ သွားတယ်။ ဟာ ရုပ်နာမ်တွေမှာ ခိုကိုးရာ မထင်ဘူး၊ ခိုကိုးရာမရဘူးလို့ သိပြီးတဲ့နောက် အနိစ္စ+ဒုက္ခ+အနတ္တဟု ထပ်တလဲလဲ ရှုဖန်များလျှင် နိဗ္ဗိ

ဒါ-ခေါ်တဲ့ ငြီးငွေ့တဲ့ဉာဏ် ပေါ်လာမယ်။ နှာခေါင်းရှုံ့ဒါကို နိဗ္ဗိဒါလို့ ခေါ်တာမဟုတ်ဘူးနော်။

စောစောကတော့ (ဝိပဿနာဉာဏ်အမြင် မရှိသေးတဲ့ အတွက်) ဒီရုပ်နာမ်တွေကိုပင် လှ-တယ်, ပ-တယ်, တင့်တယ်တယ်, ဖွယ်ရာတယ် မင်္ဂလာရှိ-တယ်, မြဲတယ်, ချမ်းသာတယ်, စိုးပိုင်တယ်-လို့ အဲဒီလို ကိုယ့်ခန္ဓာကိုယ်ကို တိုလိုယူကြည့်ရ ဒီလို ယူကြည့်ရဖြစ်ခဲ့တယ် ''အမှန်ရတော့ မဟုတ်ဘူးပေါ့၊ ဒိဋ္ဌိနဲ့ ယူနေလို့ ဒိဋ္ဌိရ-ရဒါ''အနိစ္စ+ဒုက္ခ+အနတ္တ-ဟု ရှုဖန်များလာတော့ မြဲတယ်လို့လဲ ယူကြည့် ယူ၍မရ၊ ချမ်းသာတယ်, ခိုင်မာတယ်, တင့်တယ်တယ်-ဘယ်လိုမှ ယူလို့မရတော့ဘူး၊ အဲဒီလို ယူမရအောင်သိတဲ့ အသိဉာဏ်ကို နိဗ္ဗိဒါဉာဏ်လို့ ခေါ်တယ်။ (၆)

အဲဒီလို နိဗ္ဗိဒါဉာဏ်နှင့် သမ္မသနဉာဏ်တို့ ဒွန်တွဲပြီးတော့ အနိစ္စ+ဒုက္ခ+အနတ္တ-ဟု နှလုံးသွင်းဖန်များလာတော့ ''ဟာ ဘာမှ အားကိုးစရာမရှိ၊ တကယ်ဆိုတော့ ကြောက်စရာတွေပါလား၊ ဒီ ခန္ဓာ ရုပ်နာမ်နှစ်ပါးက လွတ်မှတော်မယ်, လွတ်မှအေးမယ်''လို့ လွတ်ချင်လာလိမ့်မယ်၊ အဲဒီလို လွတ်လိုတဲ့အခါမှာ ဖြစ်တဲ့ဉာဏ်ဟာ မုစ္စိတုကမျတာဉာဏ်ဖြစ်တယ်၊ ခန္ဓာရဲ့အပြစ်ကိုမြင်မှ ခန္ဓာက လွတ်ချင်တယ်၊ ခန္ဓာရဲ့အပြစ်ကို မမြင်လျှင် ခန္ဓာက မလွတ်ချင်ဘူး၊ အဲဒီ လွတ်လိုတဲ့အခါမှာ ဖြစ်လာတဲ့ (လွတ်လိုတဲ့ အလိုဆန္ဒနဲ့ တွဲပြီးဖြစ်တဲ့) အသိဉာဏ်ဟာ မုစ္စိတုကမျတာဉာဏ်ပါပဲ။ (၇)

အဲဒီဉာဏ်ရောက်လာတော့''လွတ်လိုရုံနဲ့တော့ လွတ်မှာ မဟုတ်ဘူး၊ ဥပမာပုံ-ကျားကြီးကိုတွေ့လျှင် ကြောက်စရာကြီး အားကိုးစရာမဟုတ်တဲ့ အကောင်ကြီး၊ သူနဲ့မြန်မြန်လွတ်မှ ဝေးမှတော်မယ်။ အဲဒီလိုသိလာတဲ့ အခါ ဒီလိုဝေးချင်ရုံနဲ့တော့ မဝေးဘူး၊ ဝေးအောင်ကြိုးစားပြီး ပြေးမှဝေးမှာပဲ၊အဲဒီလိုသိလာပြီးတော့ ဖနောင့်နဲ့တင်ပါး တသားထဲကျအောင် ဒုန်းပြေး၊ မရပ်မနားပြေး၊ ဒီလိုပြေးလျှင် ပြေးသလောက် အဲဒီ သစ်, ကျား ဘေးရန်က ဝေးတယ်။ အဲဒီလိုပဲ ငါလဲ အဲဒီရုပ်နာမ်ကနေပြီးတော့

ရုပ်နာမ်က လွတ်မြောက်အောင် ဘယ်လိုလုပ်ဆောင်ရပါမတုံးလို့ ဆရာဥပဇ္ဈာယ်တို့ကို မေးလာလိမ့်မယ်၊ ဒါဒီကျတော့ ဆရာဥပဇ္ဈာယ်များက "လွတ်လိုလှ၍၊ လွတ်ရတဲ့ငှာ၊ ဘာဝနာ လေးဆယ်၊ အကျယ်ဖြန့်ချိ၊ အားတိုက်ဖိ၊ ပဋိသမ်ိဒါဉာဏ်" ဆိုတဲ့ ပဋိသမ်ိဒါဉာဏ်ကို တတ်ပေးလိမ့်မယ်။

ဟာ-လွတ်ချင်သလား၊ လွတ်ချင် လျှင်စောစောကတော့အနိစ္စ+ဒုက္ခ+အနတ္တ–ဒီသုံးခုစွင်သာ နှလုံးသွင်းရတယ်၊ ယခုသုံးခုတင်၍သာ နှလုံးမသွင်းနဲ့တော့။ အနိစ္စကို ပရိယာယ်နှင့်တကွ ဆယ်ချက် နှလုံးသွင်း၊ **ရူပံ အနိစ္စံ+ပလောကံ+စလံ+ပဘင်္ဂု+အဒ္ဓုဝံ+ ဝိပရိဏာမံ+အသာရကံ+ဝိဘဝံ+မစ္စု+သင်္ခတံ** လို့ ဆယ်ချက်နဲ့ နှလုံးသွင်းရတယ်။ ( ဒုက္ခလက္ခဏာ ၂၅၊ အနတ္တလက္ခဏာ ၅–ပါးတို့ကို နောက်ပိုင်းတွင် ကြည့်ပါလေ) **အနိစ္စလက္ခဏာ ၁၀–ချက်၊ ဒုက္ခလက္ခဏာ ၂၅–ချက်၊ အနတ္တ လက္ခဏာ ၅**–ချက်ကျတော့ ၁။ **ရုပ်သည် အနတ္တပါတကား ၂။ ရုပ်သည် တစိမ်းပြင်ပပါတကား ၃။ ရုပ်သည် အချည်းအနှီး ပါတကားနှီး ၄။ ရုပ်သည် နိစ္စ+သုခ+ သုဘ+အတ္တနဲ့ မမှိုး အသီးပါတကား ၅။ ရုပ်သည် နိစ္စသဘောသုခသဘော အတ္တသဘော သုဘသဘောတို့မှ ဆိတ်သုဉ်းနေပါတကား**–အဲဒီလို ငါးချက်နဲ့ ကြည့်ဒါကို အနတ္တဘာဝနာ ၅–ချက်လို့ ခေါ်တယ်။

အဲဒီလို အနိစ္စလက္ခဏာထဲမှာ သင်္ဂြိုဟ်ယူရတဲ့ ၁၀–ချက်+ ဒုက္ခလက္ခဏာထဲမှာ သင်္ဂြိုဟ်ယူရတဲ့ ၂၅–ချက်+ အနတ္တ လက္ခဏာထဲမှာ သင်္ဂြိုဟ်ယူရတဲ့ ၅–ချက် အားလုံး အချက် ၄၀–နဲ့ ခန္ဓာငါးပါးအနက် တပါးတပါးမှာ ဘာဝနာ ၄၀–နဲ့ အကျယ်ဖြန့်ချိပြီးတော့ နှလုံးသွင်း။ အဲဒါဟာ ဘာဝနာ လေးဆယ်နဲ့ ရုပ်နာမ်မှလွတ်အောင် ဒုန်းပြေးခြင်းပါပဲ။ အဲဒီလိုဘာဝနာလေးဆယ် အကျယ်ပွားခြင်းကို "လွတ်လိုလှ၍၊ လွတ်ရတဲ့ငှာ၊ ဘာဝနာလေးဆယ် အကျယ်ဖြန့်ချိ၊ အားတိုက်ဖိ၊ ပဋိသမ်ိဒါဉာဏ်" သံပေါက်အရ ပဋိသမ်ိဒါဉာဏ်လို့ခေါ်တယ်။။ (ဂ)

အဲဒီလို ဘာဝနာလေးဆယ်နဲ့ နှလုံးသွင်းလို့ ၁–ချက်+ ၂–ရက်+ ၃–ရက်+၄–ရက်+၅–ရက် စသည် အထုံ အင်အား ကောင်းလာပြီဆိုမတော့ ကြုပ်ကြုပ်ပြေးလေ ခြသေ့်သစ်ကျား ဘေးရန်က ဝေးလေ ဖြစ်

သကဲ့သို့ ကြပ်ကြပ်နှလုံးသွင်းလေ ရုပ်နာမ်မှ ကြောက်အားပြေလေ ဖြစ်လာလိမ့်မယ်။ စောစောကလောက် ဒီရုပ်နာမ်တွေပေါ်မှာ စက်ဆုပ်ရွံရှာ ပျင်းမုန်းမှုလဲ မဖြစ်။ စောစောပိုင်းကလို တပ်မက်မှုလဲ မဖြစ်တော့ပဲ အလယ်အလတ် ဥပေက္ခာရှုတဲ့ သဘောဖြစ်လာလိမ့်မယ်။စောစောပိုင်းကလို တပ်လဲ မတပ်မက်ဘူး မုန်းလဲ မမုန်းတော့ဘူး။

ဥပမာ ဆိုကြပါစို့။ပစ္စည်းဝတ္ထုလေး တခုကို ကိုယ်က အင်မတန် နှစ်သက်နေလျှင်လောဘဖြစ်နေတယ်။အဲဒီပစ္စည်း ဝတ္ထုလေး သူတဘက်သားရဲ့ လက်ထဲ ပါသွားလျှင် အင်မတန် နှမြောတယ်။ ထိုသို့ နှမြောနေခြင်းဟာ ဒေါသဖြစ်နေခြင်းပဲ၊ တပ်နှစ်သက်တဲ့ လောဘရှိလို့ နှမြောတဲ့ ဒေါသဖြစ်ရတာ။ အဲဒီ ပစ္စည်းဝတ္ထုလေးကို ကိုယ်က လောဘသာ ဖြတ်ထားလျှင် ဘယ်သူပဲ ယူသွားသွား နှမြောတဲ့ ဒေါသစိတ် မဖြစ်တော့ဘူး။ အဲဒီဥပမာအတိုင်းပဲ ရုပ်နာမ် ခန္ဓာငါးပါးတို့ကို ဘာဝနာလေးဆယ်နဲ့ ယပ်တလဲလဲ ပွားများ ရှုဆင်ခြင်လျှင် တပ်မက်မှု=လောဘ+နှမြောမှု=ဒေါသ လုံးဝမဖြစ်တော့ပဲ လျစ်လျူရှုတဲ့ဥပေက္ခာ (တတြမဇ္ဈတ္တုပေက္ခာ) ခေါင်းဆောင်တဲ့ အသိဉာဏ် ပေါ်လာလိမ့်မည်။ အဲဒီဉာဏ်ကို သင်္ခါရုပေက္ခာဉာဏ်လို့ ခေါ်တယ်။ (၉)

**သင်္ခါရုပေက္ခာဉာဏ်** အထွတ်အထိပ်သို့ရောက်လျှင် ဟိုဘက်မှာ မဂ်ပေါက်ဖို့ မဂ်ပေါ်ဖို့ တခါထဲ နီးကပ်သွားပြီ။အထွတ်အထိပ် ရောက်တဲ့ သင်္ခါရုပေက္ခာဉာဏ်နဲ့ (ထိုဉာဏ်၏နောက်မှာဖြစ်တဲ့ )အနုလောမဉာဏ်=ဒီဉာဏ် ၂-ပါးကို ဝုဋ္ဌာနဂါမိနီ ဝိပဿနာဉာဏ်လို့ ခေါ်တယ်။(မဂ်ကို သင်္ခါရတို့မှ ထမြောက် လွတ်မြောက်လို့ ဝုဋ္ဌာန-ဟု ပါဠိလိုခေါ်တယ်။ အဲဒီဝုဋ္ဌာနခေါ်သော မဂ်သို့ ရောက်စေတတ်လို့ သိုဉာဏ် ၂-ပါးကို ဝုဋ္ဌာနဂါမိနီဝိပဿနာဉာဏ်လို့ ခေါ်တယ်)။

**အဲဒီ အထွတ် အထိပ် ရောက်တဲ့ သင်္ခါရုပေက္ခာဉာဏ်လဲ ဆုံးရော၊ ဟိုဘက်မှာ မဂ္ဂဝီထိကျလာလိမ့်မယ်။** မဂ္ဂဝီထိဆိုသည်မှာ အရိယာမဂ်စိတ်ပါတဲ့ **စိတ်သန္တာန် အစဉ်ကို ခေါ်ဆိုတယ်။** ဒီမဂ္ဂဝီထိ ဖြစ်ပုံမှာ-ရှေးဦးစွာ **ဘဝင် ၂-ကြိမ်လှုပ်တယ်။(ဘဝင် ၂-ကြိမ်လှုပ်တယ်လို့ ဆိုခြင်းမှာဝီထိစိတ်**

အစဉ်ဖြစ်ကာနီး နောက်ဆုံးဖြစ်တဲ့ ဘဝင်စိတ် ၂-ကြိမ်ကို ခေါ်ဆိုတယ်၊ ဝီထိစိတ်ဖြစ်ကာနီးလို့ လှုပ်ရှားသကဲ့သို့ ဖြစ်လာသော ဘဝင် ၂-ကြိမ်လို့ ဆိုလိုတယ်)။ဘဝင် ၂-ကြိမ်လှုပ်ပြီးနောက် မနောဒွါရာဝဇ္ဇန်းစိတ်တကြိမ်+ ယင်းနောက် ပရိကံ+ ဥပစာ + အနုလုံ+ဂေါတြဘူ-လို့ ကာမာဝစရ ဝိပဿနာ ဥပစာရ သမာဓိဇောလို့ခေါ်တဲ့ ဇောစိတ် ၄-ချက် ဖြစ်လာ တယ်။အဲဒီဇော ၄-ကြိမ်အနက်က ပရိကံ+ဥပစာ+အနုလုံ-လို့ခေါ်တဲ့ ဇော၃-ချက်ကို ဝိပဿနာဉာဏ်ဆယ်ပါးမှာ နောက်ဆုံး ဆယ်ခုမြောက် ဖြစ်တဲ့ အနုလောမဉာဏ်လို့ ခေါ်တယ်။ (၁၀)

အဲဒီ အနုလုံဇောလဲ ချုပ်ပြီးရော သူ့နောက်က ဆက်၍ ဂေါတြဘူ ဆိုတဲ့စိတ် (ကာမာဝစရစိတ်) ဖြစ်လာတယ်။ အဲဒီ ဂေါတြဘူ စိတ်ကို ရှေးဝိပဿနာထဲ ထဲ့လို့ မရဘူး။ အကြောင်းကတော့ ဂေါတြဘူဉာဏ် က နိဗ္ဗာန်ကို အာရုံပြုပြီး ဖြစ်တယ်၊ ရှေးဝိပဿနာဉာဏ်တို့က လက္ခဏာ ရေးကို အာရုံပြုပြီး ဖြစ်ကြတယ်။ အဲဒီလို အာရုံကွဲလို့ ဂေါတြဘူကို “ဂေါတြဘူဉာဏ်”ဟုပင် သီးသန့်မှတ်ယူရတယ်။

အဲဒီ ဂေါတြဘူဉာဏ်လဲ တကြိမ်ဖြစ်၍ ချုပ်ပြီးရော အခြားမဲ့မှာပင် သောတာပတ္တိမဂ်စိတ် တကြိမ်+ယင်းနောက် မန္ဒပညာပုဂ္ဂိုလ်မှာ သောတာ ပတ္တိဖိုလ်စိတ် ၂-ကြိမ်+ (တိက္ခပညာ ပုဂ္ဂိုလ်မှာ သောတာပတ္တိ ဖိုလ်စိတ် ၃-ကြိမ်) ဖြစ်ပြီးတော့ မူလ ပဋိသန္ဓေ စိတ်အတိုင်း ဘဝင်စိတ်တွေ ကျတယ်။

**အဲဒီ** သောတာပတ္တိမဂ်+ဖိုလ်သို့ရောက်လျှင် နိဗ္ဗာန်ကို မျက်မှောက် ထင်ထင် အာရုံပြုတယ်။ ဥပမာ ဆိုကြပါစို့၊ ယခု မျက်စိမှိတ်ပြီးတော့ မဟာမြတ်မုနိ ကိုယ်တော်မြတ်ကြီးကိုမှန်းပြီး အာရုံပြုကြည့်လျှင် မိမိကိုယ် တိုင် ဘုရားကိုယ်တော်မြတ်ကြီးရဲ့ ရှေ့တော်မှောက်သို့ ရောက်ပြီးနေဘိ သကဲ့သို့ မနောဒွါရထဲမှာ (မျက်စိနှင့် မြင်ရသည့်ပမာ) ထင်မြင်လာ တယ်။ အဲဒီ သောတာပတ္တိမဂ်စိတ်+ဖိုလ်စိတ်တို့သို့ ရောက်သွားပြီးလျှင် နိဗ္ဗာန်ဆိုတဲ့ ပရမတ္ထတရားကြီးကို (မဟာမြတ်မုနိဘုရားကြီးကို မနော ဒွါရဖြင့် ဖူးမြင်ရသည်ထက်ပို၍) လင်းချင်း ပြီးတော့ ထင်လာမြင်လာ

တယ်။ ပကတိ မံသစက္ခု မျက်စိနဲ့တော့ မြင်ဒါမဟုတ်ဘူး။ ဉာဏ်ပညာ မျက်စိနဲ့ မြင်ဒါဖြစ်ပါတယ်။

အဲဒီ အမြင်မျိုးကို ပါဠိလို=ပစ္စက္ခ+မြန်မာလိုတော့=မျက်မှောက်ပြု တယ်-လို့ ခေါ်ဆိုတယ်၊ ဉာဏ်ပညာမျက်စိရဲ့အောက် နိဗ္ဗာန်အာရုံ ကြီး လင်းလင်းရောက်လာဒါကို "နိဗ္ဗာန်ကို မျက်မှောက် ပြုတယ်"လို့ ခေါ်ဆိုတယ်၊ (မျက်စိ ဆိုဒါက ပကတိ သူသူငါငါမှာရှိတဲ့ မံသစက္ခု မျက်စိကို ဆိုသည်မဟုတ်ဘူး)၊ မျက်စိမှအောက်ကို တဖန် သန္ဓိစပ်လိုက် တော့ "မျက်စိမှောက်"လို့ ဝေါဟာရဖြစ်လာတယ်။ အဲ-ယနေ့ကျတော့ (စိ) ပျောက်ပြီး "မျက်မှောက်"လို့ ခေါ်ဆိုကြတယ်။ မဂ်ဉာဏ် ပညာ မျက်စိအောက် နိဗ္ဗာန်တည်းဟူသော အာရုံကြီး ရောက်လာတယ်။

အဲ ရောက်လာသမှ ဟို ဘုန်းကြီးတို့ တရားနာ ပရိသတ်တွေ မဟာ မြတ်မုနိဘုရားကြီးကို အခု စဉ်းစားလိုက်လျှင် မျက်မိနဲ့ မြင်ရသလိုကို မနောဒွါရ ဉာဏ်မျက်စိနဲ့ ဖူးမြော်ရတယ်၊ အဲဒီထက်ပိုပြီးတော့ သော တာပန်အရိယာတို့ရဲသောတာပတ္တိမဂ်ဉာဏ်+ဖိုလ်ဉာဏ်ဆိုတဲ့ဉာဏ်မျက်စိ နဲ့ ကြည့်လိုက်တော့ နိဗ္ဗာန်ဆိုတဲ့ ပရမတ္ထတရားအမြတ်ဆုံးကြီးဟာ လင်း ချင်း၍ ထင်လာပါတယ်။

သာသနာရဲ့အနှစ်ကို စစ်ထုတ်ကြစို့၊ အဲဒီ ယခုပြောခဲ့တဲ့ သောတာ ပတ္တိမဂ်+ဖိုလ်နဲ့နိဗ္ဗာန်။ နောက်တဖန် အားထုတ်တော့ သကဒါဂါမိ မဂ်+ဖိုလ်နဲ့နိဗ္ဗာန်၊ နောက်တဖန် အားထုတ်ပြန်တော့ အနာဂါမိ မဂ် + ဖိုလ်နဲ့နိဗ္ဗာန်၊ နောက်တဆင့် အားထုတ်တော့ အရဟတ္တ မဂ် + ဖိုလ် နဲ့နိဗ္ဗာန်၊ အဲဒီလို ရလာမယ်။

ထိုသို့ ရလာတဲ့မဂ်လေးပါး+ဖိုလ်လေးပါး+နိဗ္ဗာန်ဆိုတဲ့ ဒီလောကုတ္တ ရာတရား ကိုးပါးဟာ သာသနာတော်ရဲ့ အနှစ်ပဲ။ ယနေ့ တွေ့နေရတဲ့ ဘုရားသာသနာတော်ရဲ့ အနှစ်သာရဆိုသည်မှာအဲဒီလောကုတ္တရာတရား ၉-ပါးတို့ကိုပဲ ခေါ်တယ်။

မဇ္ဈိမနိကာယ် မဟာသာရော ပမသုတ္တန်မှာ မြတ်စွာဘုရား ဟော ထားတာက ပကတိ သစ်ပင်ကြီးမှာ (၁) အပေါ်က အကိုင်းအခက်ရှိ

တယ်၊ အကိုင်းအခက်ကောင်းလျှင် အရိပ်ကောင်း၍ လူအများ ခိုကိုးရာ ဖြစ်တယ်။ (၂) ပင်စည်မှာ အပေါ်ယံက အပွေးရှိတယ်၊ (၃) အဲဒီ အပွေးရဲ့အတွင်းက အခွံအခေါက် ရှိတယ်။ (၄) အဲဒီရဲ့အတွင်းက အကာရှိတယ်၊ (၅) အဲဒီ အကာရဲ့အတွင်းက အနှစ်ရှိတယ်။

အဲဒါလိုပဲ ကိုယ်တော်မြတ်ရဲ့ သာသနာတော်တည်းဟူသော သစ်ပင်ကြီးမှာ (၁) သက်န်း,ဆွမ်း,ကျောင်း,ဆေး,ဆိုတဲ့ ပစ္စည်းလေးပါးဟာ အကိုင်းအခက်နဲ့ တူတယ်။ ပကတိသစ်ပင်ကြီးမှာ အကိုင်းအခက်မရှိလျှင် မိုးရွာရွာ နေပူပူ၊ မည်သူမှ လာပြီးတော့ အရိပ်မခိုကိုးနိုင်ဘူး။ သစ်ပင်မှာလဲပဲ အကိုင်းအခက်ရှိမှ ဒီသစ်ပင်အောက် နေပူ,မိုးရွာ,ခိုကိုးတဲ့ လူတွေ ခိုကိုးရတယ်။ အဲဒီလိုပဲ ဘုရားသာသနာမှာလဲ အရိပ် ခိုကိုးဖို့ရန် သက်န်း, ဆွမ်း,ကျောင်း,ဆေး=ပစ္စည်းလေးပါးဆိုတဲ့ အကိုင်း အခက် တွေရှိတယ်၊ ပစ္စည်းလေးပါး အကိုင်းအခက် အရိပ်ကောင်းလို့မို့ အမျိုး လေးပါး သူတော်ကောင်းတွေဟာ သာသနာအရိပ်ကြီးကို လာပြီးတော့ ခိုကြရတယ်၊

(၂) အဲ-ဘုရားသာသနာ တည်းဟူသော သစ်ပင်ကြီးမှာ ယနေ့ သူတော်စင်တွေ ဖြည့်ကျင့်နေတဲ့ သီလဟာ သာသနာ သစ်ပင်ကြီးရဲ့ အပေါ်က အပွေးပိုင်းဖြစ်တယ်။ (၃) အဲဒီ သီလကတဆင့် * **"အရဟံ ဂုဏ်တော်"**နဲ့ပဲ သမာဓိအလုပ်ကို လုပ်လုပ်၊ **"မေတ္တာ ဘာဝနာ"** နဲ့ပဲ သမာဓိအလုပ်ကို လုပ်လုပ်၊ အဲဒီလို လုပ်ကိုင်လျှင် သမာဓိတည်းဟူသော အခွံအခေါက်သို့ ရောက်သွားမယ်။ (၄) အဲဒီလို တဆင့်ကြိုးစား အား ထုတ်လို့များ လောကီဈာန်နဲ့ အဘိညာဏ်တွေရလျှင် သာသနာ သစ်ပင် ကြီးမှာ အကာသို့ ရောက်သွားပြီး မြတ်စွာဘုရားက အဲဒီ-မဟာ သာရော ပမသုတ်မှာ ကိုယ်တော်ရဲ့ သာသနာကို သစ်ပင်ကြီးနဲ့ ဥပမာပြုပြီး ဟောတဲ့ နေရာမှာ လောကီဈာန်, အဘိညာဏ် ပညာကို သာသနာ သစ်ပင်ရဲ့ အကာ-လို့ ဟောတော်မူခဲ့တယ်။ (၅) အဲ-လောကုတ္တရာ မဂ်+ဖိုလ်+နိဗ္ဗာန်-ကျတော့မှ သာသနာတော်ရဲ့ အနှစ်တဲ့။

---

*အရဟံဂုဏ်တော်နှင့်မေတ္တာပွားများနည်း(စာ/၁၄၉-၁၅၀)တွင်ရှု။

ကိုင်း....ဝိပဿနာနှလုံး ကျင့်သုံးတော့ ခုဏက ပြောသလို ဝိပဿနာ ဉာဏ် ဆယ်တန်လဲ ဆုံးရော၊ ဗျုန်းကနဲဆို ဟိုဘက်မှာ သွားပြီးတော့ သာသနာရဲ့ အနှစ်ဖြစ်တဲ့ သောတာပတ္တိ မဂ်+ဖိုလ်+နိဗ္ဗာန်၊ နောက် တဆင့် သကဒါဂါမိမဂ်+ဖိုလ်+နိဗ္ဗာန်၊ နောက်တဆင့် အနာဂါမိ မဂ်+ ဖိုလ်+နိဗ္ဗာန်၊ နောက်တဆင့် အရဟတ္တမဂ်+ဖိုလ်+နိဗ္ဗာန်ဆိုတဲ့ ဒီသာသ နာတော်ရဲ့ အနှစ်ကို ရလာတယ်။

ကိုင်း နောက်ပြီးတော့ အနှစ်နဲ့ အကာ တွဲကြည့်ကြရအောင်

၁။ စီးပွားဥစ္စာ၏ အနှစ်သာရကား ဒါနကောင်းမှု၊ (အဲ-မိမိတို့ မှာ ဒီအနှစ်ကိုလဲ ရပြီ)။ ၂။ ကိုယ်ခန္ဓာ၏အနှစ်သာရကား သီလကောင်း မှု၊(ဒါလဲပဲဒို့ သူတော်ကောင်းတွေနေ့စဉ်လဲကျင့်သုံးတယ်၊ဥပုသ်နေ့မှာလဲ ထူး၍ ကျင့်သုံးတယ်၊ ရပြီ-ဆိုကြစို့ )။၃။ ယခုဘဝ ရနေသော အသက်၏ အနှစ်သာရကား သမထ+ဝိပဿနာ-ဘာဝနာ ကောင်းမှု၊ (အဲဒါကိုလဲပဲ ကျင့်သုံးဆဲရှိကြတယ်၊ အထူး နှလုံးသွင်းဖို့ရန်လဲပဲ လက်ထဲမှာ စာအုပ်တွေ ထည့်လိုက်ပြီ)။၄။ အဲဒီအနှစ်သုံးပါး ကိုယ်က ကြိုးစားမှုခုဏက ပြောတဲ့ ဘာဝနာတည်းဟူသော 'အနှစ်လဲဆုံးရော၊ ဟိုဘက်မှာ သာသနာတော် ရဲ့ အနှစ်ဖြစ်တဲ့ လောကုတ္တရာမဂ်+ဖိုလ်+နိဗ္ဗာန်သို့လဲ ရောက်ရော။

ကဲ သာသနာတော်၏အနှစ်ရောက်အောင် ဆုတောင်းပြီး တရားပွဲကို နိဂုံးသိမ်းကြစို့

"ဓမ္မပဒ သာရိပုတ္တာ မောဂ္ဂလ္လာန ဝတ္ထုလာ
အနှစ် ၄-ပါးပြ ဂါထာပါဠိ+နိဿျ"

အသာရေ သာရမတိနော
သာရေ စာ+သာရဒဿိနော။
တေ သာရံ နာ+ဓိဂစ္ဆန္တိ
မိစ္ဆာသင်္ကပ္ပ ဂေါစရာ။

သာရဝေဒါ-နှလုံး ပျော့ပျောင်း သူတော်ကောင်းတို့။ ယေ-အမှတ် မထင် အကြင်သူတို့သည်။ အသာရေ-အနှစ်အစိုင် အခိုင်အမာ မရှိ

တဲ့ စီးပွားဥစ္စာ ကိုယ်ခန္ဓာ, အသက်နှင့်တကွ (ဘုန်းကြီးတို့ကိုလဲပဲလွှတ်မထားခဲ့ကြနဲ့) ရဟန်းတို့အတွက်တာ လေးဖြာပစ္စယ လာဘ်လာဘဉ်။ (သာသနာမှာ ပစ္စည်းလေးပါးဆိုဒါ အနှစ်မရှိဘူးတဲ့၊ အကိုင်း အခက်ပဲ ရှိသေးတယ်၊ အပေါ်ယံ အကာတောင် မဆိုလောက်သေးဘူး)။သာရမတိနော=အနှစ်အစိုင် အခိုင်အမာအား အထင်မှား၍ နေကြကုန်၏၊ သာရေ စ=အနှစ်လေးပါး သာရ တရား၌ကား။ အသာရဒဿိနော=အနှစ်အစိုင် အခိုင်အမာ မဟုတ်သောအား အမြင်မှား၍ နေကြကုန်၏။ တေ=ထိုအကာကို အနှစ်ထင် အနှစ်ကို အကာဟု မြင်ကြသည့် အထင်မှား, အမြင်မှား ထိုရှင်လူ အများတို့သည်။ မိစ္ဆာသင်္ကပ္ပ ဂေါစရာ=ကာမဝိတက်, ဗျာပါဒဝိတက်, ဝိဟိံသာဝိတက် တည်းဟူသော မိစ္ဆာဝိတက်သုံးပါး မကောင်းတဲ့အကြံများလျှင် ကျက်စားရာအာရုံ ဂေါစရ ရှိကြကုန်သည်ဖြစ်၍။ သာရံ=အနှစ်လေးပါး သာရ-တရားကို။ နာဓိဂစ္ဆန္တိ=လှလှပိုင်ပိုင် မရနိုင်ကြကုန်။

**သာရဉ္စ သာရတော ဉတွာ**
**အသာရဉ္စ အသာရတော။**
**တေ သာရံ အဓိဂစ္ဆန္တိ**
**သမ္မာသင်္ကပ္ပ ဂေါစရာ။**

သာမဝေါ=နှလုံး ပျော့ပျောင်း သူတော်ကောင်းတို့။ ယေ=အမှတ်မထင် အကြင်သူတို့သည်။ ဝါ အမှတ်မထင် အကြင်ပညာရှိတဲ့ ရှင်လူတို့သည်။ သာရံ=အနှစ်လေးပါး သာရတရားကို။ သာရတော= အနှစ်အစိုင် အခိုင်အမာ အမြတ်တွေပါတကားဟူ၍။ ဉတွာ ဇာနန္တိ= ပိုင်းခြားထင်ထင် သိမြင်ကြကုန်၏။အသာရဉ္စ=အနှစ်အစိုင်အခိုင်အမာမဟုတ်တဲ့ စီးပွားဥစ္စာ ကိုယ်ခန္ဓာ, အသက်နှင့်တကွ ရဟန်းတို့ အတွက်တာ လေးဖြာပစ္စယ လာဘ်လာဘကိုကား။အသာရတော=အနှစ်အစိုင် အခိုင်အမာ မဟုတ်ပါတကားဟူ၍။ ဉတွာ-ဇာနန္တိ-ပိုင်းခြားထင်ထင် သိမြင်ကြကုန်၏။ ဉတွာ=ပိုင်းခြားထင်ထင် သိမြင်ကြကုန်သည်ရှိသော်။ တေ=

ထိုအနှစ်ကို အနှစ်မှန်း အကာကို အကာမှန်း ခွဲခြမ်းသိမြင် ပညာရှိလူရှင်တို့သည်။ သမ္မာသင်္ကပ္ပဂေါစရာ= နေက္ခမ္မဝိတက်, အဗျာပါဒ ဝိတက်, အဝိဟိံသာဝိတက် တည်းဟူသော သမ္မာဝိတက်သုံးပါး၊ ကောင်းမြတ်တဲ့ အကြံများလျှင် ကျက်စားရာအာရုံ ဂေါစရဂံ ရှိကြကုန်သည်ဖြစ်၍ သာရံ=အနှစ်လေးပါး သာရတရားကို။ အဓိဂစ္ဆန္တိ=လှလှပိုင်ပိုင် ရယူနိုင်ကြကုန်၏။

ဒါက ဒေသနာမှာ ရှိရင်းအတိုင်း၊ အဲဒီဂါထာကို မှီပြီးတော့ ဆုတောင်းကြစို့။

**တသ္မာ**

**သာရဉ္စ သာရတော ဉတွာ**
**အသာရဉ္စ အသာယတော။**
**သာရံ ဝေါ အဓိဂစ္ဆန္တော**
**သမ္မာသင်္ကပ္ပ ဂေါစရာ။**

သာဓဝေါ = နှလုံးပျော့ပျောင်း သူတော်ကောင်းတို့၊ တသ္မာ= ထို့ကြောင့်။ ဝေါ-သို့ရကား။ ဝေါ-တုမှေ=နှလုံးပျော့ပျောင်း သင်သူတော်ကောင်းတို့သည်။သာရဉ္စ=ဒါန+သီလ+ဘာဝနာလောကုတ္တရာတရား ကိုးပါးဆိုတဲ့ အနှစ်လေးပါး သာရတရားကိုလည်း။ သာရတော= အနှစ်အစိုင် အခိုင်အမာ တွေပါတကားဟု။ ဉတွာ-ဇာနာထ=ပိုင်းခြားထင်ထင် အမှန်အတိုင်း သိမြင်နိုင်ကြ ပါစေကုန်သတည်း။ အသာရဉ္စ= အနှစ်အစိုင် အခိုင်အမာမဟုက်တဲ့ စီးပွားဥစ္စာ ကိုယ်ခန္ဓာ,အသက်နှင့်တကွ ရဟန်းတို့အတွက်တာ လေးဖြာပစ္စယ လာဘ် လာဘကိုလဲပဲ။ အသာရတော=အနှစ်အစိုင် အခိုင်အမာ မဟုတ်ပါတကားဟူ၍။ ဉတွာ ဇာနာထ=ပိုင်းခြားထင်ထင် အမှန်အတိုင်း သိမြင် နိုင်ကြပါစေကုန်သတည်း။ ဉတွာ=ပိုင်းခြားထင်ထင် အမှန်အတိုင်း သိမြင်ကြ၍။ သမ္မာသင်္ကပ္ပ ဂေါစရာ=ဝဋ္ဋဒုက္ခမှ ထွက်မြောက်ရန် ကြံစည်ခြင်းဆိုတဲ့ နေက္ခမ္မဝိတက်,မေတ္တာနှင့်ယှဉ်တဲ့ အကြံအစည်တည်းဟူသော အဗျာပါဒ

ဝိတက်, ကရုဏာနှင့်ယှဉ်တဲ့ အကြံအစည် တည်းဟူသော အဝိဟိံသာ ဝိတက်=ဤသမ္မာဝိတက်သုံးပါး ကောင်းမြတ်တဲ့ အကြံအစည်များလျှင် ကျက်စားရာအာရုံ ဂေါစရဂံ ရှိကြကုန်သည်ဖြစ်၍။ သာရံ=အနှစ်လေးပါး သာရတရားကို။ အဓိဂစ္ဆန္တိ=လှလှပိုင်ပိုင် ရယူ နိုင်ကြပါစေကုန်သတည်း။

ဝါ-သာရံ အဓိဂစ္ဆန္တိ=စီးပွားဥစ္စာ၏ အနှစ်သာရ ဖြစ်သော ဒါနကောင်းမှု, ကိုယ်ခန္ဓာ၏ အနှစ်သာရဖြစ်သော သီလကောင်းမှု, ယခုဘဝ ရနေတဲ့အသက်၏ အနှစ်သာရဖြစ်သော ဘာဝနာကောင်းမှု=ဤ အနှစ်သုံးခု အကြောင်းပြုသဖြင့် ဘုရားမြတ်စွာ သာသနာတော်၏ အနှစ်သာရဖြစ်သော မဂ်လေးပါး ဖိုလ်လေးပါး နိဗ္ဗာန်အားဖြင့် ကိုးပါးသော လောကုတ္တရာတရားတော်မြတ်ကို အရဟတ္တမဂ်+အရဟတ္တဖိုလ်ပေါက်ရ ရောက်ကြသည့်ကိုယ် ဖြစ်ကြပါစေကုန်သတည်း။

## နိဂုံး

အရဟတ္တဖိုလ်ပေါက် လောကုတ္တရာ သာသနာတော်ရဲ့ အနှစ်ကို ရရောက်တဲ့ ထိုဘဝဟာဖြင့် နောက်ဆုံးဘဝပဲ၊ အဲဒီနောက်မှာ သံသရာ ဝဋ္ဋဒုက္ခတွေ ဘဝအသစ် ဖြစ်စရာမရှိတော့ဘူး။ အရဟတ္တဖိုလ်ပေါက် သာသနာတော်၏ အနှစ်သာရကို ရရောက်သော ထိုနောက်ဆုံး ပစ္ဆိမဘဝဝယ် ပရိနိဗ္ဗာန စုတိစိတ်၏နောက်ကာလ၌ တစုံတခုသော ဘဝ+ယောနိ+ဂတိ+ဝိညာဏဋ္ဌိတိ+သတ္တာဝါသ+သတ္တနိကာယမှာမှ ရုပ်နာမ်နှစ်ဖြာ ခန္ဓာငါးပါး ဒုက္ခသစ္စာ ဝဋ္ဋမီးစာတရားတို့ တဖန်အသစ် မဖြစ်ခြင်းဆိုတဲ့ အနုပ္ပာဒနိရောဓ၊ ယင်းအနုပ္ပာဒနိရောဓကိုပင် ခေါ်တဲ့ အနုပါဒါ ပရိနိဗ္ဗာန် ကိုယ်စီစံကြပါစေကုန်သတည်း။ အနုပါဒါ ပရိနိဗ္ဗာန် ကိုယ်စီစံရသဖြင့် ကမ္မဝဋ္ဋ+ကိလေသာဝဋ္ဋ+ဝိပါကဝဋ္ဋ တည်းဟူသော ဝဋ္ဋဒုက္ခခပ်သိမ်း သံသရာမီးတောက် မီးပုံကြီး အပြီးတိုင် ငြိမ်းကြပါစေကုန်သတည်း။

မဟ္မနာဒတိုက်ကြီး၏ သာသနာ့မိခင်
ဆရာကြီး ဒေါ်ဓမ္မစာရီ ကိုယ်တိုင်သီကုံး၍
အမြဲမပြတ် နှလုံးသွင်းအပ်သော

## အရဟံဂုဏ်တော် ပုတီးစိပ်နည်း

၁။ သံသရာဝဋ်ဆင်းရဲ အပါယ်ဝဋ်ဆင်းရဲ၏အကြောင်း မကောင်း ယုတ်မာ တထောင့်ငါးရာ ကိလေသာရန်သူတို့ကို အရဟတ္တမဂ် ဉာဏ်သန်လျက်ဖြင့် အကြွင်းမဲ့ ပယ်သတ်....

၂။ ဝါသနာအငွေ့ခါတ်နှင့်တကွ ထိုတထောင့်ငါးရာ ကိလေသာ ရန်သူတို့မှ ဝေးကွာ....

၃။ ဆိတ်ကွယ်ရာ၌ မကောင်းမှုကို မပြု....

၄။ ဖြစ်မှုကြိမ်ဖန် အတန်တန်လည်တတ်သော သံသရာစက်၏အကန့် ကို ဖျက်ဆီး....

၅။ ကြီးကဲလွန်မြတ် ဂုဏ်သကတ်ကြောင့် လူ နတ် ဗြဟ္မာ သတ္တဝါ တို့၏ ပူဇော်အထူးကို ခံထိုက်-တသောင်းတိုက်လုံး ခြိမ့်အုံးညိုး ညံ့ အရဟံဟူသော ဂုဏ်တော်ကြီးဖြင့် အကနိဋ္ဌ ဗြဟ္မာ့ပြည်တိုင် အောင် ပြန့်လွှင့် ကျော်စောတော် မူသော မြတ်စွာဘုရား မြတ်စွာဘုရား....

သော ဘဂဝါ ဣတိပိ အရဟံ။ ။(တခေါက်ဆုံးမှ ပုတီးတလုံး ချပါလေ)။

မေတ္တာသုတ်လာ

တိပိဋကဓရ ဆရာတော် ရေးသားအပ်သော

## မေတ္တာဘာဝနာ ပွားများနည်း

တရား-လင်္ကာ

### ၁။ သဗ္ဗသင်္ဂါဟက မေတ္တာ

**အလုံးစုံသော သတ္တဝါတို့ကို ပေါင်း၍ (ခြုံ၍) ပို့သသောမေတ္တာပွားနည်း ၁-ပါး**

ခပ်သိမ်းများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိဖြစ်ပါစေ။

### ၂။ တိက မေတ္တာ

**သတ္တဝါတို့ကို သုံးပုံထား၍ ပို့သသော မေတ္တာပွားနည်း ၃-ပါး**

က။ ကြီး, ငယ်,အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ်မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

ခ။ ရှည်, တို, အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိဖြစ်ပါစေ။

ဂ။ ဆူ, ကြုံ,အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

(၃) ## ဒိသ မေတ္တာ
## သတ္တဝါတို့ကို နှစ်ပုံထား၍ ပို့သသော
## မေတ္တာပွားနည်း ၄-ပါး

က။ မြင်ဘူး,မမြင်ဘူး၊ နှစ်ဦးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

ခ။ ဝေးနေ,နီးနေ၊ နှစ်ထွေများစွာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

ဂ။ ဘဝဇာတ်သိမ်း,မသိမ်းများစွာ၊သတ္တဝါ၊ချမ်းသာ ကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

ဃ။ ကြောက်တတ်, မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ
ဘေးရန်ပယ်ရှင်း၊ စိုးရိမ်ကင်း၊ ဆင်းရဲမရှိ ဖြစ်ပါစေ။

ဤ ဂ-ပါးသော မေတ္တာပွားနည်းတို့သည်

ဟိတူပသံဟာရမေတ္တာ–သတ္တဝါတို့၏ အကျိုးစီးပွားကို လိုလား၍ ပို့သသော မေတ္တာပွားများနည်း ဖြစ်၏။

(၄) ## အဟိတာပနယနမေတ္တာ
## သတ္တဝါတို့၏ အကျိုးစီးပွားမဲ့ကို ပယ်ရှားလို၍
## မေတ္တာပွားနည်း ၃-ပါး

က။ လူနဲ့လူချင်း၊ လိမ်လည်ခြင်း၊ ကင်းရှင်းကြပါစေ။
ခ။ အထင်သေးခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။
ဂ။ ဒုက္ခသို့ခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

ဂ။ တယောက်သည် တယောက်အား၊ မလိမ်လည် မလှည့်ဖျားပါစေသား။

ခ။ တယောက်သည် တယောက်အား၊ အထင်မသေးပါစေသား။ ဝါ=မထေမဲ့မြင် မပြုပါစေသား။

ဂ။ ကိုယ်,နှုတ်,နှလုံး သုံးပါးလုံး ချုတ်ချယ် ထိပါးလိုသော အလိုဖြင့် တယောက်သည် တယောက်အား၊ ဆင်းရဲဒုက္ခကို အလို မရှိကြပါစေသား ဟူ၍

ဖော်ပြပါ-လင်္ကာဖြင့် လည်းကောင်း၊ မြန်မာစကားပြေဖြင့် လည်းကောင်း၊ မိမိ ကြိုက်နှစ်သက်သလို ပွားများပါလေ။

**ဤကား။** ။မေတ္တာသုတ်လာ မေတ္တာဘာဝနာ ပွားများနည်း ၁၁-ပါးတည်း။

မန္တလေးမြို့ အနောက်ဘက်

မင်းကွန်း ဓမ္မနာဒတိုက် တိပိဋကဓရ ဆရာတော်

ဦးဝိစိတ္တသာရာဘိဝံသ မထေရ်မြတ်

ဟောကြား ဆုံးမတော် မူအပ်သော

**ဝိပဿနာ ဘာဝနာ ဓမ္မသံဝေဂ**
**လင်္ကာများ**

အို သူတော်ကောင်း....သင်ကား

၁။ မမြော်လင့်ပဲ။ သူ၏နဲ၊ အိုလဲ အိုနိုင်၏။

၂။ မမြော်လင့်ပဲ၊ ဖြုန်းကနဲ၊ နာလဲ နာနိုင်၏။

၃။ မမြော်လင့်ပဲ၊ ဖြုန်းကနဲ၊ သေလဲ သေနိုင်၏။

သို့ရကား

က။ ယခုပင်လျှင်၊ မအိုခင်က၊ ကြိုတင် ကောင်းမှု၊ ကြိုးစားပြုလော့။

ခ။ ယခုပင်လျှင်၊ မနာခင်က၊ ကြိုတင်ကောင်းမှု၊ ကြိုးစားပြုလော့။

ဂ။ ယခုပင်လျှင်၊ မသေခင်က၊ ကြိုတင်ကောင်းမှု၊ ကြိုးစားပြုလော့။



**"ဉာဏ်ပညာထက်မြက်သူ"** တနည်းအကျဉ်းကို နှစ်သက်သူ, တနည်း နာမ်တရား၌ တွေဝေသူ, ဤပုဂ္ဂိုလ်တို့အတွက် ခန္ဓာငါးပါးကို မြတ်စွာဘုရား ဟောကြားတော်မူ၏။ **"ဉာဏ်ပညာအလယ်အလတ်ရှိသူ"** တနည်း မကျဉ်းမကျယ် အလယ်အလတ်ကို နှစ်သက်သူ, တနည်း ရုပ်တရား၌ တွေဝေသူ၊ ဤပုဂ္ဂိုလ်တို့အတွက် အာယတန တဆယ့်နှစ်ပါးကို မြတ်စွာဘုရား ဟောကြားတော်မူ၏။ **"ဉာဏ်ပညာနုံ့သောသူ"** တနည်း အကျယ်ကို နှစ်သက်သူ, တနည်း နာမ်ရုပ် နှစ်ပါးလုံး၌ တွေဝေသူ၊ ဤပုဂ္ဂိုလ်တို့အတွက် ဓာတ်တဆယ့်ရှစ်ပါးကိုမြတ်စွာဘုရား ဟောကြားတော်မူ၏။

ထို့ကြောင့် (ပါဠိမတတ်သူ) ထိုပုဂ္ဂိုလ်သုံးမျိုးတို့ အကျိုးငှာ တိပိဋကဓရ ဆရာတော်ဦးဝိစိတ္တသာရာဘိဝံသမထေရ်မြတ် ၁၃၂၇ ခုနှစ် ကဆုန်လပြည့်ကျော် ၁၅ ရက်နေ့က ရေးသားအပ်သော

## (က) ခန္ဓာငါးပါး ဝိပဿနာတရားလင်္ကာ

၁။ ရုပ်ဟုတွင်မည်၊ ခန္ဓာသည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး၊ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တပါတကား။

၂။ ဝေဒနာမည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းအတူဆိုလေ)

၃။ သညာဘွဲ့မည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းအဘူဆိုလေ)

၄။ သဉ္ဉာရမည်၊ ခန္ဓာသည်လည်း၊ (ရှေးနည်းအတူဆိုလေ)

၅။ ဝိညာဏ်ခြောက်မည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏၊ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တပါတကား။

## (ခ) ယင်း အာယတန ဆယ့်နှစ်ပါး

## ဝိပဿနာ တရားလက်ာ

၁။ မျက်စိတွင်မည်၊ ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တ ပါတကား။

၂။ နားဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)

၃။ နှာခေါင်း တွင်မည်၊ ရုပ် အကြည်လည်း၊ (ရှေးနည်း အတူဆိုလေ)

၄။ လျှာဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)

၅။ ကိုယ်ဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူ ဆိုလေ)

၆။ မနောတွင်မည်၊ စိတ်အကြည်လည်း၊ မြင့်ရှည် ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ။ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တပါတကား။

**(ဆိုအပ်ပြီးသော မျက်စိ+နား+နှာ+လျှာ + ကိုယ်+စိတ်= ဤခြောက်ပါးတို့ကို ကိုယ်တွင်း အာယတနခြောက်ပါး=အဇ္ဈတ္တိကာယတန ခြောက်ပါးဟူ၍ ခေါ်၏)။**

(က) အဆင်းတွင်မည်၊ ရုပ်ထိုဤကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်။ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ဒုက္ခ+အနတ္တပါတကား။

(ခ) အသံတွင်မည်၊ ရုပ်ထိုဤလည်း၊ (ရှေးနည်းအတူဆိုလေ)
(ဂ) အနံ့တွင်မည်၊ ရုပ်ထိုဤလည်း၊ (ရှေးနည်းအတူဆိုလေ)
(ဃ) ရသာတွင်မည်၊ ရုပ်ထိုဤလည်း၊ (ရှေးနည်းအတူဆိုလေ)
(င) အတွေ့တွင်မည်၊ ရုပ်ထိုဤလည်း၊ (ရှေးနည်းအတူ ဆိုလေ)
(စ) ဓမ္မတွင်မည်၊ ရုပ်နာမ်သည်လည်း၊ မြင့်ရှည်ကာလ၊မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး၊ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တပါတကား။

**(ဆိုအပ်ပြီးသော အဆင်း+အသံ+အနံ့+အရသာ+အတွေ့ အထိ + ဓမ္မသဘော=ဤ ခြောက်ပါးတို့ကို အပြင် အာယတန ခြောက်ပါးဟူ၍ခေါ်၏)။**

တဲကုပ်ကလေး ခြောက်ခု စုရှိနေသည့်ရွာနှင့် တူသော အတွင်း အာယတန ခြောက်ပါး+ရွာဖျက် ခားပြ ဗိုလ်ကြီးခြောက်ဦးနှင့် တူသော အပြင် အာယတနခြောက်ပါး=ဤအာယတန (၁၂) ပါးတို့၏ အနိစ္စသဘော+ဒုက္ခသဘော+အနတ္တသဘော အမှန်ကို မဂ်ဉာဏ်လေးပါးတို့ကို ရရှိသည်အထိ သိမြင်အောင် ကြိုးစား ပွားများ နိုင်ကြပါစေသတည်း။

## (ဂ) ယင်းခေတ်တဆယ့်ရှစ်ပါး ဝိပဿနာ တရား လင်္ကာ

(၁) မျက်စိတွင်မည်၊ ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏၊ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊

တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါသူး။ ပညာစက္ခု၊ မြော်ထောက် ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ဒုက္ခ + အနတ္တ ပါတကား။

(၂) အဆင်းတွင်မည်၊ ရုပ်ထို၍လည်း၊ (ရှေးနည်းအတူဆိုလေ)
(၃) မျက်စိ၌မှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၁) နားဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၂) အသံတွင်မည်၊ ရုပ်ထို၍လည်း၊ (ရှေးနည်းအတူဆိုလေ)
(၃) နား၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(က) နှာခေါင်းတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(ခ) အနံ့တွင်မည်၊ ရုပ်ထို၍လည်း၊ (ရှေးနည်းအတူဆိုလေ)
(ဂ) နှာခေါင်း၌မှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၁) လျှာဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၂) အရသာတွင်မည်၊ ရုပ်ထို၍လည်း၊ (ရှေးနည်းအတူဆိုလေ)
(၃) လျှာ၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၁) ကိုယ်ဟုတွင်မည်၊ ရုပ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(၂) အတွေ့တွင်မည်၊ ရုပ်ထို၍လည်း၊ (ရှေးနည်းအတူဆိုလေ)
(၃) ကိုယ်၌စွဲမှီ၊ ဝိညာဏ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(က) မနောတွင်မည်၊ စိတ်အကြည်လည်း၊ (ရှေးနည်းအတူဆိုလေ)
(ခ) ဓမ္မတွင်မည်၊ ရုပ်နာမ်သည်လည်း၊ (ရှေးနည်းအတူဆိုလေ)

(ဂ) မနောတွင်မည်၊ ဝိညာဏ်သည်လည်း။ မြင့်ရှည်ကာလ၊မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မြော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တ ပါတကား။

(အိုသူတော်ကောင်း....သင်သည် ခန္ဓာ ငါးပါး ဝိပဿနာ လင်္ကာ+အာယတန တဆယ့်နှစ်ပါး ဝိပဿနာလင်္ကာ+ဓာတ် တဆယ့်ရှစ်ပါး ဝိပဿနာလင်္ကာတို့ကို စေ့ငှအောင် ရွတ်ဆိုပွားများကြည့်ပါ။ ထိုသို့ ပွားများကြည့်၍ မိမိစိတ်၌ အနှစ်သက်ဆုံး ဝိပဿနာလင်္ကာသည် မိမိနှင့် အသင့်တော်ဆုံးဖြစ်၍ ထိုဝိပဿနာလင်္ကာကိုစွဲမြဲ၍ပွားပါ။ထိုသို့ပွားများ ဖန်များလျှင် ပါရမီအလျောက် အရိယမဂ်ဖိုလ်သို့ ရောက်ပါလိမ့်မည်)။

## အပ္ပမာဒ သံဝေဂလင်္ကာ

ရုပ်နာမ်ဓမ္မ၊ သင်္ခါရတို့၊ ကိုယ်ကဤပုံ၊ ဖြစ်လိုတုံလည်း၊တဖုံဆင်ကွဲ၊ သူတနဲဖြင့်၊ ဖောက်လွဲတတ်စွာ၊ ဓမ္မတာကို၊ ပညာစက္ခု၊ မြော်ထောက်ရှု၍

**ယခုပင်လျှင်၊ မအိုခင်က၊ ကြိုတင်ကောင်းမှု၊ ကြိုးစားပြုလော၊**
**ယခုပင်လျှင်၊ မနာခင်က၊ ကြိုတင်ကောင်းမှု၊ ကြိုးစားပြုလော၊**
**ယခုပင်လျှင်၊ မသေခင်က၊ ကြိုတင်ကောင်းမှု၊ ကြိုးစားပြုလော၊**

ရတုချိန်ထောက်၊ ဤခါရောက်မှ၊ ချုပ်ပျောက်ခန္ဓာ၊ သေပိမ့်ငါ-ဟု သတ္တဝါခပင်း၊ ရှင်သေမင်းနှင့်၊ မိတ်သင်းဖွဲ့လျက်၊ ချိန်းအချက်လျှင်။ တစက်ကမှ၊ မရှိကြဘူး

**"အပ္ပမာဒေန ဘိက္ခဝေ သမ္ပာဒေထ"**
**တုရားစကား၊ လိုက်နာပွားသည်၊ ၊တရား လက်မလွှတ်စေနှင့်။**

## ကိသာဂေါတမီ မျက်ရည်သိမ်း သံဝေဂလင်္ကာ

ရုပ်နာမ်နှစ်ဖြာ၊ ငါးခန္ဓာတို့၊ ဖြစ်လှာတိုင်းပင်၊ ကွယ်ချုပ်ဝင်သည့်၊ ဤသင်္ခါရ၊ သဘာဝကား၊ ဌာနနယ်ချုံး၊ တနိဂုံးနှင့်၊ ခေါ်ထုံးဝေါဟာ၊ တမြို့ရွာဝယ်၊ မျက်နှာမဲ့လျှင်း၊ တအိမ်တွင်း၌၊ သင်းသီးသန့်ခြား၊ တကန့်သား၍၊ ဖြစ်ပွားလေလာ၊ မဟုတ်ပါဘူး။ ဖြူဟွာ + လူ+နတ်၊ ထုတ်ချင်းခတ်အောင်၊ ဥပါဒ်စလျှင်၊ ဌီသို့ဝင်၍၊ ဘင်္ဂက္ခဏာ၊ မရဏဖြင့်၊ ရှုရှုလှုပ်လှုပ်၊ တချုပ်ချုပ်လျှင်၊ နာမ်ရုပ်နှစ်မျိုး၊ ဖြစ်တိုင်းညှိုးသည်။

အရိုး အနိစ္စပါတကား။
အရိုး ဒုက္ခပါတကား။
အရိုး အနတ္တပါတကား၊

### ကိသာဂေါတမီထေရီ ရဟန္တာဖြစ်သည့် ဂါထာနှင့် တရားလင်္ကာ

(ဂါထာ) **ယော စ ဝဿသတံ ဇီဝေ**
**အပဿံ အမတံ ပဒံ။**
**ဧကာဟံ ဇီဝိတံ သေယျော**
**ပဿတော အမတံ ပဒံ။**

(လင်္ကာ) အနှစ်တရာ၊ သက်ရှည်ကြာလည်း၊ ခေမာအမတ၊ မမြင်ရသော်၊ ဘဝဤဇာတ်၊ ကာယ်မမြတ်ဘူး၊ ဝိပဿနာ၊ အခြေပါ၍၊ လေးဖြာမဂ်စု၊ ဉာဏ်စက္ခုဖြင့်၊ မုဝကေန်၊ နေရဗ္ဗာန်ကို၊ ဝေဖန်မြင်က၊ တရက်မျှလျှင်၊ ဇီဝရှည်လျှင်း၊ တည်နေခြင်းက၊ လွန်မင်းသာစွ၊ မြတ်ထွတ်လှ-ဟု၊ ဇိနဘုရား၊ ဟောမိန့်ကြားသည်၊ တရားကြိုးသင့် လှပြီတကား။

### နာမ်ရုပ်ကိုပိုင်းခြား၍ ဝိပဿနာတင်ရန်

၁။ ဤကိုယ်ကာယ၊ တလံမျှ၌၊ နှစ်ဝနာမ်ရုပ်၊ ဖြစ်၍ချုပ်၏။ နာမ်ရုပ်နှစ်ပါး၊ အလွတ်ထား၍၊ ဤကား လိပ်ပြာ၊ ဤကားငါတည့်၊ ဤမှာ

ဇီဝ၊ ဤအတ္တဟု၊ ညွှန်ပြဖွယ်ရာ၊ မရှိပါသည်၊ ခန္ဓာ နာမ်ရုပ်မျှသာ တည်း။

၂။ နာမ်ရုပ်တရား၊ ဤနှစ်ပါးလည်း၊ ရှည်လျားကာလ၊ မတည်ကြပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၍၊ နှိပ်စက်ခြင်းရာ၊ လိုမပါဘူး။ သဘာဝအား၊ ဤသုံးပါးကြောင့်၊ ဖြစ်ပွားသမျှ၊ အနိစ္စသည်၊ ဒုက္ခ+အနတ္တ ချည်း သာ တည်း။

## စတုသစ္စ ကမ္မဋ္ဌာန်းလင်္ကာ

၁။ ပဋိသန္ဓေ၊ အို+နာ+သေ-ဟု၊ လေးထွေရင်းမြစ်၊ ဒုက္ခဖြစ်၏။ မချစ်ယှဉ်တွဲ၊ ချစ်သူကွဲနှင့်၊ လိုလဲမရ၊ အကျဉ်းပြသော်၊ ပဥ္စုပါဒါ၊ ငါး ခန္ဓာ၊ သစ္စာဒုက္ခ မှန်မောလှ။

၂။ ဒုက္ခဖြစ်ကြောင်း၊ မကောင်းတဏှာ၊ လောဘမှာ၊ သစ္စာ သမုဒယ မှန်မောလှ။

၃။ တဏှာချုပ်ရာ၊ နိဗ္ဗာန်မှာ၊ သစ္စာနိရောဓ မှန်မောလှ။

၄။ နိဗ္ဗာန် ရောက်ကြောင်း၊ ကောင်းသောအသိ၊ ကောင်းဘိအကြံ၊ ကောင်းသံဆိုပြော၊ ကောင်းသောအပြု၊ ကောင်းမှုသက်မွေး၊ ကောင်းရေးလုံ့လ၊ ကောင်းထသတိ၊ ကောင်းဘိဘည်ကြည်၊ ဤရှစ်မည်၊ တွင်ညီမဂ္ဂ မှန်မောလှ။

(မှတ်ချက်) ဓမ္မစကြာ ပါဠိတော်လာ သစ္စာလေးပါးကို ဖော်ပြသည့် **"ဣဒံ ခေါ ပန တိက္ခဝေ ဒုက္ခံ အရိယသစ္စံ"** အစရှိသော စာပိုဒ် ၄ ပိုဒ် ပါဠိနှင့် အနက်တို့ကိုပါ ယှဉ်တွဲ၍ ဤလင်္ကာ အတိုင်း နှလုံးသွင်းလျှင် ပို၍ ထင်လွယ် သိလွယ်၏။

## တော-လေးဆယ်ခေါ်သော
## ဘာဝနာလေးဆယ် ပါဠိ+အနက်

(အနိစ္စလက္ခဏာပြ ဂါထာ)

**ရူပံ အနိစ္စံ ပလောကံ**
**စလံ+ပဘင်္ဂုံ+အဒ္ဓုဝံ။**
**ဝိပရိဏာမ+သာရကံ**
**ဝိဘဝံ+မစ္စု+သင်္ခတံ။**

ရူပံ=ရူပက္ခန္ဓာသည်

၁။ အနိစ္စံ=မြဲခြင်းသဘောမရှိ
၂။ ပလောကံ=ပျက်စီးခြင်း သဘောရှိ၏
၃။ စလံ=ရွေ့ရှား တုန်လှုပ်တတ်၏
၄။ ပဘင်္ဂုံ=ဖရိုဖရဲ ပြိုကွဲခြင်း သဘောရှိ၏။
၅။ အဒ္ဓုဝံ=ခိုင်မာခြင်း သဘောမရှိ
၆။ ဝိပရိဏာမံ=ဖောက်ပြန်ခြင်း သဘောရှိ၏။
၇။ အသာရကံ=အနှစ်သာရမရှိ
၈။ ဝိဘဝံ=ဆုံးရှုံးခြင်းသဘောရှိ၏
၉။ မစ္စု=သေခြင်းသဘောရှိ၏
၁၀။ သင်္ခတံ=အဖန်ဖန် ပြုပြင်အပ်သော သဘောရှိ၏

အနိစ္စံ=အနိစ္စလက္ခဏာ ဆယ်ချက်ပါတည်း။

(ဒုက္ခ လက္ခဏာပြ ဂါထာ)

**ဒုက္ခဥ္စ ရောဂ+ဃံ ဂဏ္ဍံ**
**သလ္လာ+ဗာဓံ ဥပဒ္ဒဝံ**
**ဘယီ+တျု+ပသဂ္ဂါ+တာဏံ**
**အ လေဏာ+သရဏံ ဝဓံ။**
**အဃမူလံ အာဒီနဝံ**
**သာသဝံ မာရအာမိသံ။**

ဇာတိ+ဇရာ ဗျာဓိ သောကံ
ပရိဒေဝ+မုပါယာသံ။
သံကိလေသသဘာဝကံ။

(နှစ်ဂါထာနှင့် ၁ ပိုဒ်)

စ=အနိစ္စသာဖြစ်သည်မဟုတ်သေး။ ရူပံ=ရူပက္ခန္ဓာသည်
၁။ ဒုက္ခံ=ယုတ်မာညစ်ဆိုး ဒုက္ခမျိုးသာတည်း
၂။ ရောဂံ=ကြင်နာညစ်ဆိုး ရောဂါမျိုးသာတည်း
၃။ အဃံ=အကျိုးယုတ် အကျိုးမဲ့မျိုးသာတည်း
၄။ ဂဏ္ဍံ=မဖွယ်ရုပ်ဆင်း ထွတ်မြင်းအနာ မျိုးသာတည်း
၅။ သလ္လံ=စူးဝင်ညစ်ဆိုး မြှားငြောင့်မျိုးသာတည်း
၆။ အာဗာဓံ=နှိပ်စက်လွှမ်းမိုး အနာမျိုးသာတည်း
၇။ ဥပဒ္ဒဝံ=လွန်စွာကပ်ရပ် နှိပ်စက်တတ်သော ဥပဒ်မျိုးသာတည်း
၈။ ဘယံ=ကြောက်ဖွယ်ညစ်ဆိုး ဘေးရန်မျိုးသာတည်း
၉။ ဤတိ=ထိတ်လန့်စဖွယ် အန္တရာယ်မျိုးသာတည်း
၁၀။ ဥပသဂ္ဂံ=တွယ်တာစွဲကပ် နှိပ်စက်တတ်သော ဥပဒ်မျိုးသာတည်း
၁၁။ အတာဏံ=စောင့်ရှောက်မဲ့လျှင်း ဘေး၏အသင်းသာတည်း
၁၂။ အလေဏံ=ကွယ်ကာမဲ့လျှင်း ဘေး၏အသင်းသာတည်း
၁၃။ အသရဏံ=ကိုးရာမဲ့လျှင်း ဘေး၏ အသင်းသာတည်း
၁၄။ ဝဓံ=သမ္မုတိသစ္စာ လျော်စွာပညတ် ခေါ်ဝေါ်အပ်သည့် လူ+နတ်+ဗြဟ္မာ သတ္တဝါကို သုံးဖြာခဏ ဘင်သို့ကျအောင်ကာလ မရှည် သန္တာန်စည်၍ နာရီမလပ်အတွင်သတ်သည့် သူသတ်မျိုးရိုးသာတည်း
၁၅။ အဃမူလံ=ကျိုးမဲ့ခပင်း ဆင်းရဲခြင်း၏ အရင်းအမြစ်သာတည်း
၁၆။ အာဒီနဝံ=ဆိုးဝါးညစ်ကျူ အပြစ်စုသာတည်း
၁၇။ သာသဝံ=အာသဝေါတရား လေးပါးတို့၏ အစီးအပွား သာတည်း

၁၈။ မာရအာမိသံ=ကိလေသမာရ် မစ္စုမာရ်တို့၏ စားဖပ် ဝါးဖပ် သုံးသပ် နင်းနယ်ရာသာတည်း
၁၉။ ဇာတိ=လောကသုံးခွင် ဘုံအပြင်၌ ခေါ်တွင်ပေါ်လာ သတ္တဝါဟု မညာမငဲ့အရွဲ့အစောင်း မကောင်းဆိုးညစ် ဖြစ်ချင်တိုင်း ဖြစ်တတ်သော သဘောရှိ၏
၂၀။ ဇရံ=ဆုတ်ယုတ်လျော့ပါးခြင်း သဘောရှိ၏
၂၁။ ဗျာဓိ=ဖျားနာခြင်း သဘောရှိ၏
၂၂။ သောကံ=စိုးရိမ်ပူပန်ခြင်း သဘောရှိ၏
၂၃။ ပရိဒေဝံ=ငိုကြွေးမြည်တမ်းရခြင်း သဘောရှိ၏
၂၄။ ဥပါယာသံ=သက်ကြီး ရှိုက်ငင်ပင်ပန်းရခြင်း သဘောရှိ၏။
၂၅။ သံကိလေသ သဘာစကံ=တဏှာ+ဒိဋ္ဌိ ဒုစ္စရိတ တည်းဟူသော ညစ်နွမ်းခြင်းသုံးပါးကို ပွားစီးစေတတ်သော သဘောရှိ၏။ ဒုက္ခံ=ဒုက္ခလက္ခဏာ နှစ်ဆယ့်ငါးပါးတည်း။

(အနတ္တ လက္ခဏာပြ ဂါထာ)

**အနတ္တာ စ ပရံ ရိတ္တံ**
**တုစ္ဆံ ပုည+ တ္တိ တာလိသံ။**
**ဝေဒနာဒယော ခန္ဓာပိ**
**တထေဝ ပဉ္စကာပိ ဝါ။**

စ = အနိစ္စ + ဒုက္ခသာ ဖြစ်သည် မဟုတ်သေး။ ရူပံ = ရူပက္ခန္ဓာသည်
၁။ အနတ္တာ=ကိုယ်မဟုတ်
၂။ ပရံ=အကျွမ်းဝင်ခြင်း အမြဲကင်းသော သူစိမ်းပြင်ပသာတည်း။
၃။ ရိတ္တံ=အနှစ်သာရ ဟူသမျှနှင့် မြူမျှမယှဉ် အစဉ်ဆိတ်ကင်းသော တရားသာတည်း
၄။ တုစ္ဆံ=ကောင်းမြတ်ချမ်းသာ မင်္ဂလာသုခ ဟူသမျှနှင့် မြူစမနီး အချည်းနှီးသော တရားသာတည်း

၅။ သုညံ=ထောက်ရာ,တည်ရာ ကိုးကွယ်ရာမျိုး တစိုးတစိ မရှိလုံးလုံး အသုံးမကျသော တရားသာတည်း။

အနတ္တာ=အနတ္တလက္ခဏာ ငါးပါးတည်း။ ဣတိ=ဤသို့။ တာလီသံ=လေးဆယ်သော အခြင်းအရာရှိ၏။ ဝေဒနာဒယော=ဝေဒနာအစရှိကုန်သော။ ခန္ဓာပိ=နာမ်ခန္ဓာတို့သည်လည်း။ တထေဝ=ထိုရူပက္ခန္ဓာ အတူသာလျှင်။ တာလီသံ=အခြင်းအရာ လေးဆယ်စီချည်း ရှိကြကုန်၏။ ဝါ=အစိတ်မှတပါး အပေါင်းတနည်းကား။ ပဉ္စကာပိ=ခန္ဓာ ငါးပါး လုံးတို့သည်လည်း၊ တထေဝ-တထာဝေ=ထို့အတူသာလျှင်။ တာလီသံ=လေးဆယ်သော အခြင်းအရာ ရှိကုန်၏။

ကြွင်းသော နာမ်ခန္ဓာ လေးပါးတို့၌လည်း

ဝေဒနာ အနိစ္စာ ပလောကာ စလာ ပဘင်္ဂု အဒ္ဓုဝါ
သညာ အနိစ္စာ ပလောကာ စလာ ပဘင်္ဂု အဒ္ဓုဝါ
သင်္ခါရာ အနိစ္စာ ပလောကာ စလာ ပဘင်္ဂု အဒ္ဓုဝါ
ဝိညာဏံ အနိစ္စံ ပလောကံ စလံ ပဘင်္ဂု အဒ္ဓုဝံ

စသည်ဖြင့် သုံးသပ် ဆင်ခြင်ရာ၏။ ယင်းလေးဆယ်တို့ကို ခန္ဓာ ငါးပါးတို့ဖြင့် မြှောက်သော် အနိစ္စာနုပဿနာ ၅၀+ဒုက္ခာနုပဿနာ ၁၂၅+အနတ္တာနုပဿနာ ၂၅ အားဖြင့်=သမ္မသန ၂၀၀ ဖြစ်၏။

## သမ္မသနအကျိုးပြဂါထာ

**စတ္တာလီသာယာ+ကာရေဟိ**
**ပဉ္စက္ခန္ဓေ သ သမ္မသံ။**
**လာဘိ+နုလောမိကံခန္တိ**
**သမ္မတ္တနိယမံ ကမေ။**

စတ္တာလီသာရ=လေးဆယ် အတိုင်းအရှည်ရှိသော။ အာကာရေဟိ=အခြင်းအရာတို့ဖြင့်။ ပဉ္စက္ခန္ဓေ=ခန္ဓာ ငါးပါးတို့ကို။ သမ္မသံ-သမ္မသန္တော=သုံးသပ် ဆင်ခြင်သော။ သ-သော=ထိုယောဂီပုဂ္ဂိုလ်သည်၊ အနုလောမိကံ=အရိယမဂ်ကို ရခြင်း အားလျော်သော။ ခန္တိံ= အာရုံသဘော ဝင်

လျော့ပိုင်းခြားခန့်ညားသည်းခံသောဝိပဿနာဉာဏ်ကို။လာဘီ=ရသည်။ ဟောတိ=ဖြစ်၏။ သမ္မတ္တနိယာမံ=မဖောက်မပြန်သော သဘောရှိ၍ မြဲမြံသော အရိယမဂ်သို့။ ကမေ-သြက္ကမတိ=သက်ဝင်၏။

**ဘာဝနာလေးဆယ် ပြီး၏။**



## ဤခေတ် ၆ ပါး သိမ်းဆည်းပုံကျမ်းနှင့်

နောက်ဆက်တွဲ ပစ္ဆိမ ဓမ္မကထာများကို ဖတ်ရှု လေ့လာ ပွားများနှလုံးသွင်းကြကုန်သော သူတော်စင် အပေါင်းတို့သည် ဖော်ပြလတ္တံ့သော'အရဏဝိဟာရ=ကိလေသာကင်းကွာချမ်းသာစွာနေနိုင်ကြောင်း' တရား ခြောက်ပါး+နာထ တရားဆယ်ပါး+နှင့် ထိန+မိဒ္ဓ ပယ်ဖျောက်ကြောင်းတရား ခုနစ်ပါးတို့ကို လက်ကိုင်ထားကြလျက် မဂ်+ဖိုလ်တိုင်ရောက် ပြီးမြောက်အောင် ကျင့်ကြံ ကြိုးကုတ် အားထုတ်နိုင်ကြပါစေသော်။

### အရဏဝိဟာရ=ကိလေသာကင်းကွာ
### ချမ်းသာစွာနေနိုင်ကြောင်းတရား ၆-ပါး

၁။ အယုတ်နှစ်ပါး။ မလိုက်စား၊ လမ်းသွားမဇ္ဈိမ။

၂။ မမြှောက်မစား၊ မနှိမ်ငြား၊ တရားဟောဖော်ပြ။

၃။ သုခနှစ်ပါး၊ ဉာဏ်ပိုင်းခြား၊ ပွားများအဇ္ဈတ္တ။

၄။ မျက်မှောက်မျက်ကွယ်၊ ဤနှစ်သွယ်၊ ဆိုဖွယ် သိတတ်လှ။

၅၊ မလျှင်မဆော၊ စကားပြော၊ ပြေချောမွေ့သိမ်စွ။

၆။ အရပ်စကား၊ မလွန်ငြား၊ ခြောက်ပါး အရဏ။

## အစိပ္ပါယ်မှာ

(က) အယုတ်တရားနှစ်ပါး မလိုက်စားပဲ၊ မဇ္ဈိမပဋိပဒါလမ်းသို့ လိုက်ပါခြင်း။

(ခ) ပုဂ္ဂလဓိဋ္ဌာန်နည်းဖြင့် ပုဂ္ဂိုလ်ကို ဦးတည်၍ စကားပြော တရားဟောလျှင် **"ချီးမွမ်းအပ်သည့် ပုဂ္ဂိုလ်ဖြစ်သည်"** ဟု ပြောဟောက **"မြှောက်စားခြင်း"** မည်၏၊ **"ကဲ့ရဲ့အပ်သည့် ပုဂ္ဂိုလ်ဖြစ်သည်"** ဟု ပြောဟောက **"သူ့ကိုနှိမ်ခြင်း"** မည်လေသည်။ ထိုသို့မြှောက်စားခြင်း, နှိမ်ခြင်းကို အလျှင်းမပြုပဲ ဓမ္မဓိဋ္ဌာန် နည်းအားဖြင့် တရားသဘောကိုသာ ညွှန်ပြ၍ ချီးမွမ်းအပ်သောတရားဖြစ်သည်။ ကဲ့ရဲ့အပ်သောတရားဖြစ်သည်ဟုသာ ဟောပြောခြင်း။

(ဂ) သူတော်တရား=သမထ+ဝိပဿနာဘာဝနာတရား အားထုတ်၍ ရရှိသော အဇ္ဈတ္တသုခ၊ အပြင်အပ ဗဟိဒ္ဓ အာရုံငါးပါးကို အကြောင်းပြု၍ ရရှိသော ဗဟိဒ္ဓသုခ ဟု သုခနှစ်ပါးကို ခွဲခြား သိမြင်ပြီးလျှင် အဇ္ဈတ္တသုခကိုသာ ပွားများခြင်း။

(ဃ) ပုဂ္ဂိုလ်တဦးဦး၏ အကြောင်းကို မျက်မှောက်မျက်ကွယ် နှစ်နေရာလုံးမှာပင် မှန်ကန်၍အကျိုးရှိမှ ပြောဆိုခြင်း၊

(င) စကားပြော တရားဟောသောအခါ မလျင်မဆော ချောပြေစွာ ပြောဟောခြင်း။

(စ) အရပ် တပါးသို့ ရောက်သွားသော်၊ ထို အရပ်၌ သုံး စွဲ သည့် ဝေါဟာရ စကားများနှင့်စပ်၍ (မိမိ၏ အရပ်သုံး ဝေါဟာရနှင့် မတူ ကွဲပြားသော်လည်း) ငြင်းခုံ လွန်ဆန်မှု မပြုခြင်း။

**ဤကား (ဥပရိပဏ္ဏာသ ပါဠိတော် အရဏ ဝိဘင်္ဂ သုတ်လာ) အစိပ္ပါယ်တည်း။**

**အရှင်သုဘူတိ မထေရ်တည်း**

၁။ (ဤတရား ၆ ပါးကို ကျင့်သုံးတော်မူ၏) ထိုအကျင့် အပြင်
၂။ (ဤနည်း ပြုသည် ရှိသော် အလှူဒါယကာတို့အဖို့ အထူး သဖြင့် အကျိုးကြီးမြတ်မှု ဖြစ်ပေလိမ့်မည်ဟု ဆင်ခြင်ကာ) မေတ္တာစျာန်ကို ဝင်စား၍ ထို မေတ္တာစျာန်မှ ထပြီးသော် ဆွမ်းကို အလှူခံလေ့ရှိ၏။

ထိုကြောင့်

(က) အရဏဝိဟာရီ ဧတဒဂ် = ကိလေသာ ကင်းကွာ ချမ်းသာစွာ နေထိုင်သူ။
(ခ) မေတ္တာဝိဟာရီ ဧတဒဂ် = မေတ္တာစျာန်ဖြင့် နေလေ့ ရှိသူအဖြစ် ဧတဒဂ် နှစ်ဆင့် ရတော်မူသည်။

(တနည်းအားဖြင့် ဆိုရသော်)
ချမ်းသာစွာ နေလေ့ရှိသူ=အရဏဝိဟာရီ၊
မေတ္တာစျာန် ဝင်စားလေ့ ရှိသူ = မေတ္တာဝိဟာရီ ပုဂ္ဂိုလ်မြတ် ဖြစ်သည်။

(သူတော်စင်အပေါင်းတို့ အတုယူကာ ကျင့်သုံးထိုက်ပါသည်။)

(အင်္ဂုတ္တရ နိကာယ ဒသက နိပါတ်တော်လာ)

**နာထတရား မှီခိုအားထားရာ တရားဆယ်ပါး**

သီလဂရု၊ ဗဟုသုတ၊ သုမိတ္တဝါ၊ သုဝစာ၊ လိမ်မာထိုထိုမှု။
ဓမ္မကာမ၊ အာရဒ္ဓဝိ၊ သန္တုဋ္ဌိနှင့်၊ သတိနေပက်၊ ပညာထက်။
ဆယ်ချက်နာထစု။

၁။ **သီလဂရု** =သီလကို အလေးပြု စောင့်ထိန်းခြင်း၊
၂။ **ဗဟုသုတ** =သီလ, သမာဓိ, ပညာနှင့် စပ်သော တရားစကားကို များစွာ ကြားနာခြင်း။

၃။ သုမိတ္တဝါ =သဒ္ဓါ,သီလ,သုတ,စာဂ,ပညာ,တရားတို့နှင့် ပြည့်စုံသည့် မိတ်ဆွေကောင်းကို ပေါင်းသင်းလေ့ ရှိခြင်း။

၄။ သုဝစာ =ပညာရှိ သူတော်ကောင်းတို့က ဆိုဆုံးမလျှင် ဆန့်ကျင်ဘက် မပြောဆိုပဲ ရိုသေစွာ နာယူခြင်း။

၅။ လိမ်မာထိုထိုမှု=တရားကျင့်ဖော်ကျင့်ဘက်တို့၏အမှုကိုစွမ်းတို့၌ ခြေလုံ့လ ဝီရိယရှိရှိ ကျွမ်းကျင်လိမ်မာစွာ ကူညီ ဆောင်ရွက်ခြင်း။

၆။ ဓမ္မကာမ =သူတော်ကောင်း တရားတို့ကို အလိုရှိခြင်း၊ တရားတော်ကို လိုလိုချင်ချင် နာယူ ပြောဆိုလေ့ ရှိခြင်း။

၇။ အာရဒ္ဓဝီ =အကုသိုလ် တရားတို့ကို ပယ်ရှားဖို့ရန် ကုသိုလ်တရားတို့၌ လုံ့လဝီရိယရှိရှိ အားထုတ်ခြင်း။

၈။ သန္တုဋ္ဌိနှင့် =မိမိ၌ ထင်ရှားရှိသော ပစ္စည်းများဖြင့်သာ တင်းတိမ်ရောင့်ရဲ ကျေနပ်ခြင်း၊ မိမိ၌ မရှိသည့် ပစ္စည်းများကို မလိုလား မတောင့်တခြင်း။

၉။ သတိနေပက်=ကာယ,ဝေဒနာ,စိတ္တ, ဓမ္မလေးဌာနတို့၌ရင့်ကျက်ထက်သန်သည့် ပညာ ပါရှိသောသတိနှင့် ပြည့်စုံခြင်း။

၁၀။ ပညာထက် =ခန္ဓာငါးပါး ရုပ်နာမ်တရားတို့၏ အဖြစ် အပျက်ကိုသိမြင်ဆင်ခြင်တတ်သော ဉာဏ်ပညာနှင့်ပြည့်စုံခြင်း။

ဆယ်ချက်နာထ စု =ဤတရားဆယ်ပါးကို နာထတရား ဆယ်ပါး၊ နိဗ္ဗာန်ကိုရရှိရန် စိတ်ချယုံကြည်စွာအား ကိုးပြုရသည့်တရားဆယ်ပါးဟူ၍ခေါ်သည်။

**(ဤတရားဆယ်ပါးသည် အင်္ဂုတ္တိုရ်ပါဠိတော်တရားဆယ်မျိုးတို့ကိုဖော်ပြသည့် ဒသကနိပါတ်၌ မြတ်စွာဘုရားသည် ဟောကြားတော်မူအပ်သတည်း)။**

**ထိနမိဒ္ဓ-(ငိုက်မျည်းခြင်း) ပယ်ဖျောက်ကြောင်းတရား**
**ခုနစ်ပါး လက်ာ**

**ပယ်ဖျောက်သညာ၊ စာနှုလုံးသွင်း၊ စာအံလျှင်းတည့်၊ နားပျဉ်းကိုယ်သိပ်၊ အရပ်ရှုမြှော်၊အာလောကပွား၊ စင်္ကြံသွား၊ ခုနစ်ပါး ငိုက်မျည်းပျောက်ကြောင်းတည်း။**

၁။ **ပယ်ဖျောက်သညာ** (တရား နှလုံးသွင်းရင်း ငိုက်မျည်းလာလျှင် မှုလနှလုံးသွင်းရင်း သညာကို နှလုံးမသွင်းရ၊ ဥပမာ–အနိစ္စသညာကို နှလုံးသွင်းရင်း ငိုက်မျည်းလာလျှင် ထိုအနိစ္စသညာ နှလုံးသွင်းမှုကို ခေတ္တရပ်ဆိုင်းထားရမည်။

၂။ **စာနှုလုံးသွင်း** (ဤနည်းဖြင့်မှ မရလျှင် မိမိသင်ကြားလေ့လာထားသော ပရိယတ်စာပေများကို စိတ်ဖြင့် အဖန်ဖန် ကြံစည်နှလုံးသွင်းရမည်။ မိမိနှုတ်တက် ရရှိထားသော ဓမ္မစကြာ, အနတ္တလက္ခဏာသုတ် စသည်ကို စိတ်ဖြင့်ကြံစည်ရမည်)

၃။ **စာအံလျှင်းတည့်** (ဤနည်းဖြင့်မှ မရလျှင် မိမိသင်ကြား လေ့လာထားသော ပရိယတ် စာပေများကို အကျယ်နှုတ်မြွက်၍ ရွတ်အံရမည်)

၄။ **နားပျဉ်းကိုယ်သပ်** (ဤနည်းဖြင့်မှ မရလျှင် မိမိနားပျဉ်း နားရွက်ကို လက်ဖြင့် ဆွဲရမည်။ ကိုယ်ကို လက်ဖြင့် အဖန်ဖန်ပွတ်သပ်ပေးရမည်)

၅။ **အရပ်ရှုမြှော်** (ဤနည်းဖြင့် မရလျှင် နေရာမှထ၍မျက်နှာသစ်ပြီးလျှင် အရပ်မျက်နှာ နက္ခတ်ကြယ်တာရာတို့ကိုကြည့်ရှုရမည်)

၆။ **အာလောကပွား** (ဤနည်းဖြင့်မှ မရလျှင် အာလောကသညာကိုပွားများရမည်၊နေ့အခါဖြစ်လျှင် နေရောင်

ရှု၍,ညဥ့်အခါဖြစ်လျှင် လ–ရောင်ကိုရှု၍ (လ–မရှိလျှင်) ဆီမီးရောင်စသည်ကိုရှု၍ "အာလောကော၊ အာလောကော–အလင်းရောင်၊ အလင်းရောင်"ဟူ၍ အဖန်ဖန် ရွတ်ပွားနှလုံးထားရမည်)

**၇။ စင်္ကြံသွား** (ဤနည်းဖြင့်မှမရလျှင် ဣန္ဒြေတို့ကိုချုပ်တည်း။ စိတ်ကိုလည်း ကိုယ်တွင်း၌သာ ထားကာ လူးလာတုံ့ခေါက် စင်္ကြံလျှောက်ရမည်)

**ခုနစ်ပါး ငိုက်မျဉ်း ပျောက်ကြောင်းတည်း** (ဤခုနစ်ပါးသော နည်းအဆင့်ဆင့်ဖြင့် ငိုက်မျဉ်းခြင်းကို ပယ်ဖျောက်၍ မရလျှင် ကရဇခေါ်ဆို ဤရုပ်ကိုယ်မှာ ပင်ပန်းလှပြီဖြစ်၍ အနားပေးရန် အချိန်တန်ရကား လက်ျာနံတောင်းဖြင့် လျောင်းကာ၊ လက်ဝဲခြေကို လက်ျာခြေ၏ ရှေ့သို့ အနည်းငယ်လွန်စေ၍ သတိသမ္ပဇဉ် လက်မလွှတ်ပဲ "ဤမည်သောအချိန်ကျလျှင် ငါထမည်"ဟူသော အမှတ်ကို နှလုံးသွင်း၍ ခြင်္သေ့မင်းပမာ တည်ကြည်စွာ အိပ်စက်ရမည်။ အိပ်ရာမှနိုးလျှင် နိုးခြင်း"စင်း၍နေသောချမ်းသာ,စောင်း၍နေသော ချမ်းသာ, ငိုက်မျဉ်း၍နေသော ချမ်းသာတို့ကို ငါ မခံစားဘူးတဲ့" ဟု စိတ်ကို တင်းလျက် လျင်မြန်စွာ ထရမည်၊)

**ဤကား** သတ္တကနိပါတ် အင်္ဂုတ္တိုရ်ပစလာယမာနသုတ်လာ ငိုက်မျဉ်းခြင်း ပယ်ဖျောက်ကြောင်းတရား ခုနစ်ပါးတည်း၊

**ရှိသေစွာ လိုက်နာဖြည့်ကျင့်နိုင်ကြပါစေကုန်သတည်း။**

## အဓိပ္ပာယ်ရှင်းလင်းချက်များကဏ္ဍ

### သွား၊ ရပ်၊ ထိုင်၊ လျောင်း (ဣရိယာပထ) စသည်တို့၏ အဓိပ္ပာယ်တို့ကို ရှင်းလင်းဖော်ပြခြင်း

**စရံ ဝါ ယဒိ ဝါ တိဋ္ဌံ၊ နိသိန္နော ဥဒ ဝါ သယံ။**
**သမိဉ္ဇေတိ ပသာရေတိ၊ ဧသာ ကာယဿ ဣဉ္ဇနာ။**

စသည်ဖြင့် (သုတ္တနိပါတ် အဋ္ဌကထာ၊ ပထမအုပ် စာမျက်နှာ ၂၃၅၊ ၁၁-ဥရဂဝဂ်၊ ၁၁-ဝိဇယသုတ် အဖွင့်၌ လာရှိသည်)။

စရံ ဝါ=သွားလည်း သွား၏။ ယဒိ=ထိုမျှ။ တိဋ္ဌံ ဝါ=ရပ်လည်း ရပ်တည်၏။ နိသိန္နော ဝါ=ထိုင်လည်း ထိုင်နေ၏။ ဥဒ=ထိုမျှ။ သယံ ဝါ=လျောင်းလည်း လျောင်းစက်၏၊ သမိဉ္ဇေတိ=ထိုထို အဆစ်တို့ကို ကွေးလည်းကွေးညွတ်၏၊ ပသာရေတိ=ဆန့်လည်း ဆန့်တန်း၏။ ဧသာ=ဤသွား, ရပ်, ထိုင်, လျောင်း,ရှေ့,နောင်း,တက်, ဆုတ်, ကွေးရပ်, ဆန့်တန်းမှု အစုစုအဖုဖု အမူအရာအလုံးစုံသည်။ကာယဿ=ကိုယ်ခန္ဓာ၏၊ ဣဉ္ဇနာ=လှုပ်ရှားမှုသာတည်း။

### ဤဂါထာဖြင့် ဤဆိုလတ္တံ့သော အနက်အဓိပ္ပာယ်ကို ဖော်ပြသည်။

ဤကိုယ်ခန္ဓာ၌ အခြားတပါးသော တစုံတယောက်သော သွားတတ်သူ ပုဂ္ဂိုလ်သတ္တဝါ,ရပ်တတ်သူ ပုဂ္ဂိုလ်သတ္တဝါ, ထိုင်တတ်သူပုဂ္ဂိုလ်သတ္တဝါ, လျောင်းတတ်သူ ပုဂ္ဂိုလ်သတ္တဝါ, ရှေး, နှောင်း, တက်,ဆုတ် ကွေးရပ်,ဆန့်စာန်းတတ်သူ ပုဂ္ဂိုလ်သတ္တဝါဟူ၍မရှိ၊ စင်စစ်သော်ကား

(က) သွားလို ရပ်လို၊ ထိုင်နေလို၊ အိပ်လိုစိတ်ဟုသိ။

(ခ) စိတ်ကြောင့်ဖြစ်သော၊ ဓာတ်ဝါယော၊ နှံ့နှော ကိုယ်ဝယ် ပြည့်။

(ဂ) ဝါယောပြည့်သော်၊ ဝိညတ်ပေါ် (ရုပ်သစ်ပေါ်)၊ ရုပ်သော် သွားလာ၏ (သွားပေ၏)၊

(ဃ) ပုဂ္ဂိုလ်မသွား၊ ငါမသွား၊ ရုပ်သွားဉာဏ်ဖြင့်ကြည့် (ဉာဏ်ဖြင့်သိ)။

(င) ပုဂ္ဂိုလ်မရပ်၊ ငါမရပ်၊ ရုပ်ရပ်ဉာဏ်ဖြင့်သိ၊

(စ) ပုဂ္ဂိုလ်မထိုင်၊ ငါမထိုင်၊ ရုပ်ထိုင်ဉာဏ်ဖြင့်သိ။

(ဆ) ပုဂ္ဂိုလ်မအိပ်၊ ငါမအိပ်၊ ရုပ်အိပ်ဉာဏ်ဖြင့်သိ။

(ဇ) ပုဂ္ဂိုလ်မကွေး၊ ငါမကွေး၊ ရုပ်ကွေးဉာဏ်ဖြင့်သိ။

(ဈ) ပုဂ္ဂိုလ်မဆန့်၊ ငါမဆန့်၊ ရုပ်ဆန့်ဉာဏ်ဖြင့်သိ။

ဟူသောအတိုင်း

၁။ သွားလိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံး၌ ပြန့်နှံ့လေသည်၊ ထိုသို့ ဝါယောဓာတ် တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ သွားလိုရာအရပ်သို့ ရှေ့ရှုဆောင်ခြင်းသည်ဖြစ်၏။ သွားလိုရာအရပ်တပါးဘက်၌ သွားသောအမူအရာအားဖြင့် ရုပ်ထူးတို့ ထင်ရှားဖြစ်ပေါ်လာကြ၏ဟု ဆိုလိုသည်။ထိုသို့ ရုပ်အဆက်ဆက်တို့၏ သွားသောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြသည်ကိုပင်) "သွား၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

၂။ ထို့အတူ ရပ်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ ပြန့်နှံ့လေသည်၊ ထိုသို့ ဝါယောဓာတ် တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ မတ်မတ်စိုက်ထောင်ခြင်းသည်ဖြစ်၏၊ အထက်-အထက်ဌာနဖြင့် ရုပ်အထူးတို့၏ အဆင့်ဆင့်ဖြစ်ပေါ်ခြင်းဖြစ်သည်ဟုဆိုလိုသည်။ထိုသို့ ရုပ်အဆက်ဆက်တို့ အောက်နှင့်အထက် အဆင့်ဆင့် ရပ်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင်(ဝါ-ဖြစ်သည်ကိုပင်)"ရပ်၏" ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

၃၊ ထို့အတူ ထိုင်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ပြန့်နှံ့လေသည်။ ထိုသို့ ဝါယော

ဓာတ်တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ အောက်ပိုင်းက ကွေးသောအမူအရာ အထက်ပိုင်းက စိုက်မတ်ထောင်သော အမူအရာ ဖြစ်ပေါ်လာ၏။ အောက်ပိုင်း ကိုယ်ကာယက ကွေးသောအမူအရာ အထက်ပိုင်းကိုယ်ကာယက စိုက်ထောင်သော အမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှားဖြစ်ပေါ်ကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ထိုင်သောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြသည်ကိုပင်) "ထိုင်၏" ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

၄။ ထို့အတူ လျောင်းလို အိပ်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ ပြန့်နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ ဖီလာကန့်လန့် ဆန့်သော အခြင်းအရာ ဖြစ်ပေါ်လာ၏။ ဖီလာကန့်လန့် ဆန့်သော အမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှားဖြစ်ပေါ်ကြသည်ဟု ဆိုလိုသည်၊ ထိုသို့ ရုပ်အထူးတို့ ဖီလာကန့်လန့် ဆန့်သောအမူအရာ=လျောင်းအိပ်သောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင်(ဝါ-ဖြစ်ကြသည်ကိုပင်) "လျောင်း၏=အိပ်၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ် လေသည်။

ထို့အတူ "ကွေး၏, ဆန့်၏"ဟု ဆိုရာ၌လည်း ကွေးလို, ဆန့်လိုသော စိတ်ဖြစ်လတ်သော် ထိုစိတ်ကြောင့် ဖြစ်သော ဝါယောဓာတ်သည် ထိုထိုအဆစ်တို့သို့ ပြန့်နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် ပြန့်နှံ့ခြင်းကြောင့် အဆစ်တို့၏ ကွေးသောအမူအရာ, ဆန့်သောအမူအရာ ဖြစ်ပေါ်လာလေသည်။ ကွေးသောအမူအရာ, ဆန့်သောအမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှား ဖြစ်ပေါ်ကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ကွေးသောအမူအရာ, ဆန့်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင်(ဝါ-ဖြစ်ကြသည်ကိုပင်) "ကွေး၏,ဆန့်၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ် လေသည်။

ထို့ကြောင့် ဖော်ပြရာပါ လောကပညတ် ခေါ်ဆိုအပ်သည့် သွားမှု, ရပ်မှု,ထိုင်မှု,လျောင်းမှု=အိပ်မှု,ကွေးမှု,ဆန့်မှု အမူအရာ အစုစုသည် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာ ဖြစ်၏=ထိုထို အမူအရာဖြင့် ရုပ်တရား အထူးတို့ ထင်ရှားဖြစ်ပေါ်မှုသာ ဖြစ်၏ဟု ဆိုလိုသည်။ ဤခန္ဓာကိုယ်၌ အခြား

တပါး တစုံတယောက် သွားတတ်, ရပ်တတ်, ထိုင်တတ်, လျောင်းတတ်= အိပ်တတ်, ကွေးတတ်, ဆန့်တတ်သော ပုဂ္ဂိုလ်သတ္တဝါ အတ္တဇီဝဟူ၍ မရှိ။ ဤကိုယ်ခန္ဓာသည် တစုံတယောက် သွားတတ်သော ပုဂ္ဂိုလ်သတ္တဝါ, ရပ်တတ်သော, ထိုင်တတ်သော, လျောင်းတတ်=အိပ်တတ်သော, ကွေး တတ်သော ပုဂ္ဂိုလ်သတ္တဝါ, ဆန့်တတ်သော ပုဂ္ဂိုလ်သတ္တဝါ အတ္တဇီဝမှ ဆိတ်သုဉ်း၏။ စင်စစ်သော်ကား

**စိတ္တနာနတ္တမာဂမ္မ၊ နာနတ္တံ ဟောတိ ဝါယုနော။**
**ဝါယုနာနတ္တတော နာနာ၊ ဟောတိ ကာယဿ ဣဉ္ဇနာ။**

စိတ်ထူးခြားမှုကို အစွဲပြု၍ ဝါယောဓာတ်၏ ထူးခြားမှုသည် ဖြစ်၏။ ဝါယောဓာတ် ထူးခြားမှုကြောင့် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှု အထူးထူး အထွေထွေ ဖြစ်ပေါ်လေသည်။ ။ဤကား ဤဂါထာ၌ ပရမတ္ထသဘော အနက် အဓိပ္ပာယ်တည်း။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် ဤဂါထာဖြင့် အနိစ္စလက္ခဏာ, ဒုက္ခ လက္ခဏာ, အနတ္တ လက္ခဏာ = သုံးပါးကို ထင်ရှား ပြတော်မူ၏။ ပြတော်မူပုံမှာ

သွား, ရပ်, ထိုင်, လျောင်း=ဣရိယာပုထ်လေးပါးတို့အနက် တခုသော ဣရိယာပုထ်၌ ကြာမြင့်စွာ နေသဖြင့် ကိုယ်ဆင်းရဲ နာကျင်မှုသည် ဖြစ် ပေါ်လာ၏။ ထိုကိုယ်ဆင်းရဲနာကျင်မှုကို ပယ်ဖျောက်ရန် အခြား ဣရိ ယာပုထ်တပါးသို့ ပြောင်းလဲမှုကို ပြုရတော့၏။ (ကိုယ်ဆင်းရဲ နာကျင်မှု= ဒုက္ခသဘောလက္ခဏာကို ဣရိယာပုထ်ဖြင့် ဖုံးထားအပ်လေသည်။ ဝါ- ဒုက္ခသဘောလက္ခဏာ မပေါ်နိုင်အောင် အခြား ဣရိယာပုထ် တပါး ပါးဖြင့် ပြောင်းလဲဖုံးအုပ်၍ ထားလေသည်။ ထို့ကြောင့် **"ဒုက္ခလက္ခဏာ ကို ဣရိယာပုထ် ဖုံးအုပ်သည်"**ဟု ပညာရှိတို့ မိန့်ဆိုတော် မူကြသည်)။ သို့ရကား "စရံ ဝါ ယဒိ ဝါ တိဋ္ဌံ" စသော ဂါထာသုံးပိုဒ်ဖြင့် ဣရိယာ ပုထ် တမျိုးတမျိုး ပြောင်းလဲဖုံးအုပ်၍ ထားအပ်သော ဒုက္ခလက္ခဏာကို ပြတော်မူ၏။ (ကိုယ်ဆင်းရဲ သောကြောင့် ဣရိယာပုထ် အမျိုးမျိုး ပြောင်းလဲရသည်။ သို့ရကား-ဣရိယာပုထ် အမျိုးမျိုး ပြောင်းလဲရမှု

တည်းဟူသော အကျိုးကို ဖော်ပြသဖြင့် အကြောင်း ဖြစ်သည့် ကိုယ်ဆင်းရဲမှု=ဒုက္ခလက္ခဏာကို သိရလေသည်)။

ထို့အတူ သွားသောအခါ၌ ရပ်ခြင်း စသည်တို့ မရှိသောကြောင့် "သောကာယဿ ဣရိယာ=ဤသွား, ရပ်, ထိုင်, လျောင်း, ရှေ့နှောင်းတက်,ဆုတ်, ကွေးရပ်,ဆန့်တန်းမှု အစုစု အဖုံဖုံ အမူအရာ အလုံးစုံသည် ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာတည်း"ဟု ဟောတော်မူသော မြတ်စွာဘုရားရှင်သည် သန္တတိဖြင့် ဖုံးလွှမ်းအပ်သော အနိစ္စလက္ခဏာကို ပြတော်မူ၏။

ထင်ရှားစေဦးအံ့။ ရုပ်နာမ်တရားတို့၏ အဆက်မပြတ် ဖြစ်ပွားနေမှုကို သန္တတိ ဟူ၍ ခေါ်ဆိုသည်။ ယင်းသို့ ရုပ်နာမ်တို့၏ အဆက်မပြတ် ဖြစ်ပွားနေမှု = သန္တတိကြောင့် ထိုရုပ်နာမ်တရားတို့၏ သူ့ခဏနှင့်သူ ချုပ်ပျောက်ပျက်ဆုံး၍ သွားမှုတည်းဟူသော=အနိစ္စလက္ခဏာကို မမြင်ရခြင်းဖြစ်သည်။

ထိုအကြောင်းကို အစွဲပြု၍ **"အနိစ္စလက္ခဏာကို သန္တတိ ဖုံးအုပ်ထားသည်"**ဟု ပညာရှိတို့ မိန့်ဆိုတော် မူကြသည်။ "သောကာယဿ ဣရိယာ=ဤသွား,ရပ်,ထိုင်,လျောင်း,ရှေ့,နှောင်းတက်,ဆုတ်, ကွေးရပ်, ဆန့်တန်းမှု အစုစု အဖုံဖုံ အမူအရာအလုံးစုံသည်ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာတည်း"ဟု ဟောတော်မူလိုက်ခြင်းဖြင့်

ဣရိယာပုထ်အမူအရာတခုတခု၌ သဟောတူသောနာမ်ရုပ်တစုတစုတို့ အဆက်မပြတ် ဖြစ်ပေါ်နေကြသည်။ ဣရိယာပုထ်တပါးအမူအရာတပါးပြောင်းလဲသွားသောအခါ ထိုနာမ်ရုပ် တရားတို့သည် အစုလိုက် အစုလိုက်ပင် ပြောင်းလဲ၍ သွားကြသည်= ချုပ်ပျောက်၍ သွားကြသည်" ဟူသော အနက်အဓိပ္ပာယ်ကို သိစေဟော်မူ၏။ ထို့ကြောင့် ထိုနောက်ဆုံး စတုတ္ထပိုဒ်ဖြင့် သန္တတိဖြင့် ဖုံးလွှမ်းထားသည့် အနိစ္စ လက္ခဏာကို မြတ်စွာဘုရား ထင်ရှားပြတော်မူသည်ဟု အဓိပ္ပာယ်ကို သိရလေသည်။

ရှေး၌ဆိုအပ်ပြီးသည့်အတိုင်း ပရမတ္ထသဘာဝစင်စစ်အားဖြင့် သွားလို, ရပ်လို, ထိုင်လို, လျောင်းလိုသောစိတ်ကြောင့် စိတ္တဇဝါယောဓာတ်ဖြစ်သည်။ ထိုဝါယောဓာတ် တကိုယ်လုံးပြန့်နှံ့သောကြောင့် သွားသော

အမူအရာ, ရပ်သောအမူအရာ, ထိုင်သောအမူအရာ, လျောင်းသောအမူအရာဖြင့် ရုပ်အထူးတို့ဖြစ်ကြသည်။ ထိုသို့ ဖြစ်ကြသည်ကိုပင် လောကပညတ်အားဖြင့် သွားသည်, ရပ်သည်, ထိုင်သည်, လျောင်းသည်, ရှေ့သို့တက်သည်, နောက်သို့ဆုတ်သည်, ကွေးသည်, ဆန့်သည် ဟူ၍ခေါ်ဆိုအပ်လေသည်။ ပရမတ္ထအားဖြင့်ကား ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် ရုပ်အထူးတို့ ဖြစ်ကြခြင်းသာဖြစ်သည်။ ရုပ်နာမ်နှစ်ဖြာ ကိုယ်ခန္ဓာ၏ ဆိုင်ရာအကြောင်း စုပေါင်းညီညွတ်သဖြင့် ထိုထိုသွားခြင်း, ရပ်ခြင်း စသော အမူအရာအားဖြင့် ရုပ်အထူးတို့၏ ဖြစ်ကြခြင်းသာဟု ဆိုလိုသည်။ ဤအချက်ကို လေးနက်စွာ မသိသောကြောင့် အတ္တဝါဒ သမားတို့က "အတ္တလိပ်ပြာသည်ပင် သွား၏, ရပ်၏, ထိုင်၏, လျောင်း၏" ဟု ပြောဆိုကြလေသည်။ ထိုသူတို့အလိုအားဖြင့် "အတ္တလိပ်ပြာ၏ သွားမှု, ရပ်မှု, ထိုင်မှု, လျောင်းမှု" ဟု ဆိုကြသည်။ ထို-ကို မြတ်စွာဘုရားရှင်က "အတ္တလိပ်ပြာ၏ သွားမှု, ရပ်မှု, ထိုင်မှု, လျောင်းမှု မဟုတ်၊ သောကာ-ယဿ ဣဉ္စနာ=**ဤအပြုအမူ အလုံးစုံသည်** ကိုယ်ခန္ဓာ၏ လှုပ်ရှားမှု ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် **ထိုထို အမူအရာအားဖြင့် ရုပ်အထူးတို့၏ ထင်ရှား ဖြစ်ပွားခြင်း** မျှသာ ဖြစ်သည်" ဟု ဟောတော်မူသည်။

ထို့ကြောင့်—**ရုပ်သွား, ရုပ်ရပ်, ရုပ်ထိုင်, ရုပ်အိပ်** ဟု ဆိုရာ၌လည်း(ရုပ်တရားသည် ဖြစ်ပြီးလျှင် ပျက်သော သဘောသာရှိ၏) အမှန်စင်စစ်သွားသော အခြင်းအရာ, ရပ်သောအခြင်းအရာ, ထိုင်သောအခြင်းအရာ, အိပ်သော အခြင်းအရာထူးတို့ဖြင့် (ပရမတ္ထသဘော) ရုပ်တရားတို့ဖြစ်ခြင်းကိုသာဆိုလိုသည်။

(ပညာမျက်စိဖြင့်သာ သိမြင်နိုင်ရာ၏)။

## ဃနလေးပါး

ဤနေရာ၌ (၁) သန္တတိဃန (၂) သမူဟဃန (၃) ကိစ္စဃန(၄) အာရမ္မဏဃန ဟူ၍ ဃနလေးပါးရှိသည်။

(၁) ထိုလေးပါးတို့တွင် ရှေ့နောက်ဖြစ်သော ရုပ်နာမ်တရားတို့၏ အခြားမရှိ အကြားမထင်သောအားဖြင့် တရားလုံး တခုတည်း ကဲ့သို့ ထင်မှတ်ယူရအောင် ဖြစ်ပွားခြင်း စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွား ခြင်းသည် သန္တတိဃန မည်၏။

ဤ၌ "အခြားမရှိသောအားဖြင့် ဖြစ်ခြင်း"ဟူသည်မှာ ရှေ့တရား ၏ ဘင်ခဏနှင့် ပြိုင်လျက် နောက်တရားကဖြစ်ခြင်း (တနည်း) ရှေး တရားချုပ်သည်၏အခြားမဲ့မှာပင် နောက်တရားက ထင်ရှားဖြစ်ခြင်းကို ဆိုလိုသည်။ ယင်းကို (ပုရိမပစ္ဆိမာနံ နိရန္တရတာ=ရှေ့တရား နောက် တရားတို့၏အကြား မရှိဖြစ်သည်၏ အဖြစ်)ဟူ၍ ဋီကာဆရာကြီးများ ခေါ်ဆိုအသုံးပြုတော်မူကြသည်။

ယင်းကဲ့သို့အခြားမရှိ အကြားမထင်အောင် ဖြစ်ပွားခြင်းဖြင့် အဖြစ် တရားဘက်က အားရှိကာ ဖုံးလွှမ်းအုပ်သကဲ့သို့ ဖြစ်၍ အပျက်တရား ဘက်က မထင်ရှားသောကြောင့် "ယခု တွေ့မြင်ရသော တရားသည် ယခင်မတွေ့မြင်ရသော တရားပင်တည်း" ဟု မှတ်ယူသောအနေဖြင့် လူ များအပေါင်းတို့ ဖောက်ပြန်ထွေပြား အထင်မှား အမှတ်မှားကြရလေ သည်။ ဤသဘောကို "ထင်းမီးစတခုကို ကိုင်၍ ဝှေ့ရမ်းလျှင် မီးဝိုင်းကြီး ဟုထင်ရမှု"က သက်သေခံလျက်ရှိသည်။ (ဤကားသန္တတိဃနတည်း)၊

(၂) ဖဿ–အစရှိသော နာမ်တရား,ပထဝီ–အစရှိသော ရုပ်တရား တို့၏ ထိုထိုနာမ်ကလာပ် ရုပ်ကလာပ်တို့၌ တပေါင်းတည်း တစုတည်း အနေဖြင့် ပရမတ္ထ**တ**ရားသား တခုတည်းကဲ့သို့ ထင်မှတ်ရအောင်စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်းသည် သမူဟဃန မည်၏။

နာမ်တရား ရုပ်တရား တို့သည် ဖြစ်ပွားကြသောအခါ တရားလုံး (သဘာဝသတ္တိ) တခုတည်းသာ ဖြစ်ကြသည်မဟုတ်၊ နာမ်တရားဘက်က

လည်း အနည်းဆုံး ရှစ်မျိုး (စက္ခုဝိညာဉ်နှင့် သဟဇာတ်ရှိသာခါရကာ စေ တသိက် ခုနစ်ပါးကို ဆိုလိုသည်)။

ရုပ်တရားဘက်ကလည်း အနည်းဆုံး ရှစ်မျိုးပင် (အဋ္ဌကလာပ် ရုပ်ကို ရည်ညွှန်းသည်) ဖြစ်ပွားကြသည်။ ယင်းကဲ့သို့ အနည်းဆုံး သဘာဝသတ္တိ ရှစ်မျိုးတို့ သဘာဝသတ္တိတမျိုးတည်းဟု ထင်မှတ်ယူရအောင် စုလျက် ပေါင်းလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်းကို သမူဟဃန ခေါ်သည် ဟု ဆိုလိုသည်။ (ဤကား သမူဟဃနတည်း)။

(၃) နာမ်ကလာပ် တခုတခု၊ ရုပ်ကလာပ် တခုတခု၌ ပါရှိကြသည့် နာမ်တရား ရုပ်တရား အသီးသီးတို့သည် ဆိုင်ရာ ဆိုင်ရာ မိမိ မိမိတို့၏ ကိစ္စအလုပ်တို့ကို ပြုလုပ်ပြီးပြေစေကြလျက် ဖြစ်ပွားကြလေသည်။ ထိုသို့ ဖြစ်ပွားကြရာ၌ (အဘိဓမ္မာ ဉာဏ်ပညာမျက်စိ မရှိသောသူတို့ အဖို့မှာ) ဤကား ဖဿ၏ အလုပ်ကိစ္စ, ဤကား ဝေဒနာ၏ အလုပ်ကိစ္စ, ဤကား သညာ၏အလုပ်ကိစ္စ-စသည်ဖြင့်လည်းကောင်း။

ဤကား ပထဝီ၏ကိစ္စ, ဤကား အာပေါ၏ ကိစ္စ, ဤကား ဝါယော၏ကိစ္စ, ဤကား တေဇော၏ကိစ္စ- စသည်ဖြင့် လည်းကောင်း အလုပ်ကိစ္စ အထူးကို သိဖို့ရန်ခဲယဉ်းလှကုန်၏။ ယင်းသို့ နာမ်တရား ရုပ် တရားတို့၏ မိမိ မိမိတို့၏ ဆိုင်ရာကိစ္စအထူးကို သိနိုင်ခဲသော အနေဖြင့် တရားလုံးတခုတည်းဟု ထင်မှတ်ရအောင် စုလျက် တွဲလျက် ခဲလျက် ဖြစ် ပွားမှုကို ကိစ္စဃနခေါ်သည်။(ဤကား ကိစ္စဃနတည်း)။

(၄) နာမ်ကလာပ် တခုတခု၌ ပါရှိသော ထိုထို နာမ်တရားတို့၏ အာရုံတခုကို စု၍ ပေါင်း၍ အာရုံပြုသောအနေဖြင့် လည်းကောင်း, ရုပ် ကလာပ်တခုတခု၌ ပါရှိသော ထိုထိုရုပ်တရားတို့၏ အာရုံ တခုတည်း အနေဖြင့်လည်းကောင်း ပရမတ္ထတရားသား(သဘာဝသတ္တိ) တခုတည်း ဟု ထင်မှတ်ရအောင် စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်းကို အာ ရမ္မဏဃနခေါ်သည်။ (ဤကား အာရမ္မဏဃနတည်း)။

အချုပ်အားဖြင့် အကြောင်းပစ္စည်းတရား အကျိုး ပစ္စယုပ္ပန်တရား အနေဖြင့် ဖြစ်ပွားကြသည့် များစွာသော ရုပ်နာမ်တရားတို့၏ ကာလ

အားဖြင့်, သဘာဝအားဖြင့်, ကိစ္စအားဖြင့်, အာရုံ သဘော အားဖြင့်, အထူးအပြားကို သိနိုင်ခဲ့သော အနေအားဖြင့် တရားလုံး တရားသား တခုတည်းကဲ့သို့ ထင်မှတ်ယူရအောင် ဖြစ်ပွားခြင်းကို အစဉ်အတိုင်း သန္တတိဃန, သမူဟဃန, ကိစ္စဃန, အာရမ္မဏဃန ဟူ၍ ခေါ်ဆိုအပ် လေသည်။ ။(ဤဃနလေးပါးအကြောင်းကို ဓမ္မသင်္ဂဏီ အနုဋီကာ စာမျက်နှာ ၆၀ နှင့် ဓမ္မသင်္ဂဏီ အနုဋီကာ စာမျက်နှာ ၆၆ တို့မှ ထုတ်နုတ် ဖော်ပြအပ်သည်)။

**"ငရုတ်စေ့၌၊ စိတ်တွေ့သတ်သတ်၊ အစပ်ကိုတည့်၊ သိမြင်ဘိသို့၊ (ရှုမျှော်ကြည့်သို့)၊ သတ္တိကိုမျှ၊ ရှုကြည့်ရ၊ ပရမတ္ထကို(ပရမတ္ထမှာ)"**

ဟူသောအတိုင်း ယုံတို နာမ်ရုပ် တရားတို့၏ သဘာဝသတ္တိကို ဉာဏ် မျက်စိဖြင့် ရှုကြည့်နိုင်မှ ပရမတ္ထသို့ အမြင်ဆိုက်ရောက်သည်။ ပရမတ္ထသို့ အသိဉာဏ် အမြင်ဆိုက်ရောက်မှ ဃနပြိုသည်။ဃနပြိုမှ အနတ္တအသိဉာဏ် ကို ရနိုင်သည်။ သဘာဝသတ္တိကို ဉာဏ်မျက်စိဖြင့် မရှုကြည့်က ပရမတ္ထသို့ အမြင်မဆိုက်၊ ပရမတ္ထသို့ အသိဉာဏ် အမြင်မဆိုက်လျှင် ဃနမပြို။ ဃန မပြိုလျှင် အနတ္တအသိဉာဏ်ကို မရနိုင်။ ထို့ကြောင့်"အနတ္တလက္ခဏာကို ဃန ဖုံးသည်"ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်။

ဤဂါထာ၌ မြတ်စွာဘုရားရှင်သည် စတုတ္ထပါဒ "သော ကာယဿ ဣဋ္ဌနာ=ဤအပြုအမူ အလုံးစုံသည် ပုဂ္ဂိုလ်သတ္တဝါ အတ္တလိပ်ပြာ၏ အပြုအမူမဟုတ်၊ စင်စစ်သော်ကား ထိုထို ရုပ်နာမ်တရားအစု၏ ဆိုင်ရာ ဆိုင်ရာ မိမိ မိမိတို့၏ အလုပ်ကိစ္စကို ပြုလုပ် ပြီးပြေစေသော အားဖြင့် ဖြစ်ပွားမှု=လှုပ်ရှားမှုသာတည်း" ဟု ဟောတော်မူလိုက်သဖြင့် ဃနဖြင့် ဖုံးလွှမ်းအပ်သော အနတ္တလက္ခဏာသဘောကို ပြတော်မူ၏။ ဤအရာစုံ ကား နက်နဲဘိတောင်း။

သာမန် ဉာဏ်မျက်စိဖြင့် မသိနိုင်ချေ။





ပရိယတ္တိ ဓမ္မာစရိယ ဝင်္ဂသကာဘွဲ့
သာသနဓဇ သိရီပဝရ ဓမ္မာစရိယဘွဲ့
အစိုးရပဌမကျော်ဘွဲ့
ဗုဒ္ဓသာသနပိသိသိဋ္ဌ တိပိဋကဓရ မဟာတိပိဋကကောဝိဒဘွဲ့
တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိကဘွဲ့ရ
မဟာဗုဒ္ဓဝင် ကျမ်းပြု ဆရာတော်
အရှင် ဦးဝိစိတ္တသာရာဘိဝံသ

မန္တလေးမြို့ အနောက်ဘက်

မင်းကွန်းတောင်ရိုး ဓမ္မနာဒတိုက်

မဟာဗုဒ္ဓဝင် ကျမ်းပြု

တိပိဋကဓရ ဓမ္မဘဏ္ဍာဂါရိက ဆရာတော် ဦးဝိစိတ္တသာရာဘိဝံသ

ရေးသားတော်မူသော

မဟာရာဟုလောဝါဒ သုတ္တန်များ

နှင့်

ဝိဇယသုတ္တန် မြန်မာပြန်

## နိဒါန်း

### ဉာဏ်ဝိဇယသုတ္တန် မြန်မာပြန်နှင့် ရာဟုလောဝါဒ သုတ္တန် မြန်မာပြန် ဓမ္မလက်ဆောင်တို့ ဖြစ်ပေါ်လာရခြင်း အကြောင်းရင်း အတိုချုပ်မှာ

အကျွန်ုပ် ဦးစီး ရေးသားသည့် 'နိုင်ငံတော်ဗုဒ္ဓသာသန မဟာဗုဒ္ဓဝင်ကျမ်း' အတွဲတို့ ထွက်ပေါ်လာတိုင်း ကျေးဇူးရှင် အဘိဓဇ မဟာရဋ္ဌဂုရု အဂ္ဂမဟာပဏ္ဍိတ မစိုးရိမ် ဆရာတော်ဘုရားကြီး အထံတော်သို့ နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က ဆက်ကပ်ခဲ့ပါသည်။

ဆက်ကပ်တိုင်းသော မဟာ ဗုဒ္ဓဝင်စာတွဲတိုင်းကိုလည်း ကျေးဇူးရှင် ဆရာတော်ဘုရားကြီးသည် တပည့်ရဟန်းငယ်များကို လုံးစေ့ပါဌ်စေ့ အဖတ်ခိုင်း၍နာယူတော်မူခဲ့ပါသည်။(ထိုသို့နာယူခြင်းမှာ လိုအပ်ကဖြည့်စွက်ရန် မွန်မြတ်သောရည်ရွယ်ချက်ဖြင့် နာယူခြင်းဖြစ်ပါသည်)။

ယင်းသို့ဖြင့်အစဉ်အတိုင်း မဟာဗုဒ္ဓဝင်ကျမ်းစတုတ္ထတွဲထွက်၍ အခန်း ၃၂ နှင့် ၃၄ တို့ကို နာယူပြီးသောအခါ ကျေးဇူးရှင် မစိုးရိမ်ဆရာတော်ဘုရားကြီးက မြေး=တပည့်ဖြစ်သူ မန်းခေတ် ဒါယကာ ဦးလှရွှေ ကို ခေါ်၍

"လှရွှေ

(က) ငါ ဦးပဥ္စင်း၏(အကျွန်ုပ်ကို ဆရာတော်ဘုရားကြီးက ချစ်စနိုးအားဖြင့် ဦးပဥ္စင်း-ဟု ခေါ်ဆိုမိန့်ကြားလေ့ ရှိပါသည်) မဟာဗုဒ္ဓဝင်

စတုတ္ထတွဲကို နာယူပြီးဖြစ်သည်၊ ထိုစတုတ္ထတွဲ၌ စူဠရာဟုလော ဝါဒ သုတ္တန်နှင့် ဝိဇယသုတ္တန်တို့ကို အသီးထုတ်နုတ်၍ တရားအားထုတ် လိုသူ နှလုံးသွင်းလိုသူတို့အား ဓမ္မဒါနအဖြစ် ဝေငှရလျှင် အလွန် အကျိုးများ လိမ့်မည်။

(ခ) ဦးပဥ္စင်းက ထိုသုတ္တန်နှစ်ခုကို သီးခြားထုတ်နုတ်၍ ပေးရန် မင်းက ဦးပဥ္စင်းကို လျှောက်ထားပါ။ (ဗုဒ္ဓဝင်စာအုပ်ကြီးကို လူတိုင်း ဖတ်နိုင်ကြမည်မဟုတ်၊ သီးခြားထုတ်၍ စာအုပ်ငယ် ရိုက်နှိပ်၍ ဓမ္မဒါန အမြိုက်လက်ဆောင်အဖြစ် ဝေငှမှ အများ ကြည့်ခွင့်ရ၍ အကျိုးရှိကြ မည်)။

(ဂ) မင်းကကြုပ်မတ်၍ ဦးပဥ္စင်းက တည်းဖြတ်၍ မင်း၏ မန်းခေတ် ပုံနှိပ်တိုက်က အမြန် စာအုပ်ဖြစ်အောင် ရိုက်ပေးပါ။

(ဃ) ဓမ္မဒါန အမြိုက်လက်ဆောင် ဒါယိကာ အဖြစ် ဒကာမကြီး ဒေါ်သန်း(မန္တလေးမြို့ ဒါးတန်း ဘုရားအမကြီး ဒေါ်ဒေါ်သန်းကို ဆိုလိုသည်) မိသားစုက ဒါယိကာအဖြစ် ခံယူရန် ငါက အမိန့်ရှိလိုက် သည် ဟု ပြောပြလေ"

ဟူ၍ မိန့်တော်မူကြောင်း မဟာဗုဒ္ဓဝင် စတုတ္ထတွဲ ထွက်ပြီးစကပင် မန်း ခေတ် ဦးလှရွှေလျှောက်ထား၍ ဝမ်းမြောက်ဖွယ်ရာကြားသိခဲ့ရပါသည်။ (သို့သော် ထိုအချိန်က အကြောင်းမညီညွတ်၍ ဓမ္မလက်ဆောင် အဖြစ် သို့ မပို့ဆောင်ရပါချေ)။

ယခု ၁၃၃၄-ခု တန်ဆောင်မုန်း လပြည့်ကျော် ၈ ရက်နေ့က ရန် ကုန်မြို့ သမိုင်းရပ် ဝိပဿနာ ပြန့်ပွားရေးအဖွဲ့ အကျိုးဆောင် ဒကာ ဦးသန်းအောင်က

"တပည့်တော်၏သားငယ် မောင်အေးမင်းကို လာမည့်နှစ် သင်္ကြန် မဘိုင်မီ ကြို၍ ရှင်ပြုပေးလိုပါသည်၊ ထိုရှင်ပြုပွဲ၌ ဓမ္မလက်ဆောင်အဖြစ် သင့်လျော်မည့် တရားစာပေ တခုခုကို ရိုက်နှိပ်ဝေငှ လှူဒါန်းလိုပါသည်

ဘုရား၊ သင့်လျော်မည့် တရားစာပေတခုခုကို ညွှန်ကြားပါဘုရား”
ဟူ၍ လျှောက်ထားပါသည်။

ထိုအခါ ကျေးဇူးရှင်ဆရာတော်ဘုရားကြီး မိန့်ကြားတော်မူဘူးသည့်စကားကို ချက်ချင်း သတိရလာပြီး ဒါယကာ ဦးသန်းအောင်အား

“မဟာဗုဒ္ဓဝင် စတုတ္ထတွဲ ထွက်စဉ်က ကျေးဇူးရှင် မစိုးရိမ်ဆရာတော် ဘုရားကြီးက ဤမဟာဗုဒ္ဓဝင် စတုတ္ထတွဲပါ ဝိဇယသုတ္တန် မြန်မာပြန်နှင့် စူဠဗျူဟသုတ္တန် မြန်မာပြန်တို့ကို သီးခြားထုတ်နုတ်၍ စာအုပ်ငယ်အဖြစ် ရိုက်နှိပ်လျက် ဓမ္မလက်ဆောင်အဖြစ် ဖြန့်ဝေပါက တရားလိုက်စားသူ သူတော်စင်တို့အား အထောက်အပံ့ဖြစ်၍ ကျေးဇူးများမည် ဖြစ်ကြောင်းမိန့်ကြားတော်မူဘူးပါသည်။

ဆရာတော်ဘုရားကြီး၏ အလိုဆန္ဒတော်လည်း ပြည့်ဝ+တရားလိုက်စားသူ သူတော်စင်တို့အားလည်း အကျိုးရ ဖြစ်စေရန် ဝိဇယသုတ္တန် မြန်မာပြန်နှင့် စူဠဗျူဟသုတ္တန် မြန်မာပြန်တို့ကို ရိုက်နှိပ်၍ ဓမ္မလက်ဆောင်အဖြစ် ဖြန့်ဝေလှူဒါန်းရလျှင် အကျိုးများလိမ့်မည်ဟု ယူဆမိပါသည်”
ဟူ၍ အကြံပေးခဲ့ပါသည်။

ဗုဒ္ဓမြတ်စွာ၏ အဆုံးအမ ဩဝါဒသာသနာ ပြန့်ပွားရေးကို ရှေးရှုသောအားဖြင့် နိုင်ငံတော် ဗုဒ္ဓသာသနာအဖွဲ့မှလည်း (ဂါ-မူပိုင်ရှင် ဖြစ်သော နိုင်ငံတော်အစိုးရမှလည်း) ထိုမဟာဗုဒ္ဓဝင် စတုတ္ထတွဲပါ ဝိဇယသုတ္တန် မြန်မာပြန်နှင့် စူဠဗျူဟသုတ္တန်မြန်မာပြန်တို့ကို သီးခြားထုတ်နုတ်၍ စာအုပ်ငယ်အဖြစ် ရိုက်နှိပ်လျက် ဓမ္မဒါန ဓမ္မလက်ဆောင်ဖြန့်ဝေခွင့်ပြုပါရန် ဤနိဒါန်းစာဖြင့် အနူးအညွှတ် မေတ္တာရပ်ခံ တောင်းပန်အပ်ပါသည်။

ထိုသို့ အနှုးအညွတ် မေတ္တာရပ်ခံ တောင်းပန်အပ်သည့်အတိုင်း မူပိုင်ရှင်ဖြစ်သော နိုင်ငံတော်ဗုဒ္ဓသာသနာအဖွဲ့က (ဝါ-နိုင်ငံတော် အစိုးရက) ဗုဒ္ဓဩဝါဒသာသနာပြန့်ပွားရေး ရှေးရှုခွင့်ပြုချက်အရ အလှူဒါယကာ ဦးသန်းအောင် အလှူဒါယိကာမ ဒေါ်သိန်းလှနှင့် ညီဖြစ်သူ ဦးထွန်းလှိုင် မိသားစုတို့က

ကျေးဇူးရှင် မစိုးရိမ်ဆရာတော်ဘုရားကြီး၏

ဓမ္မစန္ဒ အလိုတော်ပြည့်ဝရန်

နှင့်

ဓမ္မလိုက်စား သူတော်များအဖို့ အထောက်အပံ့ဖြစ်စေရန်။

မိမိတို့လည်း မဂ်+ဖိုလ်+နိဗ္ဗာန်ကို လျင်မြန်စွာ မျက်မှောက်ပြုရန် ရည်သန်ကြ၍ ဓမ္မလက်ဆောင် ဤစာစောင်ကို ဖြန့်ဝေ လှူဒါန်း အပ်ပါသည်။

"ဘောဇဉ်မြိုက်ခဲ၊ ဓမ္မပွဲလျှင်၊ လက်ကဲပုံသော၊ ဆိုက်ရောက်နေလျက်၊ ရှောင်သွေနှလုံး၊ ကိုယ်မသုံးက၊ အရှုံးကိုယ့်ပြင် ရှိချိမ့်လော"

ဦးဝိစိတ္တသာရာဘိဝံသ

၁၂-၈-၃၄

## အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်

### မြတ်စွာဘုရားရှင်သည် ရှင်ရာဟုလာကိုအကြောင်းပြု၍ များစွာသော တရားဒေသနာတို့ကို ဟောတော်မူခြင်းအကြောင်း

မြတ်စွာဘုရားရှင်သည် ရှင်ရာဟုလာ မထေရ်အား များစွာသော တရားဒေသနာတို့ကို ဟောကြားတော်မူအပ်ကုန်၏။ ၁။ သာမဏေရ ပဉှ ၂။ ရာဟုလသံယုတ် ၃။ မဟာရာဟုလောဝါဒသုတ် ၄။ စူဠရာဟု လောဝါဒသုတ် ၅။ အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ်=ဤတရား ဒေသနာတို့ကို ရှင်ရာဟုလာမထေရ်အား ဟောကြားတော်မူအပ်ကုန်၏။

ခဲ့ဦးအံ့၊ ဤအရှင်ရာဟုလာကို မြတ်စွာဘုရားရှင်သည် ကပိလဝတ် ရွှေနန်းတော်သို့ ပထမအကြိမ် ရောက်ရှိချိန်ဝယ် ခုနစ်နှစ်အရွယ် ရာဟု လမင်းသားငယ် အချိန်၌ပင် မြတ်စွာဘုရားရှင်၏ သင်္ကန်းတော်စွန်းကို ဆွဲကိုင်၍ "ကိလေသာခပ်သိမ်း ငြိမ်းအေးတော်မူပြီးသော ခမည်းတော် ဘုရား၊အကျွန်ုပ်အား အမွေပေးသနားတော်မူပါ"ဟု အမွေတောင်းခံ လာသည်ကို မြတ်စွာဘုရားရှင်သည် အရှင်သာရိပုတ္တရာ မထေရ်အား အပ်နှင်း၍ ရှင်သာမဏေပြုစေတော်မူအပ်လေသည်။

၁။ ထို့နောက် မြတ်စွာဘုရားရှင်သည် "ကလေးသူငယ်တို့မည်သည် သင့်သောစကား မသင့်သောစကား ထွေရာလေးပါး ပြောကြားစတတ် ကုန်၏၊ သို့ရကား ရာဟုလာအား အဆုံးအမ ဩဝါဒပေးပေအံ့" ဟု ဆင်ခြင် ဆုံးဖြတ်တော်မူပြီးလျှင် ရှင်ရာဟုလာကို ခေါ်တော်မူ၍ "ရာဟု လာ....သာမဏေမည်သည် **မဂ်ဖိုလ်အားကျေးဇူးမပြုသည့် မင်းစကား စိုးစကား-အစရှိသော တိရစ္ဆာန ကထာစကားကို မပြောကြားသင့်။**

သင်ချစ်သားသည် စကားပြောဆိုလျှင် ဤသို့ သဘောရှိသော တရားစကားကိုသာ ပြောကြားလော့”ဟု မိန့်တော်မူပြီးလျှင် ခပ်သိမ်းသော ဘုရားရှင်တို့ မစွန့်အပ်သော ပုစ္ဆာသယ်ချက်ရှိ၍ အဖြေတရားပေါင်း ငါးဆယ့်ငါးပါးပါရှိသော (ခု၊၁၊ မျက်နှာ ၃-လာ) ‘သာမဏေရပဉှာ’ မည်သော တရားဒေသနာကို ဟောကြားတော်မူသည်။

၅။ တဖန် မြတ်စွာဘုရားရှင် ကြံစည်ဆင်ခြင်တော် မူမိပြန်သည်မှာ “ကလေးသူငယ်တို့ မည်သည် မဟုတ်မမှန်စကား ပြောကြားရသည်ကို နှစ်သက်ကြကုန်၏။ မိမိတို့ မမြင်အပ်သည်ကိုပင် ‘ငါတို့ မြင်အပ်ကုန်၏’ ဟူ၍လည်းကောင်း, မိမိတို့ မြင်အပ်သည်ကိုပင် ‘ငါတို့ မမြင်အပ်ကုန်’ ဟူ၍လည်းကောင်း ပြောဆိုတတ်ကြကုန်၏။ သို့ရကား ရာဟုလာအား စောစီးကကြိုတင်၍ အဆုံးအမ သြဝါဒ ပေးပေအံ့”ဟု ကြံစည်ဆင်ခြင်တော်မူပြီးလျှင် မျက်စိဖြင့် ကြည့်၍လည်း သိလွယ်မှတ်လွယ်ရန် အလို့ငှာ ရှေးဦးစွာ ရေခွက်ဥပမာလေးပါး, ထို့နောက် စစ်ဆင်ကြီးဥပမာနှစ်ပါး, ကြေးမုံ (မှန်) ဥပမာတပါး=ဤဥပမာခုနစ်ပါးကို အစဉ်အတိုင်းဖော်ပြကာ (မဇ္ဈိမပဏ္ဏာသပါဠိတော်၊ ဘိက္ခုဝဂ်။ မျက်နှာ ၇၇ လာ) အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ္တန်ကို ဟောကြားတော် မူလေသည်။

ထိုမှတပါး ပစ္စည်းလေးဖြာတို့၌ တွယ်တာ တပ်မက်သော တဏှာမဖြစ်စေရန်ကိုလည်းကောင်း, ကာမဂုဏ်ငါးပါးတို့၌ ဆန္ဒရာဂတဏှာကို ပယ်ခြင်းကို လည်းကောင်း, မိတ်ဆွေကောင်း ပေါင်းပိခြင်း၏ အကျိုးကြီးမြတ်မှုကိုလည်းကောင်း ဖော်ပြတော်မူ၍(ခု၊ ၁၊ ၃၂၈-မျက်နှာ သုတ္တနိပါတ်ကျမ်းအလာ) ရာဟုလသုတ်ကို ဟောကြားတော်မူလေသည်။ (ဤရာဟုလသုတ်ကို အဘိဏှ ရာဟုလောဝါဒသုတ်ဟူ၍လည်း ခေါ်ဆို၏)။

၂။ ရောက်လေရာရာ ဌာနတိုင်းဝယ် ဘဝသုံးပါး၌ တပ်မက်နှစ်သက်သော တဏှာဆန္ဒကို မပြုရာဟု ပြတော်မူခြင်းငှာ (သံ၊၁၊၄၃၅-မျက်နှာ စသည်၌လာသော) ရာဟုလသံယုတ်ကို ဟောကြားတော် မူလေသည်။

၃။ “ငါသည် တင့်တယ်၏၊ ငါ၏ရုပ်အဆင်းသည် သန့်ရှင်း ကြည်လင်လှ၏ဟူ၍ ခန္ဓာကိုယ်အတ္တဘောကို အမှီပြု၍ ဂေဟဿိတ ဆန္ဒရာဂ

ကို မပြုရာ''ဟု ပြတော်မူခြင်းငှာ (မဇ္ဈိမပဏ္ဏာသပါဠိ၊ စာမျက်နှာ ၈၃-လာ) မဟာရာဟုလောဝါဒသုတ်ကို ဟောကြားတော်မူလေသည်။

၄။ ထို့နောက် မြတ်စွာဘုရားရှင် ၁၄-ဝါအရ (ရှင်ရာဟုလာ ရဟန်းဖြစ်ပြီး၍ ဝါမရမီ) အချိန်ဝယ် အရဟတ္တဖိုလ်ပေါက် ချေချွတ်ရန် (ဥပရိပဏ္ဏာသပါဠိ၊ စာမျက်နှာ ၃၂၄-လာ)စူဠရာဟုလောဝါဒသုတ္တန်ကို ဟောတော်မူလေသည်။

ထိုတွင် ရာဟုလသုတ် (=အဘိဏှရာဟုလောဝါဒသုတ်)ကို ဤမည်သောအခါ၌ ဟောကြားတော်မူအပ်၏ဟု အချိန်ပိုင်းဖြတ် သတ်မှတ်၍ ပြောဆိုမရနိုင်။ မှန်၏-ထိုရာဟုလသုတ်(=အဘိဏှရာဟုလောဝါဒသုတ်)ကို မပြတ်မပြတ် ဆုံးမတော်မူသောအားဖြင့် မြတ်စွာဘုရား ဟောကြားတော်မူအပ်လေသည်။

၂။ ရာဟုလသံယုတ်ကို ရှင်ရာဟုလာ ခုနစ်နှစ်အရွယ် သာမဏေငယ်ဘဝမှစ၍ ဝါမရသေးသော ရဟန်းငယ်ဖြစ်သည့်ကာလတိုင် ဤအတွင်းဝယ် အလျဉ်းသင့်သလို ဟောကြားတော်မူအပ်လေသည်။

၃။ မဟာရာဟုလောဝါဒသုတ်ကို ရှင်ရာဟုလာ တဆယ့်ရှစ်နှစ်အရွယ်၌ ဟောကြားတော်မူအပ်လေသည်။

၄။ စူဠရာဟုလောဝါဒသုတ်ကို ရှင်ရာဟုလာ ရဟန်းဖြစ်စ ဝါမရမီအချိန်၌ ဟောကြားတော်မူအပ်လေသည်၊

(၁-၅) သာမဏေရပဉှာ(နှင့်)အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ္တန်တို့ကို ရှင်ရာဟုလာ ခုနစ်နှစ်အရွယ် သာမဏေအချိန်၌ ဟောကြားတော်မူအပ်လေသည်။

ထိုသုတ္တန်တို့တွင် ရာဟုလသုတ် (=အဘိဏှရာဟုလောဝါဒသုတ်)ကို အမြဲမပြတ် ဆုံးမရန် ဟောကြားတော်မူအပ်သည်။ ၂။ ရာဟုလသံယုတ်ကို အရှင်ရာဟုလာမထေရ်မြတ် ဝိပဿနာဉာဏ် တရားသားကို ရယူဖို့ရန် ဟောကြားတော်မူအပ်သည်။ ၃။ မဟာရာဟုလောဝါဒသုတ်ကို

ဂေဟာဿိတဆန္ဒရာဂ (အာရုံငါးပါး ကာမတရားတည်းဟူသော အိမ်၌ မှီသည့် တဏှာလောဘ) ကို ပယ်ဖျောက်ရန် ဟောကြားတော် မူအပ်သည်။ ၄။ စူဠရာဟုလောဝါဒသုတ်ကို အရှင်ရာဟုလာမထေရ်၏ ဝိမုတ္တိပရိပါစနီယတရား တဆယ့်ငါးပါးတို့ ရင့်ကျက်သောအခါ (ရဟန်းဖြစ်စ ၈ါ မရသေးမီအချိန်)၌ အရဟတ္တဖိုလ်ကို ရယူစေရန် ဟောကြားတော်မူအပ်သည်။

ဤယခုဖော်ပြမည့်အမ္ဗလဋ္ဌိကရာဟုလောဝါဒသုတ်ကိုသိလျက်မုသားစကား ပြောကြားခြင်းအမှုကိုမပြုရန် ဟောကြားတော်မူအပ်၏။ (မ ဋ္ဌ၊ ၃၊ ၈၈, ၈၉ မှ ထုတ်နုတ်ချက်များ ဖြစ်သည်)။

အချိန်အားဖြင့် မြတ်စွာဘုရားသခင် ဒုတိယဝါဆို၍ ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်း၌ သီတင်းသုံး နေထိုင်တော်မူသောအခါ ဖြစ်သည်။ ထိုအခါ အရှင်ရာဟုလာ (=သာမဏေငယ်)သည် ဝေဠုဝန်ကျောင်းတိုက်၏ အစွန်အဖျား သရက်ပင်ပျို၏အနီး၌ ဆောက်လုပ်အပ်သော ကြောင့် "အမ္ဗလဋ္ဌိကာ" ဟူ၍ အမည်တွင်သော ကမ္မဋ္ဌာန်းကျောင်းပြာသာဒ်၌ ဝိဝေကတရားကို ပွားများအားထုတ်လျက် နေထိုင်တော်မူဆဲ ဖြစ်လေသည်။

(ဆူးသည် မည်သူ တဦးတယောက်ကမျှ တမင်သက်သက် ထက်အောင်မပြုအပ်ပါပဲပေါက်သစ်စအချိန်ကပင်စ၍ သဘာဝအားဖြင့် ထက်မြက်၍လာသကဲ့သို့ ဤအတူပင် ဤအရှင် ရာဟုလာသည်လည်း ခုနစ်နှစ်အရွယ် သာမဏေငယ် အခါ၌ပင်လျှင် မည်သူ တဦးတယောက်ကမျှ တိုက်တွန်း နှိုးဆော်ရခြင်းမရှိပဲ ကာယဝိဝေက,စိတ္တဝိဝေကတရားနှစ်ပါးကို ပွားများ အားထုတ်လျက် နေတော်မူသည်)။

ထိုအခါ မြတ်စွာဘုရားသည် ညနေချမ်းအချိန်၌ ဖလသမာပတ်မှ ထတော်မူ၍ အမ္ဗလဋ္ဌိက ကမ္မဋ္ဌာန်းကျောင်း ရှင်ရာဟုလာ ရှိရာအရပ်သို့ ကြွတော်မူလေ၏။ ရှင်ရာဟုလာသည် မြတ်စွာ ဘုရားသခင် ကြွလာတော်မူသည်ကို အဝေးမှပင် မြင်လတ်၍ (မြတ်စွာ ဘုရားအတွက်) နဂိုရ်

ပကတိခင်းထားရင်းရှိသော နေရာတော်ကိုခါ၍ တဖန်ပြုပြင် ခင်းထား ပြီးလျှင် ခြေဆေးရေကိုလည်း တည်ထားလေ၏၊ မြတ်စွာဘုရားသည် ရှင်ရာဟုလာ တဖန်ပြင်၍ ခင်းထားအပ်သော နေရာတော်၌ ထိုင်နေ တော်မူပြီးလျှင် ခြေတော်တို့ကို ဆေးကြောတော်မူလေ၏။(ဤ၌ မြတ်စွာ ဘုရား၏ ခြေတော်ဝယ် မြူမှုန် ငြိကပ်သောကြောင့် ဆေးကြောခြင်း မဟုတ်၊ စင်စစ်သော်ကား ဝတ်ပြုသော တပည့်သာဝက၏ ဝတ်ပြုမှုကို ခံယူတော် မူရန်အတွက်သာ ခြေတော်ကို ဆေးကြောခြင်း ဖြစ်သည်)။ ရှင်ရာဟုလာသည်လည်း မြတ်စွာဘုရားကို ရှိသေမြတ်နိုး ရှိခိုးပြီးလျှင် အပြစ်ခြောက်ပါး ကင်းလွတ်ရာအရပ်၌ ထိုင်နေလေ၏။

၁၊ ထိုအခါ မြတ်စွာဘုရားသည် ခြေဆေးရေခွက်ငယ်၌ ရေအနည်း ငယ်မျှကို ချန်ထားပြီးလျှင် ရှင်ရာဟုလာကို "ချစ်သားရာဟုလာ သင် ချစ်သားသည် ခြေဆေးရေခွက်ငယ်၌ ငါဘုရား ချန်ထားအပ်သည့် ရေ အနည်းငယ်ကို မြင်၏မဟုတ်လော" ဟု မေးတော်မူလျှင် ရှင်ရာဟုလာ သည် "မြင်ပါသည် မြတ်စွာဘုရား" ဟူ၍ ပြန်ကြားလျှောက်ထားလေ ၏။ ထိုအခါ မြတ်စွာဘုရားသည် "ချစ်သားရာဟုလာ သိလျက် မုသား စကား ပြောကြားမှုဝယ် အရှက်မရှိသော ပုဂ္ဂိုလ်တို့၏သန္တာန်၌ ဤ ရေခွက်ငယ်၌ အနည်းငယ်သော ရေအတူပင် ကိလေသာငြိမ်းကြောင်း ကောင်းမြတ်သော ရဟန်းတရား အလွန့်အလွန် နည်းပါးလှပေ၏" ဟူ၍ အဆုံးအမစကား မိန့်ကြားတော်မူလေ၏။

၂။ ထို့နောက် မြတ်စွာဘုရားသည် ထိုချန်ထားသည့် ရေအနည်း ငယ်ကို စွန့်သွန်လိုက်ပြီးလျှင် "ချစ်သားရာဟုလာ....သင်ချစ်သားသည် အနည်းငယ်မျှသော ရေကို ငါဘုရား စွန့်သွန်အပ်သည်ကို မြင်၏မဟုတ် လော" ဟု မေးတော်မူလျှင် ရှင်ရာဟုလာသည် "မြင်ပါသည် မြတ်စွာ ဘုရား" ဟူ၍ ပြန်ကြား လျှောက်ထားလေ၏။ ထိုအခါ မြတ်စွာဘုရားသည် "ချစ်သားရာဟုလာ သိလျက်မုသားစကားပြောကြားမှုဝယ် အရှက်မရှိ သော ပုဂ္ဂိုလ်တို့၏ သန္တာန်၌ ဤအနည်းငယ်မျှသာ ရေကို ငါဘုရား စွန့်သွန်အပ်သည့် နည်းတူ ကိလေသာ ငြိမ်းကြောင်း ကောင်းမြတ်သော

ရဟန်းတရားကို စွန့်သွန်အပ်ပြီးသား ဖြစ်လေတော့၏''ဟူ၍ ဒုတိယအဆုံး အမစကား မိန့်ကြားတော် မူလေ၏၊

၃။ ထို့နောက်တဖန် မြတ်စွာဘုရားသည် ထိုရေခွက်ငယ်ကိုမှောက် ထားလိုက်ပြီးလျှင် ရှင်ရာဟုလာကို ''ချစ်သားရာဟုလာ သင်ချစ်သား သည် ရေခွက်ငယ်ကို ငါဘုရားမှောက်၍ထားအပ်သည်ကို မြင်၏မဟုတ် လော''ဟု မေးတော်မူလျှင် ရှင်ရာဟုလာသည် ''မြင်ပါသည် မြတ်စွာ ဘုရား''ဟူ၍ ပြန်ကြားလျှောက်ထားလေ၏။ ထိုအခါ မြတ်စွာဘုရားသည် ''ချစ်သား ရာဟုလာ သိလျက် မုသားစကား ပြောကြား မှုဝယ် အရှက်မရှိသော ပုဂ္ဂိုလ်တို့၏ သန္တာန်၌ ဤရေခွက်ငယ်ကို မှောက်ထား အပ်သည့်နည်းတူ ကိလေသာငြိမ်းကြောင်း ကောင်းမြတ်သော ရဟန်း တရားကို မှောက်ထားအပ်ပြီးသား ဖြစ်လေတော့၏'' ဟူ၍ တတိယ အဆုံးအမစကား မိန့်ကြားတော်မူလေ၏။

၄။ ထိုနောက်တဖန် မြတ်စွာဘုရားသည် ထိုမှောက်ထားသောရေခွက် ငယ်( ရေဖလားငယ်)ကို လှန်လိုက်ပြီးလျှင် (ထိုအချိန်၌ ရေခွက်ငယ် တွင်ရေတစက်မျှမရှိသည်ကို သတိပြုပါ) ရှင်ရာဟုလာကို''ချစ်သားရာဟု လာ သင်ချစ်သားသည် ရေတစက်မျှမရှိ၊ အချည်းနှီးဖြစ်နေသော ဤရေ ခွက်ငယ်ကို မြင်၏မဟုတ်လော''ဟု မေးတော်မူလေလျှင် ရှင်ရာဟုလာ သည်''မြင်ပါသည် မြတ်စွာဘုရား''ဟူ၍ ပြန်ကြားလျှောက်ထားလေ၏။ ထိုအခါ မြတ်စွာဘုရားသည် ''ချစ်သားရာဟုလာ သိလျက် မုသားစကား ပြောကြားမှုဝယ်အရှက်မရှိသောပုဂ္ဂိုလ်တို့၏ သန္တာန်၌ ဤရေတစက်မျှ မရှိ။ အချည်းနှီးဖြစ်နေသော ရေခွက်ငယ်အတူ ကိလေသာ ငြိမ်းကြောင်း ကောင်းမြတ်သော ရဟန်းတရား တစက်မျှမရှိ။ အချည်းနှီးသာ ဖြစ်၍ နေဘိ၏''ဟူ၍ စတုတ္ထ အဆုံးအမစကား မိန့်ကြားတော်မူလေ၏။

၅-၆ ထို့နောက် ဆက်၍ မြတ်စွာဘုရားသည် ရှင်ရာဟုလာ အား ဤဆိုလတ္တံ့သော ဩဝါဒကို ပေးတော်မူပြန်လေသည်၊''ချစ်သားရာဟု လာ လောက ဥပမာအားဖြင့် ပြည့်ရှင်မင်း၏ စစ်ဆင်ကြီးသည် စစ်မြေ ပြင်စစ်ပွဲဝယ် ရှေ့ခြေနှစ်ချောင်း (= ရှေ့လက်နှစ်ချောင်း) တို့ဖြင့် လည်းအလုပ်လုပ်၏။ နောက်ခြေနှစ်ချောင်းတို့ဖြင့်လည်း အလုပ်လုပ်၏''။

(မိမိ၏ နယ်အတွင်းရောက်လာ ရောက်လာတိုင်းသော ရန်သူတို့ကို ရှေ့လက်နှစ်ချောင်းတို့ဖြင့် ခုတ်၍ လည်းကောင်း၊ နောက်ခြေနှစ်ချောင်းတို့ဖြင့် ကန်၍လည်းကောင်း ချေမှုန်းသတ်ဖြတ်၏ဟု ဆိုလိုသည်)။ ရှေ့ပိုင်းကိုယ်ဖြင့်လည်းကောင်း၊ နောက်ပိုင်း ကိုယ်ဖြင့်လည်းကောင်း အလုပ်ကိုလုပ်၏။(ရှေ့ပိုင်းကိုယ်ဖြင့်လည်းကောင်း၊ နောက်ပိုင်းကိုယ်ဖြင့်လည်းကောင်း အခွင့်သင့်သလို ရန်သူစစ်တပ်၏ မိမိတို့ ကာကွယ်ရေးအတွက် ဆောက်လုပ်ထားအပ်သည့် ပျဉ်ချပ်ရုံ အထွတ် မပါ အမိုးသာ မိုးအပ်သည့် တံတိုင်းအရံအတား စသည်များကို ဖြိုဖျက်မှုကိုဆိုလိုသည်)။ ဦးကင်းဖြင့်လည်း အလုပ်ကိုလုပ်၏။(ဦးကင်းဖြင့် အလုပ်လုပ်မှုဟူသည်မှာ ချိန်ရွယ်မှန်းထား၍ "ဤအရပ်ကို ငါနင်းနှိပ် ကြိတ်ချေအံ့" ဟု ကြံစည်ကာ နောက်ဆုတ်အားယူ၍ စူးစူးစိုက်စိုက်ကြည့်ခြင်းတည်း။ ဤသို့ စစ်ဆင်ကြီး၏ စူးစူးစိုက်စိုက်ကြည့်ခြင်းကိုမြင်လျှင်ပင် တဘက်စစ်သားအရာအထောင်တို့သည် ကြောက်စိတ်ဝင်ကာနှစ်စုကွဲ၍ ရှဲကြရလေတော့သည်)။နားရွက်နှစ်ဘက်တို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ (ရန်သူတဘက်မှ ပစ်လိုက်သော မြားတို့ကို နားရွက်ဖြင့် ပုတ်ခတ်၍ မြေသို့ကျစေ၏ဟု ဆိုလိုသည်)။အစွယ်နှစ်ချောင်းတို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ (ရန်သူစစ်တပ်ဘက်မှ ဆင်, မြင်း, ဆင်စီးသူရဲ, မြင်းစီးသူရဲတို့၏ ခြေ စသည်ကို အစွယ်ဖြင့် တအားထိုးခြင်းကို ဆိုလိုသည်)။ အမြီးဖြင့်လည်း အလုပ်ကိုလုပ်၏။ (အမြီးစဉ်ဖွဲ့ချည်အပ်သော နွယ်ရှည်တပ်သည့် ဓားငယ်, သံတင်းပုဘ် စသည်ဖြင့် ရန်သူစစ်တပ်ကို ခုတ်ဖြတ် ဖျက်ဆီးမှုကို ဆိုလိုသည်)။ နှာမောင်းကိုကား ခံတွင်း (=ပစပ်တွင်း)သို့ သွင်းကာ စောင့်ရှောက်သေး၏။

ထိုသို့ စစ်ဆင်ကြီးပြုမူရာ၌ ဆင်စီးသူရဲ၏ စိတ်သန္တာန်ဝယ် ''ပြည့်ရှင်မင်း၏ ဤစစ်ဆင်ကြီးသည် စစ်မြေပြင်စစ်ပွဲဝယ် ရှေ့လက်နှစ်ချောင်းတို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ နောက်ခြေနှစ်ချောင်းတို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ ရှေ့ပိုင်းကိုယ်ဖြင့်လည်း အလုပ်ကိုလုပ်၏။နောက်ပိုင်းကိုယ်ဖြင့်လည်း အလုပ်ကိုလုပ်၏။ ဦးကင်းဖြင့်လည်း အလုပ်ကိုလုပ်၏။ နားရွက်

နှစ်ဘက်တို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ အစွယ်နှစ်ချောင်းတို့ဖြင့်လည်း အလုပ်ကိုလုပ်၏။ အမြီးဖြင့်လည်း အလုပ်ကိုလုပ်၏။ နှာမောင်းကိုကား ခံတွင်းသို့သွင်းကာ စောင့်ရှောက်ထားလေ၏။ ပြည့်ရှင်မင်း၏ ဤစစ်ဆင်ကြီးသည် အသက်ကို မစွန့်အပ်သေး''ဟူ၍ အကြံအစည် ဖြစ်လေသည်။

ချစ်သား ရာဟုလာ....အကြင်အခါ၌ ပြည့်ရှင်မင်း၏ စစ်ဆင်ကြီးသည် စစ်မြေပြင် စစ်ပွဲဝယ်(ရှေးဆိုအပ်ပြီးသည့်အတိုင်း) ရှေ့လက်နှစ်ချောင်း တို့ဖြင့်လည်းအလုပ်ကိုလုပ်၏။ နောက်ခြေနှစ်ချောင်းတို့ဖြင့်လည်း အလုပ်ကို လုပ်၏။ (ပေယျာလ) အမြီးဖြင့်လည်း အလုပ်ကိုလုပ်၏။ နှာမောင်း ဖြင့်လည်း (သံတင်းပုတ်ကိုဖြစ်စေ, ရှားနှစ်တင်းပုတ်ကိုဖြစ်စေ ပွေ့ချီကာ ထက်ဝန်းကျင် တဆယ့်ရှစ်တောင်ရှိသော အရပ်ဌာနကို ထုရိုက်ချေမှုန်း ခြင်း) အလုပ်ကို လုပ်၏။ ထိုသို့ စစ်ဆင်ကြီး ပြုမူရာ၌ ဆင်စီးသူရဲ၏ စိတ် သန္တာန်ဝယ် ''ပြည့်ရှင်မင်း၏ ဤစစ်ဆင်ကြီးသည် စစ်မြေပြင် စစ်ပွဲဝယ် ရှေ့လက် နှစ်ချောင်း တို့ဖြင့်လည်း အလုပ်ကို လုပ်၏။ နောက်ခြေ နှစ်ချောင်း တို့ဖြင့်လည်း အလုပ်ကို လုပ်၏။ (ပေယျာလ) အမြီးဖြင့် လည်း အလုပ်ကို လုပ်၏။ နှာမောင်း ဖြင့်လည်း အလုပ်ကို လုပ်၏။ ပြည့်ရှင်မင်း၏ ဤစစ်ဆင်ကြီးသည် မိမိအသက်ကို စွန့်အပ်လေပြီ။ ယခု အခါ ပြည့်ရှင်မင်း၏ စစ်ဆင်ကြီးသည် တစုံတခု မပြုလုပ်အပ်သောအရာ ဟူ၍ မရှိတော့ပြီ''ဟူ၍ အကြံအစည် ဖြစ်လေသကဲ့သို့ ချစ်သားရာဟုလာ- **ဤနည်းအတူပင် သိလျက် မုသားစကား ပြောကြားမှုဝယ် အရှက်မရှိသော ပုဂ္ဂိုလ်အား တစုံတခုချင်း (=သူ) မပြုဝံ့သော မကောင်းမှုဟူ၍ မရှိဟူ၍ ငါဘုရား ဟောကြား၏။**

ထို့ကြောင့် ချစ်သားရာဟုလာ သင်ချစ်သားသည် ''ငါကားရယ်ရွှင် မြူးထူးမှု ပြုလိုသဖြင့်သော်လည်း မုသားစကားကို မပြောဆိုအံ့''ဟူ၍ နှလုံးပိုက်ကာ ''သိက္ခာသုံးပါး ကျင့်တရားကို ပွားများကြိုးကုတ် အားထုတ်ရမည်''ဟူ၍ အလွန်လေးနက်သော ဩဝါဒစကားကို မိန့်ကြား တော်မူလေ၏။

၇။ တဖန် ဆက်၍ မြတ်စွာဘုရားသည် ရှင်ရာဟုလာကို ''ချစ်သား ရာဟုလာ ယခု ငါဘုရားမေးမည့်စကားကို သင်ချစ်သား မည်သို့မှတ်ထင်

သဘောကျသနည်း (သဘောကျသည့်အတိုင်း ပြောဆိုနိုင်ခွင့် ရှိသည်)။ ကြေးမုံမှန်သည် အဘယ်အကျိုးရှိသနည်း”ဟူ၍ မေးမြန်းတော်မူပြန်လေလျှင် ရှင်ရာဟုလာက“ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ကြေးမုံမှန်သည်လူ့မျက်နှာဝယ် ထင်ရှားရှိသည့်မှဲ့မည်း ဝက်ခြံအစရှိသောအပြစ်ကို ကြည့်ရှုဆင်ခြင် ပြင်ဆင်ရခြင်း အကျိုးရှိပါ၏”ဟူ၍ လျှောက်ထား ဖြေကြားလေသည်။ ထိုအခါ မြတ်စွာဘုရားက “ချစ်သား ရာဟုလာ၊ ဤအတူပင်လျှင် ဉာဏ်ပညာ မျက်စိဖြင့် ကြည့်ရှုဆင်ခြင် ဆင်ခြင် ပြီးမှ ကာယကံမှုကို ပြုရမည်။ ဉာဏ်ပညာမျက်စိဖြင့် ကြည့်ရှုဆင်ခြင် ဆင်ခြင်ပြီးမှ ဝစီကံမှုကို ပြောဆိုရမည်။ ဉာဏ်ပညာမျက်စိဖြင့် ကြည့်ရှုဆင်ခြင် ဆင်ခြင်ပြီးမှ မနောကံမှုကို ကြံစည်ရမည်” ဟူ၍ မာတိကာစကား အကျဉ်းထားပြီးလျှင် ဉာဏ်ပညာမျက်စိဖြင့် ကြည့်ရှုဆင်ခြင် ဆင်ခြင်ပြီးမှ ကာယကံမှု ပြုပုံ, ဝစီကံမှု ပြောဆိုပုံ, မနောကံမှု ကြံစည်ပုံတို့ကို သုံးချက်စီ ဝေဖန်၍ အကျယ် ဟောကြားတော်မူလေသည်*။

**အချုပ်အားဖြင့်ကား**....“ကာယကံမှု ပြုမည်ကြံလျှင် ဝစီကံမှု ပြောမည်ဆိုလျှင် မနောကံမှု ကြံစည်မည်ဆိုလျှင် မပြုမီ မပြောမီ မကြံစီမီ ကြိုတင်၍ ‘ယခု ငါပြုမည့် ပြောမည့် ကြံစည်မည့် ကာယကံမှု ဝစီကံမှု မနောကံမှု များသည် မိမိ သူတပါး နှစ်ဦးသားတို့ ဆင်းရဲဖို့များ ဖြစ်မည်လော၊ ဒုက္ခတရားကို တိုးပွားရင့်ကျက်စေမည့် အကုသိုလ်မှုများ ဖြစ်လေမည်လော’ ဟူ၍ ဆင်ခြင် ကြည့်ရှုရမည်၊ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ မိမိ သူတပါး နှစ်ဦးသား ဆင်းရဲမည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်ခဲ့လျှင် ဒုက္ခတရားကို တိုးပွား ရင့်ကျက်စေမည့် အကုသိုလ်မှုမျိုး ဖြစ်ခဲ့လျှင် ထိုသို့ သဘောရှိသော ကာယကံမှု ဝစီကံမှု မနောကံမှုများကို မပြုမိအောင် မပြောမိအောင် မကြံစည်မိအောင် ကြိုးစား၍ ရှောင်ကြဉ်ရမည်၊ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ မိမိ သူတပါး နှစ်ဦးသားတို့ မဆင်းရဲမည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်ခဲ့လျှင် သုခ

---

* ထိုအကျယ် ဟောကြားတော်မူပုံကို ပိဋကတ်တော် မြန်မာပြန်မှ ကြည့်ရှု မှတ်သားရာ၏။

တရားကို တိုးပွားရင့်ကျက်စေမည့် ကုသိုလ်မှုမျိုး ဖြစ်ခဲ့လျှင် ထိုသို့ သဘောရှိသော ကာယကံမှု ဝစီကံမှု မနောကံမှုများကို ပြုလုပ် ပြောဆို ကြံစည်ရမည်။

ကာယကံမှု ပြုလုပ်ဆဲ ဝစီကံမှု ပြောဆိုဆဲ မနောကံမှု ကြံစည်ဆဲမှာလည်း (ထိုနည်းအတူပင်) 'ငါ ယခု ပြုဆဲ ပြောဆိုဆဲ ကြံစည်ဆဲ ဖြစ်သော ကာယကံမှု-ဝစီကံမှု မနောကံမှုများသည် မိမိ သူတပါး နှစ်ဦးသားတို့ ဆင်းရဲပင်ပန်းဖို့ ဖြစ်သလော၊ ဒုက္ခတရားကို တိုးပွားရင့်ကျက်စေသည့် အကုသိုလ်မှုများ ဖြစ်သလော' ဟူ၍ ဆင်ခြင် ကြည့်ရှုရမည်။ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ မိမိ သူတပါး နှစ်ဦးသားတို့ ဆင်းရဲ ပင်ပန်းစေသည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်နေလျှင် ဒုက္ခတရားကို တိုးပွား ရင့်ကျက်စေသည့် အကုသိုလ်မှုမျိုးဖြစ်လျှင် ထိုသို့ သဘောရှိသော ကာယကံမှု ဝစီကံမှု မနောကံမှုများကို (ရှေ့သို့ဆက်၍ မပြုပဲ မပြောပဲ မကြံစည်ပဲ) ဆုတ်နစ်ရပ်တန့်ရမည်။ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ မိမိ သူတပါးနှစ်ဦးသားတို့ မဆင်းရဲ မပင်ပန်းသည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်ခဲ့လျှင် သုခတရားကို တိုးပွားရင့်ကျက်စေသည့် ကုသိုလ်မှုမျိုး ဖြစ်ခဲ့လျှင် ထိုသို့ သဘောရှိသော ကာယကံမှု ဝစီကံမှု မနောကံမှုများကို အားအဆင့်ပေးကာ အဖန်ဖန် ပြုလုပ်ရမည် ပြောဆိုရမည် ကြံစည်ရမည်။

ကာယကံမှုပြုလုပ်ပြီး ဝစီကံမှုပြောဆိုပြီး မနောကံမှု ကြံစည်ပြီးသော အခါမှာလည်း (ရှေးနည်းအတူပင်) ငါ ပြုပြီး ကြံစည်ပြီးသော ကာယကံမှု ဝစီကံမှု မနောကံမှုများသည် မိမိ သူတပါးနှစ်ဦးသားတို့ ဆင်းရဲပင်ပန်းဖို့ရန် ဖြစ်လေပြီလော။ ဒုက္ခတရားကို တိုးပွား ရင့်ကျက်စေသည့် အကုသိုလ်မှုများ ဖြစ်လေပြီလော'' ဟူ၍ ဆင်ခြင်ကြည့်ရှုရမည်၊ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ မိမိ သူတပါးနှစ်ဦးသားတို့ကို ဆင်းရဲပင်ပန်းစေသည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်နေပြီဆိုလျှင်, ဒုက္ခတရားကို တိုးပွား ရင့်ကျက်စေသည့် အကုသိုလ်မှုမျိုး ဖြစ်နေပြီဆိုလျှင် ထိုသို့ သဘောရှိသော ကာယကံမှုမျိုး ဝစီကံမှုမျိုးတို့ကို မြတ်စွာဘုရားထံတော်၌ဖြစ်စေ, သိကြား လိမ္မာသော သီတင်းသုံးဖော်တို့ အထံ၌ဖြစ်စေ ဤသို့သော

ကာယကံမှုမှား ဝစီကံမှုမှားများကို ပြုမှားခဲ့မိကြောင်း ပြောမှားမိခဲ့ကြောင်း ပွင့်ပွင့်လင်းလင်း ထင်ထင်ရှားရှား မကွယ်မဝှက် ပြောကြားရမည်။ ထိုသို့ ပြောကြားပြီးလျှင် နောက်အခါ၌လည်း ထိုအမှုမှားများကို မပြုမှား မပြောမှားမိအောင် စောင့်စည်းထိန်းသိမ်းရမည်။အကုသိုလ်မနောကံမှုမျိုး ဖြစ်နေပြီဆိုလျှင် ထိုသို့သော မနောကံမှုမျိုးကို ငြီးငွေ့ရမည်၊ ရှက်နိုးရမည်။ စက်ဆုပ်ရမည်။ ငြီးငွေ့ ရှက်နိုး စက်ဆုပ်ပြီးလျှင် နောက်အခါ၌လည်း ထိုမနောကံမှုမှားကို မကြံစည်မိအောင် စောင့်စည်းထိန်းသိမ်းရမည်။ ယင်းသို့ ဆင်ခြင်ကြည့်ရှု၍ **မိမိ သူတပါး နှစ်ဦးသားတို့ မဆင်းရဲ မပင်ပန်းစေသည့် ကာယကံမှု ဝစီကံမှု မနောကံမှုမျိုး ဖြစ်နေပြီဆိုလျှင်,သုခတရားကို တိုးပွား ရင့်ကျက်စေသည့်ကုသိုလ်မှုမျိုး ဖြစ်နေပြီဆိုလျှင် နေ့နေ့ညဥ့်ညဥ့် ထိုကုသိုလ်နှင့်ယှဉ်သောပီတိပါမောဇ္ဇ=နှစ်သက်ခြင်း ဝမ်းမြောက်ခြင်းဖြင့်ပင် သိက္ခာသုံးပါးကုသိုလ်တရားတို့ကို ပွားများကြိုးကုတ် အားထုတ်နေထိုင်ရမည်။**

အတိတ်, အနာဂတ်, ပစ္စုပ္ပန် ကာလသုံးတန်၌ဖြစ်ပြီး, ဖြစ်လတ္တံ့,ဖြစ်ဆဲဖြစ်ကြသော ဘုရားပစ္စေကဗုဒ္ဓာအရိယာသာဝကတို့သည် ဤနည်းနှင်နှင် ဆင်ခြင်ကြည့်ရှု ကြည့်ရှုပြီးလျှင် ကာယကံမှု ဝစီကံမှု မနောကံမှုများကို စင်ကြယ် စေကြပြီး, စင်ကြယ်စေကြ လတ္တံ့, စင်ကြယ် စေကြဆဲဖြစ်ကုန်၏။

သို့ရကား ''ချစ်သားရာဟုလာ....သင်ချစ်သားသည် 'ငါကား ပစ္စဝေက္ခဏာတင် ဆင်ခြင် ကြည့်ရှုကြည့်ရှုပြီးလျှင် ကာယကံမှုကို စင်ကြယ်စေမည်၊ ဝစီကံမှုကို စင်ကြယ်စေမည်၊ မနောကံမှုကို စင်ကြယ်စေမည်' ဟူ၍ နှလုံးပိုက်ကာ သိက္ခာသုံးပါး ကျင့်တရားကို ပွားများ ကြိုးကုတ်အားထုတ်ရမည်'' ဟူ၍ အဆုံးအမ ဩဝါဒစကား နိဂုံးချုပ် မိန့်ကြားတော်မူလေသည်။

[ဤ၌။ ။''အဘယ်မျှလောက်သော ဌာနဖြစ်သည့် ကာယကံ ဝစီကံတို့ကို စင်ကြယ်စေအပ် သုတ်သင်အပ်ကုန်သနည်း၊ အဘယ်မျှလောက်သော ဌာန၌ဖြစ်သည့် မနောကံကို စင်ကြယ်စေအပ် သုတ်သင်အပ်သနည်း'' ဟူ၍ မေးမြန်းစစ်ဆေးဖွယ် ရှိ၏။

**အဖြေကား**....နံနက်ခင်း အချိန်၌ ဖြစ်သော ကာယကံ ဝစီကံတို့ကို (အချိန်ဆွဲ၍ မထားပဲ) ဆွမ်းကိစ္စပြီး၍ နေ့သန့်ရာအရပ်၌ ထိုင်နေလျှင် ပင် စင်ကြယ်စေအပ် သုတ်သင်အပ်ကုန်၏။ ချဲ့ဦးအံ့....ဆွမ်းကိစ္စ ပြီး၍ နေ့သန့်ရာအရပ်၌ ထိုင်နေသော ရဟန်းသည် "အရက်တောက်သည့်မှစ၍ ဤယခုနေရာ၌ ထိုင်နေသည်တိုင်အောင် ဤအချိန်အတွင်း၌ သူတပါး တို့ မနှစ်မြို့နိုင်လောက်အောင် ငါပြုမှား ပြောမှားမိခဲ့သော ကာယကံမှု များ, ဝစီကံမှုများ ရှိလေသလော" ဟု ဆင်ခြင်ကြည့်ရှုရာ၏။အကယ်၍ ပြုမှား ပြောမှားမိခဲ့သော ကာယကံမှုများ, ဝစီကံမှုများရှိ၏ဟု ဆင်ခြင် စဉ်းစားမိလျှင် ဒေသနာ ကြားသင့်သော ကာယကံမှု, ဝစီကံမှုများကို ဒေသနာကြားရာ၏။ ထင်စွာ ပြုသင့်သော ကာယကံမှု, ဝစီကံမှုများကို သီတင်းသုံးဖော်တို့ထံ၌ ထင်စွာပြုရာ၏။ အကယ်၍ ပြုမှား ပြောမှားမိခဲ့ သော ကာယကံမှုများ, ဝစီကံမှုများ မရှိခဲ့လျှင် (မိမိကိုယ်ရေးအတွက် နှစ်သက် ဝမ်းမြောက်ခြင်း ဖြစ်ပေလိမ့်မည်)။ ထိုနှစ်သက်ဝမ်းမြောက် ခြင်းဖြင့်ပင် နေဆိုင်ရာ၏။

မနေ့ကကိုကား ထို ဆွမ်းရှာမှီးရာ၌ာန၌ စင်ကြယ်စေအပ် သုတ် သင်အပ်၏။ စင်ကြယ်စေပုံမှာ "ယနေ့ ငါ့မှာ ဆွမ်းရှာမှီးရာအရပ်ဌာန ၌ ရူပါရုံအစရှိသောအာရုံများဝယ် အားနည်းသော လောဘ, အားကြီး သောလောဘ, ပြစ်မှားသောဒေါသ, တွေဝေသော မောဟများ ဖြစ် ပွားခဲ့လေသလော" ဟူ၍ ဆင်ခြင်ကြည့်ရှုရာ၏။ အကယ်၍ ဖြစ်ပွားခဲ့၏ ဟု ဆင်ခြင်စဉ်းစားမိခဲ့လျှင် "ငါသည် နောက်ထပ်တဖန် ဤသို့သော လောဘမှု, ဒေါသမှု, မောဟမှုများကို မပြုမှားစေတော့အံ့" ဟူ၍ စိတ် ဖြင့်ပင် ဆောက်တည်ရာ၏။ အကယ်၍ မဖြစ်ပွားခဲ့လျှင် (ယင်းသို့ မဖြစ် ပွားသည်ကို အာရုံပြု၍ ကိုယ်ရေးအတွက် နှစ်သက် ဝမ်းမြောက်ခြင်း ဖြစ်ပေလိမ့်မည်)။ ထို နှစ်သက် ဝမ်းမြောက်ခြင်းဖြင့်ပင် နေထိုင်ရာ၏။ ဤကား အဖြေတည်း]။

အမ္ဗလဋ္ဌိက ရာဟုလောဝါဒသုတ္တန်ကို
ဟောကြားတော်မူကြောင်း ပြီး၏။

# မဟာရာဟုလောဝါဒ သုတ်

## ရှင်ရာဟုလာကို အကြောင်းပြု၍
## မဟာရာဟုလောဝါဒသုတ်ကို ဟောတော်မူခြင်း

မြတ်စွာဘုရားရှင် သာဝတ္ထိပြည်မွန် ဇေတဝန်ကျောင်းတိုက်၌ သီတင်းသုံးနေတော်မူဆဲဖြစ်သောထိုအချိန်၌ သားတော် ရှင်ရာဟုလာ သာမဏေမှာ အသက် တဆယ့်ရှစ်နှစ်အရွယ်သို့ ရောက်ခဲ့လေပြီ၊ သာမဏေဝါ တဆယ့်တဝါ ရရှိခဲ့လေပြီ။

တနေ့သ၌ မြတ်စွာဘုရားရှင်သည် နံနက်အခါ သာဝတ္ထိပြည်အတွင်းသို့ ဆွမ်းခံကြွဝင်တော်မူလေ၏။ အရှင် ရာဟုလာသည်လည်း မြတ်စွာဘုရားရှင်၏ နောက်တော်မှ ဖဝါးခြေထပ် ထက်ကြပ်မကွာ လိုက်ပါခဲ့လေသည်။

ထိုသို့ မြတ်စွာဘုရားရှင်နှင့် ရှင်ရာဟုလာတို့ ရှေ့နောက်မကွာ ကြွသွားကြရာ၌ မြတ်စွာဘုရားရှင်သည် ပင်လုံးကျွတ်ပွင့်သည့် အင်ကြင်းတော အတွင်း၌ ရောက်ရှိကာ သာယာသော မြေအပြင်သို့ သက်ရောက်ရန် တောအုပ်အတွင်းမှ ထွက်ချီလာသော မုန်သောက် ဆင်ကြီးကဲ့သို့ တင့်တယ်တော် မူလှပေ၏။ ရှင်ရာဟုလာသည်လည်း ဆင်ပြောင်ကြီး၏ နောက်မှ ထက်ကြပ်မကွာ ထွက်ချီလာသော ဆင်ပေါက်ကလေးကဲ့သို့ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည်ညနေချမ်းအခါ၌ ပတ္တမြားဂူမှ အစာရှာရန် ထွက်ချီလာသော ကေသရာ ခြင်္သေ့မင်း အတူ တင့်တယ်တော်မူ၏။ ရှင်ရာဟုလာသည်လည်း သားတို့သနင်း ကေသရာ ခြင်္သေ့မင်း၏နောက်မှ ထက်ကြပ်မကွာ လိုက်ပါလာသော ကေသရာ ခြင်္သေ့ငယ်ကဲ့သို့ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည် ကျောက်

စိမ်းငတောင်သဖွယ် တင့်တယ်သောအသရေရှိသည့် တောအုပ်အတွင်းမှ ထွက်ချီလာသော ကျားမင်းကဲ့သို့ တင့်တယ်တော်မူပေ၏။ ရှင်ရာဟုလာသည်လည်း ကျားမင်း၏နောက်မှ ထက်ကြပ်မကွာ လိုက်ပါလာသော ကျားငယ်အတူ တင့်တယ်တော်မူပေ၏။

မြတ်စွာဘုရားရှင်သည် လက်ပံတောမှ ထွက်ချီလာသော ဂဠုန်ငှက်မင်းကဲ့သို့ တင့်တယ်တော်မူ၍ ရှင်ရာဟုလာသည် ဂဠုန်ငှက်မင်း၏နောက်မှ ထက်ကြပ်မကွာ လိုက်ပါလာသော ဂဠုန်ငှက်ငယ်အတူ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည် စိတ္တကူဋ်တောင်မှ ကောင်းကင်အပြင်သို့ ပျံတက်သော ရွှေဟင်္သာငှက်မင်းကဲ့သို့ တင့်တယ်တော်မူ၍ ရှင်ရာဟုလာသည် ရွှေဟင်္သာငှက်မင်း၏ နောက်မှ ထက်ကြပ်မကွာ လိုက်ပါပျံသန်းသော ရွှေဟင်္သာငှက်ငယ်အတူ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည် ဆဒ္ဒန်အိုင်ကြီးအတွင်း ချဉ်းနင်းသက်ရောက်သော ရွှေလှေကြီးကဲ့သို့ တင့်တယ်တော်မူ၍ ရှင်ရာဟုလာသည် ရွှေလှေကြီးနောက်မှ အစဉ်တစိုက် လိုက်ပါလာသည့် ရွှေလှေငယ်အတူ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည် စကြာရတနာ အာနုဘော်ဖြင့် ကောင်းကင်အပြင်၌ လှည့်လည်ကြွသွားသည့် စကြာမင်းကဲ့သို့ တင့်တယ်တော်မူ၍ ရှင်ရာဟုလာသည် စကြာမင်း၏ နောက်မှ အတူတကွ လိုက်ပါလှည့်လည်သော သားကြီးရတနာအတူ တင့်တယ်တော်မူပေ၏။ မြတ်စွာဘုရားရှင်သည် တိမ်ဘိုက်ကင်းစင်သည့် ကောင်းကင်အပြင်၌ လှည့်လည်သွားသော ကြယ်များသနင်း လမင်းကဲ့သို့ တင့်တယ်တော်မူ၍ ရှင်ရာဟုလာသည် လမင်း၏နောက်မှ ထက်ကြပ်မကွာ လိုက်ပါတောက်ပသော သောက်ရှူးကြယ်(=သောကြာကြယ်) အတူ တင့်တယ်တော်မူပေ၏။

မြတ်စွာဘုရားရှင်သည်လည်း မဟာသမ္မတနွယ်စဉ် ဩက္ကာက ရာဇဝင်၌ သန့်စင်ဖွားမြောက်တော်မူ၏၊ ရှင်ရာဟုလာသည်လည်းထိုနည်းတူပင်။ မြတ်စွာဘုရားရှင်သည်လည်း ခရုသင်း၌ လောင်းစည့်အပ်သော နို့ရည်အတူ စင်ကြယ်သောခတ္တိယဇာတ် မြတ်သောမင်းမျိုး၌ ဖြစ်တော်မူ၏၊ ရှင်ရာဟုလာသည်လည်းထိုနည်းတူပင်။ မြတ်စွာဘုရားရှင်သည်လည်း

မင်းစည်းစိမ်ကို ပယ်စွန့်၍ ရဟန်းပြုတော် မူခဲ့၏။ ရှင်ရာဟုလာသည်လည်း ထိုနည်းတူပင်။ မြတ်စွာဘုရားရှင်၏ ကိုယ်တော်သည်လည်း မဟာပုရိသလက္ခဏာတော်ကြီး သုံးဆယ့်နှစ်ပါးတို့ဖြင့် တန်းဆာ ဆင်အပ်လျက် နဖာမြို့တံခါးဝ၀ယ် ကောင်းစွာစိုက်ထောင်အပ်သော ရတနာတုရိုဏ်တိုင်ကဲ့သို့လည်းကောင်း၊ ပင်လုံးကျွတ်ပွင့်သော ပင်လယ် ကသစ်ပင်ကြီးကဲ့သို့လည်းကောင်း အလွန်လျှင် စိတ်နှလုံးကို ယူကျုံးဆွဲဆောင်နိုင်ပေ၏၊ ရှင်ရာဟုလာ၏ ကိုယ်သည်လည်း ထိုနည်းတူပင်။

ဤသို့လျှင် ရှေးဆုတောင်းအထူးနှင့် ပြည့်စုံတော်မူကြသည့် မင်းမျိုးမှချည်း ရဟန်းပြုတော်မူကြသည့် မင်းတို့၏ သိမ်မွေ့ခြင်း နှင့် ချည်းပြည့်စုံတော်မူကြသည့် ရွှေရည်အဆင်း ဝါဝင်းသော ကိုယ်ရည်ရှိတော်မူကြသည့်မဟာပုရိသလက္ခဏာတော်တို့နှင့်လည်းပြည့်စုံတော်မူကြ သည့် ဗုဒ္ဓရှင်ဘော်ဘုရားနှင့် သားတော် ရှင်ရာဟုလာ မဟာပုရိသ ပုဂ္ဂိုလ်မြတ်နှစ်ဆူတို့သည် လမ်းတကြောင်းတည်း ကြွသွားတော်မူကြကုန်သည်ဖြစ်၍ ရှေ့နောက်အစဉ်အတိုင်း သွားကြသည့် လမင်းနှစ်စင်း နေမင်း နှစ်စင်း နှစ်ဦးနှစ်ဦးစီဘောသိကြားနတ်မင်း သုယာမနတ်မင်း သန္တုသိတနတ်မင်း သုနိမ္မိတနတ်မင်း ဝသဝတ္တီနတ်မင်းမဟာဗြဟ္မာမင်းစသည်တို့၏ အသရေကို မိမိတို့၏ အသရေဖြင့် လွှမ်းမိုးနှိပ်စက်ကြသည့်ပမာ လွန်စွာတင့်တယ်တော်မူကြကုန်၏။

ထိုသို့ တင့်တယ်တော်မူကြရာ၌ အရှင်ရာဟုလာသည် မြတ်စွာဘုရားရှင်၏နောက်တော်မှ ဖဝါးခြေရာပ် ထက်ကြပ်မကွာ လိုက်ပါရင်းကပင် ခြေဖဝါးအပြင်မှသည် ဆံတော်ဖျား တိုင်အောင် မြတ်စွာဘုရားရှင်ကို ကြည့်ရှုလတ်သည်တွင် မြတ်စွာဘုရားရှင်၏ ဗုဒ္ဓအသရေတော်ဖြင့် တင့်တယ်တော်မူပုံကို အာရုံစေ့စေ့ ဖူးမြင်တွေ့ရကား

"ငါ၏ ဖဘုရားသည်သုံးဆယ့်နှစ်ပါးသော လက္ခဏာတော်ကြီးတို့ဖြင့်ဆန်းကြယ်သော ရူပကာယ ကိုယ်တော် ရှိတော်မူလျက် ကိုယ်ကော်ရောင်တို့ဖြင့် ဝန်းရံအပ်ရကား ကသုန်သုန်ကဖွဲ့ဖွဲ့ဖြန့်ကြဲအပ်သည့် ရွှေနှပ်ပိုးတို့၏အကြားသို့ ရောက်နေတော်မူသကဲ့သို့ လည်း

ကောင်း, လျှပ်နွယ်တို့ဖြင့် ဝန်းရံအပ်သော ရွှေတောင်ကြီးကဲ့သို့လည်းကောင်း, ယန္တရားချည်တို့ဖြင့် ဆွဲငင်ကုံးသီအပ်သည့် ရတနာခုနစ်ရပ်တို့ဖြင့် ဆန်းကြယ်သောရွှေတုရိုဏ်တိုင်ကဲ့သို့လည်းကောင်း, တွေးတွေးနီမြန်းပံသုကူသက်န်းဖြင့် ဖုံးလွှမ်းဝတ်ရုံအပ်ပါသော်လည်းကမ္ဗလာနီဖြင့် ဝန်းရံအပ်သော ရွှေတောင်ကြီးကဲ့သို့ လည်းကောင်း, သန္တာနွယ်တို့ဖြင့် စီခြယ်ပြုပြင် တန်းဆာဆင်အပ်သည့် ရွှေတုရိုဏ်တိုင်ကဲ့သို့လည်းကောင်း, ဆုန်းမှုန့် (=ဟင်းသပြဒါးမှုန့်) တို့ဖြင့်ပူဇော်အပ်သည့် ရွှေစေတီမြတ်ကဲ့သို့ လည်းကောင်း ချိပ်ရည်ဖြင့်လိမ်းကျံအပ်သည့် ရွှေယဇ်တိုင်ကဲ့သို့ လည်းကောင်း, နီမြန်းသောတိမ်တိုက်ကြားမှ ဖွားကနဲ တက်ထွန်းသည့် လပြည့်ဝန်းကြီး ကဲ့သို့လည်းကောင်း, တင့်တယ်တော်မူလှပါပေ၏။ အမျှ သုံးဆယ်သောပါရမီတော်တို့၏ အာနုဘော်ဖြင့် မွမ်းမံပြုပြင် စီရင်အပ်သော ကိုယ်တော်မြတ်၏ အသရေနှင့် ပြည့်စုံပုံကား အံ့သြ၍ မဆုံးနိုင်အောင်ပင်ရှိပါပေ၏”

ဟူ၍ ကြံစည်လေသည်။ တို့နောက် မိမိကိုယ်ကိုလည်း ကြည့်ရှုပြီးလျှင် “ငါသည်လည်း တင့်တယ်လှပေ၏။ အကယ်၍များ မြတ်စွာဘုရားသည် လေးကျွန်းသနင်း စကြာမင်းအဖြစ်ကို ပြုတော်မူခဲ့လျှင် ငါ့အား သားကြီး ဩရသ ပရိဏာယကရာထူးကို ပေးသနားတော်မူပေလိမ့်မည်။ ဤသို့ ဖြစ်လျှင် အတိုင်းထက်အလွန်ပင် ဇမ္ဗူဒိပ်ကျွန်းအပြင်သည် တင့်တယ်လာရာ၏”ဟူ၍ကြံစည်ကာ မိမိကိုယ်ကိုအမှီပြု၍ ဂေဟာဿိတ တဏှာကိုဖြစ်စေလေသည်။

မြတ်စွာဘုရားရှင်သည်လည်းရှေ့မှကြွသွားတော်မူရင်း ကပင်“ယခုအခါသားတော်ရာဟုလာ၏ ကိုယ်ခန္ဓာအတ္တဘောသည် ဒရေ့ အသားအသွေးများပြည့်ဖြိုး၍ လာလေပြီ၊ တပ်စွန်းဖွယ်ဖြစ်သည့် အဆင်း အဖုံဖုံရူပါရုံအစရှိသည်တို့၌ မရပ်မနား စိတ်ကစားလျက် ပြေးသွားသောအခါ ဖြစ်ချေသည်။ သားတော် ရာဟုလာသည် အဘယ်သို့သော အကြံအစည်များပြောများ ကာ အခါကို လွန်စေသနည်း”ဟူ၍ ကြံစည် ဆင်

ခြင်တော်မူလေလျှင် ဆင်ခြင်တော်မူသော ထိုခဏမှာပင် “ကြည်လင်သော ရေအပြင်၌ သွား၊နေသော ငါးကို မြင်ရသကဲ့သို့လည်းကောင်း, သန့်ရှင်းစင်ကြယ်သော ကြေးမုံ(=မှန်)အဝန်း၌ မျက်နှာရိပ်ကို မြင်ရသကဲ့သို့လည်းကောင်း ရှင်ရာဟုလာ၏ ထိုဂေဟဿိတ တဏှာလောဘနှင့်ယှဉ်သော စိတ်ဖြစ်စဉ်ကို လင်းလင်းမြင်တော်မူလေ၏။ ထိုသို့မြင်လျှင် မြင်ခြင်းပင် “ဤရာဟုလာ သာမဏေသည် ငါဘုရား၏ သားတော်ဖြစ်လျက်ငါဘုရား၏နောက်မှလိုက်ပါရင်းပင် ‘ငါသည်တင့်တယ်၏၊ငါ၏ရုပ်ရည်အဆင်းကားသန့်ရှင်းကြည်လင်လှပေ၏’ ”ဟူ၍မိမိ၏ကိုယ်ခန္ဓာအတ္တဘောကိုအမှီပြု၍ ဂေဟဿိတတဏှာလောဘကို ဖြစ်စေဘိ၏။ ဆိပ်ကမ်းမဟုတ်သည်၌ သက်ဆင်းကာ လမ်းမှားကိုသွားလျက် မကျက်စားသင့်သော အာရုံ၌ ကျက်စားဘိ၏။ မျက်စိလည် လမ်းမှားသော ခရီးသွားယောက်ျားကဲ့သို့ မသွားသင့်သော အရပ်သို့ သွား၍ နေဘိ၏။ **ရာဟုလာ၏ ဤယခုဖြစ်ပွားသော လောဘ ကိလေသာသည် ကိုယ်ခန္ဓာအတွင်း၌ ဆက်လက် လက်ခံထားသဖြင့် ကြီးပွား၍လာခဲ့လျှင် မိမိသူတပါး နှစ်ဦးသားတို့၏ အကျိုးများကို အမှန်အတိုင်း သိမြင်ရန် အခွင့်အရေး ပေးလိမ့်မည်မဟုတ်။ ထို့ကြောင့် ငရဲ, တိရစ္ဆာန်, ပြိတ္တာ, အသုရကာယ် အပါယ်လေးဘုံနှင့်တကွ ကြပ်တည်းကျဉ်းမြောင်းလှသည့်အမိဝမ်းခေါင်း၌ ပဋိသန္ဓေ တည်နေစေလေရာ၏။** ဤသို့ စသည်ဖြင့် အနမတဂ်သံသရာဝဋ်စက်၌ ပစ်ချလေရာ၏။ မှန်၏။

ဤလောဘတရားသည် အကျိုးမဲ့ကို ဖြစ်စေတတ်၏။လောဘသည် ကုသိုလ်စိတ်ကို ဖျက်ဆီးတတ်၏။ ဤလောဘကို အကြောင်းပြုကာ စိတ်သန္တာန်အစဉ်၌ ကြောက်ဖွယ်မအေး ဘေးကြီး ဖြစ်နိုင်၏။ ထိုအကြောင်းကို လူအပေါင်းကား မသိမြင်ကြချေ။ တပ်မက်သော သူသည် အကျိုးအကြောင်းကို ကောင်းစွာမသိမြင်နိုင်။ သတ္တဝါကို လောဘတရား လွှမ်းမိုး နှိပ်စက်သော အခါ အမိုက်မှောင်ကြီး အတိဖြစ်၍နေဘိ၏။

ကွဲပေါက်သော ပျဉ်ချပ်အကြားမှ ရေတဖွားဖွား စိမ့်ဝင်၍ နေသော ရတနာအပြည့် ဘင်ဆောင်လာသည့် စက်လှေကြီးကို တခဏမျှလည်း

လျစ်လျူမရှုသင့်။ ထိုစက်လှေကြီး၏ အကွဲအပေါက်ကို လျင်မြန်စွာ ပိတ်ဆို့သင့်သကဲ့သို့ ထို့အတူပင် ဤရာဟုလာ သာမဏေကိုလည်း လျစ်လျူရှုကာ အမှုမဲ့အမှတ်မဲ့ မထားသင့်ချေ။ ဤလောဘ ကိလေသာသည် ရာဟုလာ၏သန္တာန်၌ ဖြစ်ပွားနေသည့် သီလ-အစရှိသော သူတော်ဥစ္စာ ရတနာတို့ကို မဖျက်ဆီးမီ ထိုကိလေသာကို နှိပ်နင်းပေအံ့'' ဟူ၍ ကြံစည်ဆုံးဖြတ်မှုကို ပြုတော်မူလေ၏။

အထူးအားဖြင့် ဤသို့သော အရာမျိုး၌ မြတ်စွာဘုရားရှင်တို့၏ နာဂဝိလောကန ခေါ်ဆိုသည့် ဆင်ပြောင်ကြီးကဲ့သို့ တကိုယ်လုံး ပြန်လှည့်၍ ကြည့်တော်မူခြင်းမျိုး ဖြစ်လေသည်။ သို့ရကား ယန္တရား စက်ဖြင့် လှည့်လိုက်သော ရွှေရုပ်တုတော်ကဲ့သို့ မြတ်စွာဘုရားရှင်သည် ကိုယ်တော်အလုံးကို ပြန်လှည့်၍ ရပ်တည်တော်မူကာ ရှင်ရာဟုလာကို

''ရာဟုလာ ဖြစ်ပြီး(အတိတ်)ရုပ်,ဖြစ်လတ္တံ့ (အနာဂတ်) ရုပ်နှင့် ဖြစ်ဆဲ (ပစ္စုပ္ပန်) ရုပ် ၃, ကိုယ်တွင်း သန္တာန်၌ ဖြစ်သော ရုပ်နှင့် ကိုယ်ပသန္တာန်၌ ဖြစ်သောရုပ် ၂, ရုန့်ရင်း ကြမ်းတမ်းသော ရုပ်နှင့် နူးညံ့ သိမ်မွေ့သောရုပ် ၂, အညံ့စားဖြစ်သောရုပ်နှင့် အကောင်းစား ဖြစ်သောရုပ် ၂, အဝေး၌ တည်သော ရုပ်နှင့် အနီး၌ တည်သော ရုပ် ၂=ဤသို့လျှင် တဆယ့်တမျိုး ပြားသော ရုပ်တရား အားလုံးကို 'ငါ၏ဥစ္စာ မဟုတ်ပါတကား။ ငါမဟုတ်ပါတကား။ ငါ၏ အတ္တလိပ်ပြာ မဟုတ်ပါတကား'ဟု ထိုရုပ်တရားကို ဟုတ်မှန်သောအတိုင်း ကောင်းသော ဝိပဿနာ ဉာဏ်ပညာဖြင့် ရှုရမည်''

ဟု မိန့်တော်မူလေ၏။

ထိုအခါ ရှင်ရာဟုလာက ''ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရုပ်ကိုသာလျှင် (ဤသို့) ရှုရပါမည်လော၊ စကားကောင်းကို ဆိုတော်မူတတ်သော မြတ်စွာဘုရား၊ ရုပ်ကိုသာလျှင်(ဤသို့) ရှုရပါမည်လော'' ဟု မေးမြန်းလျှောက်ထားလေလျှင် မြတ်စွာဘုရားရှင်သည် **''ရာဟုလာ၊ ရုပ်ကိုလည်း (ဤသို့) ရှုရမည်။ ဝေဒနာကိုလည်း(ဤသို့)ရှုရမည်။သညာကိုလည်း(ဤသို့)ရှုရမည်။ သင်္ခါရတို့ကိုလည်း(ဤသို့)ရှုရမည်။ ရာဟုလာ ဝိညာဏ်ကိုလည်း (ဤသို့)ရှုရမည်''**ဟု မိန့်တော်မူလေ၏။

[ဤ၌။ ။ဘုန်းတော် ကြီးသော မြတ်စွာဘုရား ရုပ်ကို သာလျှင် (ဤသို့)ရှုရပါမည်လောဟု အရှင်ရာဟုလာ မေးမြန်းလျှောက်ထားခြင်း၏ အကြောင်းမှာ

"တဆယ့်တမျိုးပြားသော ရုပ်တရားအားလုံးကို 'ငါ၏ဥစ္စာမဟုတ်ပါတကား၊ ငါမဟုတ်ပါတကား၊ ငါ၏ အတ္တလိပ်ပြာမဟုတ်ပါတကား' ဟု ဟုတ်မှန်သောအတိုင်း ဝိပဿနာဉာဏ်ပညာဖြင့် ရှုရမည်"ဟူသော တရားစကားကို ကြားသိလိုက်ရလျှင်ပင် ရှင်ရာဟုလာ၏ စိတ်သန္တာန်ဝယ် "မြတ်စွာဘုရားသည် ရုပ်တရား အားလုံးကို ဝိပဿနာ ဉာဏ်ပညာဖြင့် ဤသို့ရှုရမည်"ဟူ၍ ဟောတော်မူ၏။ ဝေဒနာစသော ကျန်ခန္ဓာလေးပါးတို့၌ အဘယ်သို့လျှင် ရှုသိ ကျင့်ကြံရပါမည်နည်း။ "ရုပ်ခန္ဓာကဲ့သို့ပင် ရှုသိ ကျင့်ကြံရမည် ဖြစ်လေရာ၏" ဟု ဆက်၍ ဆင်ခြင် သိမြင်သော နယကုသလဉာဏ်ဖြစ်ပွားလာလေသည်။ သို့ရကား ထိုနယကုသလဉာဏ်၌ တည်တော်မူကာ မေးမြန်းလျှောက်ထားလေသည်။

မှန်၏။ ဤအရှင်ရာဟုလာသည် နယကုသလဉာဏ် (တထွာ ပြလျှင် တလံမြင်သည့် အသိဉာဏ်) ရှိသူဖြစ်၏။ "ဤအမှုကို မပြုလုပ်ကောင်း"ဟု တခုလောက် ဟောပြလိုက်လျှင် "ဤအမှုကိုလည်း မပြုလုပ်ကောင်း။ ဤအမှုကိုလည်း မပြုလုပ်ကောင်း"ဟု ဆက်၍ဆင်ခြင်ကာ နည်းပေါင်း အရာအထောင်ဖြင့် ထိုးထွင်းသိမြင်နိုင်၏။ "ဤအမှုကို ပြုလုပ်ကောင်း၏"ဟု တခုလောက်ပြောပြလိုက်လျှင်လည်း ထိုနည်းအတူပင် "ဤအမှုကိုလည်း ပြုလုပ်ကောင်း၏။ ဤအမှုကိုလည်း ပြုလုပ်ကောင်း၏"ဟု ဆက်၍ ဆင်ခြင်ကာ နည်းပေါင်း အရာ အထောင် ဖြင့်ပင် ထိုးထွင်း သိမြင်နိုင်၏။

ဆက်ဦးအံ့။ ဤအရှင်ရာဟုလာသည် သိက္ခာသုံးပါးကို လိုလားမြတ်နိုးတော်မူပေ၏။ နံနက်စောစောပင်လျှင် ဘုရားရှင် သီတင်းသုံးတော်မူရာ ဂန္ဓကုဋီကျောင်းတော် ပရိဝုဏ်အတွင်း၌ "ယနေ့ ငါသည် မြတ်စွာဘုရား၏ အထံတော်မှလည်းကောင်း၊ ငါ၏ဥပဇ္ဈာယ်ဆရာ အရှင်သာရိပုတ္တရာမထေရ်၏ အထံမှ လည်းကောင်း ဤ သဲမှုန့်နှင့် အတူ အမျှ အဆုံး

အမ ဩဝါဒစကား ဤသဲမှုန့်နှင့် အတူအမျှ မြည်းတွန်သည့် စကားကို ရပါလို၏''ဟု နှုတ်မြွက်ပြောဆိုကာ တကွမ်းစား (=တပြည်သား) ခန့် သော သဲမှုန့်ကို နေ့စဉ်နေ့စဉ် ကြဲဖြန့်တော်မူလေ့ ရှိသည်။ (ထိုသို့ နယကုသလညာဏ်ရှင် ဖြစ်တော်မူခြင်း,သိက္ခာသုံးပါးကို လိုလား မြတ်နိုးတော်မူခြင်းကြောင့်ပင် အပြည့်အစုံ ကျင့်ကြံလိုသည့်အတွက် ဤသို့ မေးမြန်း လျှောက်ထားခြင်း ဖြစ်လေသည်)။

ထိုသို့ မေးမြန်းလျှောက်ထားသောအခါ မြတ်စွာဘုရားရှင်သည် ရှင်ရာဟုလာအား ခန္ဓာငါးပါးလုံးကိုပင် ဤနည်းအတူ ရှုရမည်ဖြစ်သောကြောင့်''ရာဟုလာ....ရုပ်ကိုလည်း (ဤသို့)ရှုရမည်၊ ဝေဒနာ ကိုလည်း (ဤသို့)ရှုရမည်။ သညာကိုလည်း (ဤသို့) ရှုရမည်။သင်္ခါရတို့ကိုလည်း (ဤသို့)ရှုရမည်။ ရာဟုလာ ဝိညာဏ်ကိုလည်း(ဤသို့)ရှုရမည်''ဟုဟောကြားဖြေဆိုတော်မူလေသည်]။

ဤသို့ မြတ်စွာဘုရားရှင်၏ အဖြေစကား ကြားသိရသောအခါ ရှင်ရာဟုလာ၏ စိတ်သန္တာန်ဝယ်

''မြတ်စွာဘုရားရှင်သည် ငါ၏ကိုယ်ခန္ဓာ အတ္တဘော၌ မှီသော တဏှာလောဘကို သိတော်မူပြီးလျှင်'ရဟန်းမည်သည် ဤသို့သော အကြံမျိုးကို မကြံစည်ကောင်း'ဟုပရိယာယ် သွယ်ဝိုက်သော နည်းဖြင့် လည်း ဩဝါဒစကားကို မိန့်ကြားတော် မမူ။ 'ရဟန်း သွားချေလော့။ နောက်တဖန် ဤသို့သော အကြံမျိုးကိုမကြံလင့်ဟု ပြောချေလော့' ဟူ၍လည်း ဘဖန်ရဟန်း တပါးပါးကို စေလွှတ်တော် မမူချေ။ စင်စစ်သော်ကား ငါ့ကိုမျက်နှာချင်းဆိုင်ရပ်တော်မူ၍သာလျှင် ခိုးထုပ် ခိုးထည်နှင့်တကွ သူခိုးကို ဦးစွန်း၌ ဆွဲကိုင်ဖမ်းယူတော်မူသကဲ့သို့ မျက်မှောက်ဖြစ်သော ဘုရားအဆုံးအမ ဩဝါဒကို ပေးတော်မူလေသည်။ **ဘုရားအဆုံးအမ ဩဝါဒမည်သည်ကိုကား ကပ်ကမ္ဘာ အသင်္ချေယျ ကာလရှည်ကြာသော်လည်းရနိုင်ခဲလှ၏။**ဤသို့သဘောရှိသောမြတ်စွာဘုရားရှင်၏ မျက်မှောက်ဩဝါဒ အဆုံးအမကို ရရှိလက်သော် ပညာရှိသူမှန်က အဘယ်သူသည် ယနေ့အဖို့ရာ မြို့ရွာတွင်းသို့ ဆွမ်းခံဝင်ချိမ့်မည်နည်း''

ဟု အကြံအစည် ဖြစ်ပြီးနောက် အရှင်ရာဟုလာသည် ဆွမ်းကိစ္စကို ပယ်စွန့်တော်မူပြီးလျှင် မျက်မှောက်အဆုံးအမ ဩဝါဒကို ရရှိရာ အရပ်မှပင် (ရှေ့သို့ဆက်၍ မလိုက် တော့ပဲ) ပြန်နစ်ခဲ့၍ တခုသော သစ်ပင်ရင်း၌ ထိုင်နေတော်မူလေ၏။

မြတ်စွာဘုရားရှင်သည်လည်း အရှင်ရာဟုလာ ပြန်နစ်သည်ကို မြင်တော်မူသော်လည်း "ရာဟုလာ....မပြန်နစ်နှင့်ဦး။ သင့်အဖို့ရာ ဆွမ်းခံလှည့်လည်ရမည့် အခါ ဖြစ်သည်" ဟု မိန့်တော်မမူချေ။ အကြောင်းသော်ကား- မြတ်စွာဘုရားရှင်၏ စိတ်သန္တာန်တော်ဝယ် "ယနေ့အဖို့ရာ ရာဟုလာသည် ကာယဂတာသတိ ကမ္မဋ္ဌာန်းတည်းဟူသောအမြိုက်ဘောဇဥ်ကို စားသုံးစေဦး" ဟု အကြံတော်ဖြစ်သောကြောင့်တည်း။

## အရှင်သာရိပုတ္တရာ၏ လုပ်ငန်းရပ်များ

အရှင်သာရိပုတ္တရာ၏ လုပ်ငန်းရပ် ဝတ္တရားမှာတပါးတည်းနေသော အခါ၌ တမျိုး, မြတ်စွာဘုရားနှင့် အတူတကွနေသောအခါ၌တမျိုး ဖြစ်လေသည်။

ခဲ့ဦးအံ့။အဂ္ဂသာဝက မထေရ်မြတ်နှစ်ပါးတို့သည် ဧကစာရီနေတော်မူကြသောအခါ၌ စောစောကပင် ကျောင်းတိုက်နေရာကို တံမြက်လှည်းပြီးလျှင် ကိုယ်လက် သုတ်သင်တော်မူကြပြီးနောက် သမာပတ်ကို ဝင်စား၍ ငြိမ်သက်စွာ ထိုင်နေတော်မူကြပြီးခါ မိမိတို့ စိတ်အလိုကျအတိုင်း ဆွမ်းခံကြွဝင်တော်မူကြလေသည်။ မြတ်စွာဘုရားရှင်နှင့်အတူတကွ နေတော်မူကြသောအခါ၌ကား မထေရ်မြတ်(အဂ္ဂသာဝက)နှစ်ပါးတို့သည် ဤသို့မပြုကြကုန်။ ထင်ရှားစေဦးအံ့။ ထိုသို့ အတူတကွနေသောအခါ၌ မြတ်စွာဘုရားရှင်သည် ရဟန်းအပေါင်း ခြံရံလျက် ရှေးဦးစွာ ဆွမ်းခံကြွဝင်တော်မူလေသည်။ထိုသို့ မြတ်စွာဘုရားရှင် ဆွမ်းခံ ကြွဝင်တော်မူပြီးနောက်မှ အရှင်သာရိပုတ္တရာ မထေရ်မြတ်သည် မိမိကျောင်းမှ ထွက်ခဲ့၍ "ရဟန်းအများ နေရာအရပ်၌မည်သည် အားလုံးသော ရဟန်းတို့သည် ပင် ကြည်ညိုဖွယ်ရှိအောင် ပြုလုပ်နိုင်ကြသည်လည်းရှိ၏။ မပြုလုပ်နိုင်ကြ

ဖြစ်ကလည်း သေခါနီးအခါ သမသိသီရဟန္တာဖြစ်နိုင်၏။ ထိုသို့ မတတ်နိုင်သောသူဖြစ်ကလည်း နတ်ပြည်၌ဖြစ်၍ ဓမ္မကထိကနတ်သား၏ တရားကို နာကြားရပြီးလျှင် အရဟတ္တဖိုလ်ရောက်နိုင်၏။ ထိုသို့ မရောက်နိုင်သောသူဖြစ်ကလည်း ဘုရားမပွင့်သောအခါ ပစ္စေကဗုဒ္ဓါဖြစ်နိုင်၏။ ထိုသို့ မတတ်နိုင်သောသူ ဖြစ်ကလည်း နောက် နောက်ပွင့် တော်မူကြမည့် မြတ်စွာဘုရားရှင်တို့၏ လက်ထက်တော်အခါ၀ယ် အရှင်ဗာဟိယဒါရုစီရိယ မထေရ်တို့ကဲ့သို့ ခိပ္ပာဘိညာ (လျှင်မြန်သော အသိဉာဏ်ရှိသည့်) ရဟန္တာပုဂ္ဂိုလ်ဖြစ်နိုင်၏။ ဤသို့ လျှင် အာနာပါနဿတိ ဘာ၀နာသည် များမြတ်သော အကျိုးအာနိသင်ရှိ၏။

ဤသို့ အကျိုးကြီးမြတ်ပုံကို ရှုမြင်တော်မူသည်ဖြစ်၍ အရှင်သာရိပုတ္တရာမထေရ်မြတ်သည် ဥပဇ္ဈာယ်ယူ အတူနေ (သဒ္ဓိဝိဟာရိက)တပည့်ဖြစ်သည့် အရှင်ရာဟုလာကို အာနာပါနဿတိကမ္မဋ္ဌာန်း၌ တိုက်တွန်းအားပေးတော်မူလေသည်]။

ဤသို့ လျှင် မြတ်စွာဘုရားရှင်က ရုပ်ကမ္မဋ္ဌာန်း, အရှင်သာရိပုတ္တရာမထေရ်မြတ်က အာနာပါနဿတိ ကမ္မဋ္ဌာန်းကို အသီးအသီး ဟောကြားတော်မူကြကာ ကြွသွားတော်မူကြလေသည်။ ရှင်ရာဟုလာသည် ကျောင်းတိုက်မှာပင် ကျန်ရစ်ရှာလေသည်။

မြတ်စွာဘုရားရှင်သည် ရှင်ရာဟုလာကျန်ရစ်သည်ကို သိတော်မူသော်လည်း ကိုယ်တော်တိုင်လည်း (ရှင်ရာဟုလာအတွက်) ခဲဖွယ် ဘောဇဉ်ကို ယူဆောင်၍ သွားတော်မမူ။ အရှင်အာနန္ဒာ၏လက်၌ အပ်၍လည်း ပို့စေတော်မမူ၊ ပသေနဒီကောသလမင်းကြီး အနာထပိဏ်သူဌေးကြီး အစရှိသော ဒါယကာ ဒါယိကာမတို့အားလည်း ထိုအကြောင်းကို အသိပေးတော်မမူ၊ (မှန်၏။ အသိအမှတ်မျှ ရကြလျှင်ပင် ထိုသူတို့သည် ထမ်းပိုးဖြင့် သယ်ယူအပ်သည့် ဆွမ်းအိုးများကို ပို့ကြစေမည်သာဖြစ်၏။)

မြတ်စွာဘုရားရှင် ကဲ့သို့ပင် အရှင် သာရိပုတ္တရာမထေရ် ကလည်း တစုံတခုကိုမျှ ပြုတော်မမူ။ ထိုနေ့အဖို့ရာ ရှင်ရာဟုလာသည် ဆွမ်းအစာအာဟာရကို မရရှိပဲ ဆွမ်းပြတ်တော်မူလေလည်း။ ထိုသို့ပင် ဆွမ်းမစားရသော်လည်း ရှင်ရာဟုလာ၏ စိတ်သန္တာန်၀ယ် "မြတ်စွာဘုရားရှင်သည်

ငါ့ကို ကျောင်း၌ ကျန်ရစ်သည်ကို သိတော်မူပါလျက်လည်း ကိုယ်တော် ရရှိသည့်ဆွမ်းကို ကိုယ်တိုင်ယူ၍လည်း မကြွလာ။ အခြားတဦးဦး၏ လက်၌ အပ်နှင်း၍လည်း ပို့စေတော်မမူ၊ လူတို့အားလည်း အသိအမှတ်ကို ပေး တော်မမူ၊ ငါ၏ ဥပဇ္ဈာယ် ဆရာတော်သည်လည်း ငါကျန်ရစ်သည်ကို သိတော်မူလျက် ထိုအတူပင် တစုံတခုမျှ ပြုတော်မမူ''ဟု စိတ်အကြံမျှ သော်လည်း မဖြစ်ချေ။ ထို ဆွမ်းမပို့ခြင်းဟူသော အကြောင်းကြောင့် ယုတ်သောမာန် မြတ်သောမာန် (အထင်သေးမှု အထင်ကြီးမှု) ကိုကား အဘယ်မှာလျှင် ဖြစ်စေလိမ့်မည်နည်း။ မဖြစ်စေသည်သာ။

စင်စစ်သော်ကား မြတ်စွာဘုရားရှင် ဟောကြားတော်မူအပ်သော ရုပ် ကမ္မဋ္ဌာန်းကိုပင် နံနက်ခင်း၌ လည်းကောင်း, နေ့ခင်း၌ လည်းကောင်း

''ရုပ်တရားသည် ဤအကြောင်း၊ ဤအကြောင်းကြောင့် အနိစ္စ ကေန် မှန်၏။ ရုပ်တရားသည် ဤအကြောင်း ဤအကြောင်းကြောင့် ဒုက္ခ ကေန် မှန်၏။ ရုပ်တရားသည် ဤအကြောင်း ဤအကြောင်း ကြောင့် အသုဘကေန် စင်စစ်မှန်၏။ ရုပ်တရားသည် ဤအကြောင်း ဤအကြောင်းကြောင့် အနတ္တကေန် စင်စစ်မှန်၏''

ဟုအပူတပြင်း မီးကိုမွှေသောသူကဲ့သို့ အကြားမလပ် နှလုံးသွင်းပြီးလျှင် ညနေချမ်း အခါ၌ ''ငါ့ကို ဥပဇ္ဈာယ် ဆရာတော် မြတ်က 'အာနာ ပါနဿတိကို ပွားများလော့'ဟု ဆိုဆုံးမအပ်လေပြီ။ ထိုဥပဇ္ဈာယ် ဆရာ မြတ်၏ အဆုံးအမ ဩဝါဒစကားကို လိုက်နာ ပြုကျင့်ပေအံ့။ မှန်၏။ **ဆရာဥပဇ္ဈာယ်တို့၏ အဆုံးအမ ဩဝါဒစကားကို မလိုက်နာသောသူသည် ဆုံးမခက်သည့် (=ဒုဗ္ဗစ) ပုဂ္ဂိုလ် မည်ချေသည်။** ငါ့အဖို့ ရာမှာလည်း 'ရာဟုလာသည် ဆုံးမခက်သူ ဖြစ်၏။ ဥပဇ္ဈာယ်ဆရာတော်၏ အဆုံးအမ ဩဝါဒစကားကိုသော်မှလည်း မလိုက်နာချေ'ဟု သိတင်းသုံးဖော် သံဃာ တော်တို့၏ ကဲ့ရဲ့ရှုတ်ချမှု ဖြစ်ပေါ်ခြင်းထက် ကြမ်းခက်သော အနိုင်အက် ခံရခြင်း မည်သည် မရှိချေ''ဟု ကြံစည်ပြီးလျှင် အာနာပါနဿတိ ဘာ ဝနာ ပွားများပုံ အစီအရင်ကို မေးလျှောက်လိုသည်ဖြစ်၍ အရှင် ရာဟု လာသည် ညနေချမ်းအချိန်၌ ကိန်းအောင်းရာမှထ၍ မြတ်စွာဘုရားရှင်

ထံတော်သို့ ချဉ်းကပ်လျက် အလွန်ရိုသေစွာရှိခိုးပြီးလျှင် အပြစ်ခြောက်ပါး လွတ်ရာအရပ်၌ ထိုင်ပြီးသော် မြတ်စွာဘုရားရှင်ကို

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ အာနာပါနဿတိဘာဝနာ လေ့လာအပ်သည်ရှိသော် အဘယ်သို့ ပွားများအပ်သည်ရှိသော် အဘယ်သို့ ကြိမ်ဖန်များစွာလေ့လာ အပ်သည်ရှိသော် များမြတ်သောအကျိုး များမြတ်သော အာနိသင်ရှိပါသနည်း"

ဟူ၍ မေးမြန်း လျှောက်ထားလေ၏။ ထိုအခါ မြတ်စွာ ဘုရားရှင်သည် ရှင်ရာဟုလာအား

(၁) က။ ပထဝီဓာတ် (ကောဋ္ဌာသ)နှစ်ဆယ်

ခ။ အာပေါဓာတ် (ကောဋ္ဌာသ) တဆယ့်နှစ်ပါး

ဂ။ တေဇောဓာတ် (ကောဋ္ဌာသ)လေးပါး

ဃ။ ဝါယောဓာတ် (ကောဋ္ဌာသ) ခြောက်ပါး=ဟည်းဟူသော မဟာဘူတရုပ် ကမ္မဋ္ဌာန်း ပွားများပုံကိုလည်းကောင်း

င။ အာကာသဓာတ် တည်းဟူသော ဥပါဒါရုပ် ကမ္မဋ္ဌာန်း ပွားများပုံကိုလည်းကောင်း

(၂) မြေ, ရေ,မီး,လေ,အာကာသတို့နှင့် အလားတူ ဘာဝနာ ပွားများရန် ဖော်ပြသည့် တာဒိဘာဝ လက္ခဏာကိုလည်းကောင်း

(၃) မေတ္တာဘာဝနာ

(၄) ကရုဏာဘာဝနာ

(၅) မုဒိတာဘာဝနာ

(၆) ဥပေက္ခာဘာဝနာ

(၇) အသုဘဘာဝနာ

(ဂ) အနိစ္စသညာ ဘာဝနာကို ပွားများရန် (အကျိုးကို ဖော်ပြလျက်) တိုက်တွန်းတော်မူသော တရားဒေသနာကို လည်းကောင်း

(ဃ) အရှင်ရာဟုလာ လျှောက်ထားမေးမြန်းရင်း ဖြစ်သည့် အာနာပါနဿတိ ဘာဝနာ ပွားများပုံအကျယ်ကိုလည်းကောင်း, ထို၏အကျိုးကို လည်းကောင်း

အကျယ်အားဖြင့် ဟောကြားတော်မူလေသည်။ (ဟောကြားတော်မူပုံအကျယ်ကို မဇ္ဈိမပဏ္ဏာသ ပါဠိတော် မြန်မာပြန် စာမျက်နှာ ၉၁ မှစ၍ ကြည့်ရှုမှတ်ယူရာ၏)။



## စူဠ ရာ ဟု လော ဝါ ဒ သုတ်

### စူဠရာဟုလောဝါဒသုတ်ကို ဟောတော်မူ၍ ရှင်ရာဟုလာကို အရဟတ္တဖိုလ်၌ တည်စေတော်မူခြင်း

မြတ်စွာဘုရားရှင်သည် ဖော်ပြရာပါအတိုင်း သာဝတ္ထိပြည်၌ စူဠသမဝါ ကပ်ဆိုတော်မူပြီး၍ ထိုသာဝတ္ထိပြည် ဇေတဝန်ကျောင်း၌ပင် သီတင်းသုံးနေထိုင်တော်မူဆဲ ဖြစ်လေသည်။ ထိုအချိန်၌ အရှင် ရာဟုလာသည် အသက်နှစ်ဆယ်ပြည့်၍ ရဟန်းပြုပြီးစ ဝါမရသေးသော ရဟန်းငယ် ဖြစ်လေသည်။

ထိုအခါ တနေ့သ၌ နံနက်မိုးသောက်ထအခါ သတ္တလောကကိုရှုကြည့်တော်မူသော မြတ်စွာဘုရား၏ စိတ်သန္တာန်၌

"ရာဟုလာ၏သန္တာန်မှာ အရဟတ္တဖိုလ်ကို ရင့်ကျက်စေတတ်သည့် သဘောတရား (=ဝိမုတ္တိပရိပါစနီယတရား) တဆယ်ငါးပါးတို့ သည် ရင့်ကျက်ကုန်ပြီ။ ငါဘုရားသည် ရာဟုလာကို

တဆင့်တက်၍ အရဟတ္တမဂ် အရဟတ္တဖိုလ်ပေါက် ရောက်ရှိအောင် ချေချွတ်ဆုံးမရမူ ကောင်းလေစွ”

ဟု စိတ်အကြံအစည် ဖြစ်ရှိတော်မူလေသည်။

**[ဤ၌]။ ။ဝိမုတ္တိ ပရိပါစနီယတရား=အရဟတ္တဖိုလ်ကို ရင့်ကျက်စေတတ်သည့် သဘောတရား တဆယ့်ငါးပါးတို့ဟူသည်မှာ**

၁။ သဒ္ဓါတရား မရှိသူတို့ကို ရှောင်ကြဉ်ခြင်း
၂။ သဒ္ဓါတရားရှိသူတို့ကို မှီဝဲဆည်းကပ်ခြင်း
၃။ ကြည်ညိုဖွယ်ကောင်းသည့် သုတ္တန်များကို ဆင်ခြင်ခြင်းဟူ၍ (သဒ္ဓါနှင့်စပ်၍ သုံးပါး)
၄။ ပျင်းရိသော ပုဂ္ဂိုလ်တို့ကို ရှောင်ကြဉ်ခြင်း
၅။ လုံ့လကြိုးကုတ် အားထုတ်သူတို့ကို မှီဝဲဆည်းကပ်ခြင်း
၆။ သမ္မပ္ပဓာန်နှင့် စပ်သော သုတ္တန်များကို ဆင်ခြင်ခြင်းဟူ၍ (ဝီရိယနှင့်စပ်၍ သုံးပါး)
၇။ မေ့လျော့သူတို့ကို ရှောင်ကြဉ်ခြင်း
၈။ သတိထင်လင်းသူတို့ကို မှီဝဲဆည်းကပ်ခြင်း
၉။ သတိပဋ္ဌာန်နှင့် စပ်သော သုတ္တန်များကို ဆင်ခြင်ခြင်းဟူ၍ (သတိနှင့်စပ်၍ သုံးပါး)
၁၀။ သမာဓိ မရှိသူတို့ကို ရှောင်ကြဉ်ခြင်း
၁၁။ သမာဓိရှိသူတို့ကို မှီဝဲဆည်းကပ်ခြင်း
၁၂။ ဈာန်ဝိမောက္ခနှင့်စပ်သော သုတ္တန်များကို ဆင်ခြင်ခြင်းဟူ၍ (သမာဓိနှင့်စပ်၍ သုံးပါး)
၁၃။ ပညာမဲ့သူတို့ကို ရှောင်ကြဉ်ခြင်း
၁၄။ ပညာရှိသူတို့ကို မှီဝဲဆည်းကပ်ခြင်း
၁၅။ နက်နဲသောသုတ္တန်များကို ဆင်ခြင်ခြင်းဟူ၍(ပညာနှင့်စပ်၍ သုံးပါး)

ဤတဆယ့်ငါးပါးတို့တည်း။

ထိုမှတပါးလည်း သဒ္ဓါ, ဝီရိယ,သတိ,သမာဓိ,ပညာ=ဟူသော ဣန္ဒြေငါးပါး၊ အနိစ္စသညာ, ဒုက္ခသညာ, အနတ္တသညာ, ပဟာနံသညာ,ဝိရာဂသညာ ဟူသော ဤနိဗ္ဗေဓဘာဂိယသညာ ငါးပါး၊ မေဃိယသုတ္တန် (ဥဒါန်းပါဠိတော်)၌ လာရှိသည့် မိတ်ဆွေကောင်းကို ပေါင်းသင်းမိခြင်း, သီလနှင့် ပြည့်စုံခြင်း, ကထာဝတ္ထု ဆယ်ပါး တရားစကားကို ကြားနာစဥ်းစားမှုများခြင်း, အားထုတ်အပ်သော လုံ့လ ဝီရိယရှိခြင်း, ဥဒယဗ္ဗယဉာဏ်ပညာနှင့်ပြည့်စုံခြင်း= ဟူသော တရားငါးပါး=ဤသို့အားဖြင့် ဝိမုတ္တိပရိပါစနီယ တရား တဆယ့်ငါးပါးတို့ ဖြစ်သတည်း]။

ထိုသို့အကြံအစည်တော် ဖြစ်ပြီးနောက် မြတ်စွာဘုရားရှင်သည် နံနက်အခါ၌ သာဝတ္ထိပြည်အတွင်း ဆွမ်းခံဝင်တော်မူပြီးလျှင် ဆွမ်းကိစ္စပြီးဆုံးပြီးနောက် ဆွမ်းခံရာမှ ဖဲကြွတော်မူခဲ့၍ အရှင်ရာဟုလာကို "ရာဟုလာ နိသီဒိုင် ထိုင်စရာအခင်းကို ယူခဲ့လော့၊ အန္ဓဝန်တောအုပ်သို့ နေ့သန့်ခြင်းငှာ သွားကြကုန်စို့"ဟု မိန့်တော်မူလေ၏။ထိုအခါ အရှင်ရာဟုလာသည် "ကောင်းပါပြီမြတ်စွာဘုရား"ဟု လျှောက်ထား ဝန်ခံပြီးလျှင် နိသီဒိုင် ထိုင်စရာအခင်းကို ယူလျက်မြတ်စွာဘုရား၏နောက်တော်မှ အစဉ်တစိုက် လိုက်ပါလေ၏။

ထိုအခါ (လွန်ခဲ့သောကမ္ဘာတသိန်းထက်က ပဒုမုတ္တရ မြတ်စွာဘုရားရှင်အထံတော်၌ အရှင်ရာဟုလာအလောင်း ပါလိတနဂါးမင်းနှင့် အတူတကွ ဆုတောင်းပြုခဲ့ကြသည့်)ထောင်ပေါင်းများစွာ နတ်ဗြဟ္မာတို့သည် "ယနေ့မြတ်စွာဘုရားသည် အရှင်ရာဟုလာကိုတဆင့်တက်၍ အရဟတ္တမဂ်အရဟတ္တဖိုလ်ပေါက် ရောက်ရှိအောင် ချေချွတ်ဆုံးမတော်မူလိမ့်မည်" ဟု နှလုံးပိုက်ကြ၍ မြတ်စွာဘုရားရှင်သို့ အစဉ်တစိုက် လိုက်ပါကြလေကုန်၏။

[ဤ၌။ ။လွန်ခဲ့သောကမ္ဘာတသိန်းထက်ကအတူတကွဆုတောင်းမှုပြုခဲ့ကြသော ထောင်ပေါင်းများစွာ နတ်ဗြဟ္မာတို့သည် "အဘယ်အခါ၌ မြတ်စွာဘုရားရှင်သည် အရှင် ရာဟုလာကို တဆင့် တက်၍

အရဟတ္တဖိုလ်ပေါက် ရောက်ရှိအောင် ဆုံးမချော်ချွတ်တော် မူပါလိမ့်မည်နည်း’ ဟု စောင့်မျှော်လျက်ရှိကြလေသည်။ အရှင်ရာဟုလာ၏ သဒ္ဓါအစရှိသော ဣန္ဒြေဖိဳ့ရင့်ကျက်ပြီး ဖြစ်သောကြောင့် မြတ်စွာဘုရားရှင်က ရှေးဖော်ပြရာပါအတိုင်း ‘ယနေ့ငါဘုရားသည် ရာဟုလာကို အရဟတ္တဖိုလ်ပေါက်ဆုံးမချော်ချွတ်တော်မူမည်’’ဟု ကြံစည်တော်မူသောအခါ အလိုဆန္ဒ တူမျှကြသောကြောင့် အချိန်ရှိသမျှ ထိုသို့ မြတ်စွာဘုရားရှင် ကြံစည် ဆင်ခြင်တော် မူသော ထိုခဏကို စောင့်မျှော်လျက် ရှိနေကြသည့် ကိုဋေဇင်ပေါင်းများစွာ နတ်ဗြဟ္မာတို့သည်ထိုသို့အကြောင်းညီညွတ်လာပြီကို သိမြင်ကြ၍ အန္ဓဝန်တောအုပ်ကခုတည်း၌ပင် စုဝေးလာကြလေကုန်၏။

## အန္ဓဝန်တောအုပ်အကြောင်း

ဤ၌။ ။သာဝတ္ထိပြည်၏အနီးရှိ အန္ဓဝန်တောအုပ်၏ အကြောင်းကို မူလပဏ္ဏာသ အဋ္ဌကထာ ဒုတိယအုပ် စာမျက်နှာ ၂၀၊ ၂၉-ဝမှိကသုတ်အဖွင့်မှ အကျဉ်းချုပ် ထုတ်ဆောင်ပြဦးအံ့

ထိုတောအုပ်ကား ကဿပမြတ်စွာဘုရားရှင်နှင့် အကျွန်ုပ်တို့၏ ဘုရားရှင် ဤနှစ်ဆူသော ဘုရားရှင်တို့၏ အခါကာလ၌ပင် အန္ဓဝန်တောအုပ်ဟူ၍ ထင်ရှားခဲ့လေသည်။ ခဲ့ဦးအံ့။ အသက်တမ်း တိုတော်မူကြသော မြတ်စွာဘုရားရှင်တို့၏ ဿာရီရိက ဓာတ်တော်သည် တစိုင် တခဲတည်း မဖြစ်။ အဓိဋ္ဌာန်တော်မူချက် အတိုင်း အစိတ်စိတ်အမြွှာမြွှာ ကွဲပြားကြလေသည်။ ထို့ကြောင့်ပင် (အသက်တမ်းတိုတော်မူသော)အကျွန်ုပ်တို့၏ မြတ်စွာဘုရားရှင်သည်လည်း ‘‘ငါဘုရားကား ကြာမြင့်စွာ တည်နေရမည် မဟုတ်၊အသက်တမ်း တိုတောင်းလှသည့်အတွက် ငါဘုရားကို အနည်းငယ်သော သတ္တဝါတို့သာ ဖူးမြင်ကြရပေလိမ့်မည်၊ မဖူးမြင်လိုက်ကြရသော သတ္တဝါတို့ကသာ များလှစွာကုန်၏။ ထိုမဖူးမြင်လိုက်ကြရသော သတ္တဝါတို့သည် ငါဘုရား၏ဓာတ်တော်များကို ပင့်ဆောင်ကြ၍ ထိုထို အရပ်ဒေသတို့၌ပူဇော်ကြကာ နတ်ရွာသုဂတိသို့လားရောက်ကြရပေလိမ့်မည်’’

ဟု ကြံစည် ဆင်ခြင်တော်မူကာ ပရိနိဗ္ဗာန်စံတော်မူခါနီး၌ "ငါဘုရား၏ သာရီရိက ဓာတ်တော်များသည် အစိတ်စိတ် အမြွာမြွာ ကွဲပြားကြစေ သတည်း" ဟု အဓိဋ္ဌာန်ပြုတော်မူခဲ့လေသည်။ (ထို့ကြောင့်ပင် အကျွန်ုပ်တို့၏ မြတ်စွာဘုရား ဓာတ်တော်များမှာ အစိတ်စိတ်အမြွာမြွာ ကွဲပြားခဲ့လေသည်)၊

သက်တော်ရှည် မြတ်စွာဘုရားရှင်တို့၏ သာရီရိက ဓာတ်တော်သည်ကား ရွှေတုံးရွှေစိုင်ပမာ တလုံးတခဲတည်းသာ တည်ရှိ ကျန်ရစ်တော်မူလေသည်။ သို့ရကား(အသက်တမ်း အနှစ်နှစ်သောင်းခေတ်၌ ပွင့်တော်မူသည့်) ကဿပမြတ်စွာဘုရား သာရီရိက ဓာတ်တော်သည်လည်း သက်တော်ရှည် မြတ်စွာဘုရား ဖြစ်သောကြောင့် တလုံးတခဲတည်းသာ တည်ရှိ ကျန်ရစ်တော်မူလေသည်၊ ထိုအခါ လူအပေါင်းတို့ စည်းဝေးကြပြီးလျှင် "ဓာတ်တော်တို့ကား တစိုင်တခဲတည်း တည်ရှိကျန်ရစ်ကြသည်။ အစိတ်စိတ်ခွဲခြင်းငှာ မတတ်နိုင်။ အဘယ်သို့ ပြုကြမည်နည်း" ဟု တိုင်ပင်ကြ၍ တစိုင်တခဲတည်း (တဆူတည်း) သော စေတီတော်ကို တည်ထားကြကုန်အံ့ဟု သဘောတူကြပြီးနောက် စေတီတော်ပမာဏကိုလည်း တယူဇနာ အမြင့် အဝန်းအဝိုင်း ပမာဏရှိသော စေတီတော်တည်ထားကြရန် တညီတညွတ်တည်း ဆုံးဖြတ်ကြလေသည်။ အုတ် အင်္ဂတေများအတွက် ဆက်၍ တိုင်ပင်ကြသောအခါ အပြင်မှပတ်၍စီသော အုတ်ချပ်များကို အဖိုးတသိန်းတန် ရွှေအုတ်ချပ်များဖြင့် စီရန်, အတွင်းအုတ်များကို ငါးသောင်းတန် ရွှေအုတ်ချပ်များဖြင့် စီရန်, မြေကိစ္စအတွက် ဆေးဒန်း မြင်းသီလာ အမှုန့်တို့ကို အသုံးပြုရန်, ရေကိစ္စအတွက် ဆီကိုအသုံးပြုရန်, ဆုံးဖြတ်ချက်ချမှတ်ပြီးနောက် မုခ်လေးမုခ်တို့ကို လေးစုပြုကြပြီး ၁။ မင်းကြီးက တမုခ်အတွက် တာဝန်ယူလေသည်။ ၂။ အခြားတမုခ်အတွက် ပထဝိန္ဓရ မင်းသားက တာဝန်ယူလေသည်။ ၃။ အခြားတမုခ်အတွက် မင်းမှုထမ်းတို့၏ ရှေ့သွားခေါင်းဆောင်ပြုကာ စစ်သေနာပတိက တာဝန်ယူလေသည်။ ၄။ အခြားတမုခ်အတွက် သူဌေးကြီးက ရှေ့သွားခေါင်းဆောင်ပြုကာ တိုင်းသူပြည်သားတို့က တာဝန်ယူကြလေသည်။

ထိုအခါဆရာကြီးက "အမောင်တို့ အမောင်တို့ မသိကြဘူးလော၊ ကဿပမြတ်စွာဘုရားရှင် ပရိနိဗ္ဗာန် ဝင်စံတော်မူခဲ့ပြီ၊ ထိုမြတ်စွာဘုရားရှင်၏ သာရီရိကဓာတ်တော်ကို ဌာပနာ၍ တယူဇနာ ပမာဏရှိသော ရတနာစေတီတော်ကြီးကို တည်ထားအပ်ဆဲဖြစ်လေသည်၊ ထိုစေတီတော်ကြီးအတွက် ငါသည်တိုင်းသူပြည်သားတို့အား ကုသိုလ်မှု၌ဆော်တည်စေအပ်ပါသည်၊ မိမိအတွက်မဟုတ်ပါ၊ ထိုထိုရသမျှသော အလှူဝတ္ထုများကိုလည်းထိုထိုရရာရရာအရပ်မှထိုစေတီတော်တည်ရာအရပ်သို့ပို့အပ်ပြီး ဖြစ်လေသည်။ ငါ့မှာကား ကိုယ်ဝယ်ဝတ်ထားသည့် အဝတ်မှတပါး အခြားဥစ္စာဟူ၍ တချင်ရွေးမျှမရှိပါ"ဟု ပြောဆိုလေလျှင် အချို့သော ခိုးသားများက "ဤဆရာကြီးပြောသည့်စကားသည် ဆရာကြီးပြောသည့်အတိုင်းပင် အမှန်ဖြစ်လေသည်။ သို့ရကား ဆရာကြီးကို လွှတ်ကြလော့" ဟု ပြောဆို၍ အချို့သော ခိုးသားများကမူ "ဤဆရာကြီးသည် မင်းအပူဇော်ခံဆရာကြီးအမတ်အပူဇော်ခံဆရာကြီး ဖြစ်လေသည်၊ ငါတို့အထဲမှ တယောက်ယောက်ကို မြို့လယ်လမ်း၌ တွေ့မြင်လျှင် မင်း, မင်း၏အမတ်စသည်တို့အား ဤအကြောင်းကို ပြောကြား၍ အကျိုးမဲ့ပျက်စီးခြင်းသို့ ရောက်စေပေလိမ့်မည်"ဟူ၍ မလွှတ်ရန်ဘက်မှ ပြောကြားကြလေသည်။

ထိုအခါယသောရတအနာဂါမ်ဥပါသကာသည် "အမောင်တို့ ငါသည် ဤ(အမောင်တို့ပြောသည့်)အတိုင်း ပြုလိမ့်မည် မဟုတ်ပါ"ဟု ပြောဆိုလေသည်။ (ထိုသို့ပြောဆိုခြင်းမှာ ထိုခိုးသားတို့အပေါ်၌ သနားသော ကရုဏာဖြင့် ပြောဆိုခြင်းဖြစ်သည်၊ မိမိ၏အသက်၌ တွယ်တာတပ်မက်သောကြောင့် ပြောဆိုခြင်း မဟုတ်)။ ထိုအခါ ထိုခိုးသားများ "ဆရာကြီးကို အချို့က ဖမ်းမြဲဖမ်းသင့်သည်၊အချို့ကလွှတ်သင့်သည်"ဟု အငြင်းပွားကြလေသော်"ဖမ်းမြဲဖမ်းထားသင့်သည်"ဟု အယူရှိသော ခိုးသားတို့က မဲများကြလျက် နောက်ဆုံးတွင် ဆရာကြီးကို သတ်ဖြတ်ကြလေကုန်၏။

ထိုခဏမှာပင် ဂုဏ်ကျေးဇူးကြီးမားလှသော အနာဂါမ်အရိယာကြီးအပေါ်၌ သတ်ဖြတ်သည်အထိ ပြုမှားကြသော ပြစ်မှုကြောင့် ဆိမ်း

တောက်အညွန့်ငြိမ်းသကဲ့သို့ပင် ထိုခိုးသားတို့၏ မျက်စိတို့သည် ကွယ်ကြလေကုန်၏။ ထိုခိုးသားငါးရာတို့သည် "အချင်းတို့ ငါ့မျက်စိအဘယ်မှာနည်း၊ ငါ့မျက်စိအဘယ်မှာနည်း"ဟု ငိုကြွေးမြည်တမ်း တစမ်းစမ်းဖြစ်ကြလေကုန်သော် အချို့ (ဆွေမျိုးရှိသော)ခိုးသားများကို ဆွေမျိုးများက မိမိတို့အိမ်သို့ ခေါ်ဆောင်သွားကြလေသည်။ အချို့သော ခိုးသားတို့ကား ဆွေမဲ့ မျိုးမဲ့ကိုးကွယ်ရာမဲ့ကုန်ရကား ထိုတောအုပ်အတွင်း သစ်ပင်ရင်း၌ပင်သစ်ရွက်မိုးသည့်တဲ၌ ဆင်းရဲစွာ နေကြရလေကုန်၏။

တောအုပ်သို့ လာကြသော လူတို့သည် သနားသဖြင့် ထိုမျက်မမြင်ခိုးသားတို့အား (မိမိတို့ တတ်နိုင်သမျှ) ဆန်ကိုလည်းကောင်း, ထမင်းထုပ်ကိုလည်းကောင်း,အခြားစားနပ်ရိက္ခာကိုလည်းကောင်း ပေးကြလေကုန်၏။ ထင်းခွေရန် ဟင်းရွက်ခူးရန်ထိုတောသို့သွား၍ ပြန်လာကြသောလူတို့သည် "မောင်တို့ ဘယ်သို့သွားကြသနည်း"ဟု မေးအပ်လျှင် "ငါတို့သည်မျက်မမြင်တော=အန္ဓဝန်တောသို့ သွားကြသည်"ဟု ဖြေကြားပြောဆိုကြလေသည်။

ဤသို့လျှင် ဘုရားရှင်နှစ်ဆူတို့၏ သာသနာ ခေတ်အခါမှာပင် ထိုတောအုပ်သည် "အန္ဓဝန်တော= မျက်မမြင်တော" ဟူ၍ ထင်ရှားလေသည်။ အထူးအားဖြင့် ထိုတောသည် ကဿပမြတ်စွာ သာသနာခေတ်အခါ၌ လူသူလေးပါး အသုံးမပြုစွန့်ပစ်၍ ထားအပ်သော ဇနပုဒ်ကြီး၏ အနီး၌ တည်ရှိလေသည်။အကျွန်ုပ်တို့၏ မြတ်စွာဘုရားရှင် လက်ထက်တော်အခါ၌ကား ထိုတောသည် သာဝတ္ထိပြည်၏အနီးဇေတဝန်ကျောင်းတိုက်၏ နောက်ပိုင်း၌ အာရုံငါးသင်း ဆိတ်ငြိမ်ခြင်းကို အလိုရှိကြသည့် အမျိုးကောင်းသားတို့၏နေရာ ကမ္မဋ္ဌာန်းကျောင်းကြီးသဖွယ်တည်ရှိလေသည်။(ဤကားအန္ဓဝန်=တော=မျက်မမြင်တော အကြောင်းအရာတည်း)။

ထိုအခါ မြတ်စွာဘုရားရှင်သည် အန္ဓဝန်တော=မျက်မမြင် တောသို့ သက်ဝင်တော်မူ၍ တခုသော သစ်ပင်ရင်းဝယ် (ရှင်ရာဟုလာ)ခင်းထားအပ်သောနေရာ၌ ထိုင်နေတော်မူလေ၏။ အရှင် ရာဟုလာသည်လည်း မြတ်စွာဘုရားရှင်ကို ရှိခိုးပြီး... ...သင့်လျော်သော...

အပြစ်လွတ်သောနေရာ၌ ထိုင်နေလေ၏။အပြစ်လွတ်သောနေရာ၌ထိုင်နေပြီးသော အရှင်ရာဟုလာကို မြတ်စွာဘုရားရှင်သည် ဤတရားစကားကို မိန့်တော်မူ၏။

## ဆ-ပဥ္စကတရားဒေသနာတော်

(**ဗုဒ္ဓ**) ချစ်သားရာဟုလာ၊ ယခုငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင်အောက်မေ့သဘောကျသနည်း။ မျက်စိတွင်မည် ရုပ်အကြည်သည် မြဲသလော၊မမြဲသလော။(**ရှင်ရာဟုလာ**) မမြဲပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**)မမြဲသောမျက်စိတွင်မည် ရုပ်အကြည်သည် ဆင်းရဲသလော၊ ချမ်းသာသလော။ (**ရှင်ရာဟုလာ**) ဆင်းရဲပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**) မမြဲ,ဆင်းရဲ,ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် မျက်စိတွင်မည် ရုပ်အကြည်ကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့် လည်းကောင်း),(ဧသောဟမသ္မိ) ငါဟူ၍ (မာနဖြင့် လည်းကောင်း) (ဧသော မေ အတ္တာ) ငါ၏ အတ္တလိပ်ပြာတည်း ဟူ၍ (ဒိဋ္ဌိဖြင့် လည်းကောင်း)အလွဲလွဲအချော်ချော်ရှုမျှော်သင့်သလော။ (**ရှင်ရာဟုလာ**) မသင့်ပါ မြတ်စွာဘုရား (၁)။

(**ဗုဒ္ဓ**) ချစ်သားရာဟုလာ၊ ယခုငါဘုရားမေးမြန်းမည့်စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့သဘော ကျသနည်း။ အဆင်းတွင်မည် ရုပ်ထို့ဤတို့သည် မြဲကုန်သလော၊ မမြဲကုန်သလော၊ (**ရှင်ရာဟုလာ**) မမြဲကုန်ပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**) မမြဲသော အဆင်းတွင်မည် ရုပ်ထိုဤသည် ဆင်းရဲသလော။ ချမ်းသာသလော။ (**ရှင်ရာဟုလာ**)ဆင်းရဲပါမြတ်စွာဘုရား။ ။(**ဗုဒ္ဓ**)မမြဲ,ဆင်းရဲ, ဖောက်လွဲဖောက်ပြန်ဖြစ်တတ်သည့်အဆင်းတွင်မည်ရုပ်ထိုဤကို(ဧတံမမ)ငါ့ဥစ္စာဟူ၍(တဏှာဖြင့်လည်းကောင်း), (ဧသောဟမသ္မိ) ငါဟူ၍ (မာနဖြင့်လည်းကောင်း), (ဧသော မေ အတ္တာ) ငါ၏ အတ္တ လိပ်ပြာတည်းဟူ၍ (ဒိဋ္ဌိဖြင့်လည်းကောင်း) အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။ (**ရှင်ရာဟုလာ**) မသင့်ပါ မြတ်စွာဘုရား (၂)။

(ဗုဒ္ဓ) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့မှတ်ထင်အောက်မေ့ သဘောကျသနည်း။ မျက်စိဌ္ဌမှီသော ဝိညာဏ်(အမြင်ဓာတ်သဘော)သည် မြဲသလော၊ မမြဲသလော၊ (ရှင်ရာဟုလာ) မမြဲပါ မြတ်စွာဘုရား။ ။ (ဗုဒ္ဓ) မမြဲသော မျက်စိဌ္ဌမှီသည့် ဝိညာဏ် (အမြင်ဓာတ်သဘော)သည် ဆင်းရဲသလော၊ ချမ်းသာသလော။ (ရှင်ရာဟုလာ) ဆင်းရဲပါ မြတ်စွာဘုရား။ ။(ဗုဒ္ဓ) မမြဲ, ဆင်းရဲ, ဖောက်လွဲဖောက်ပြန်ဖြစ်တတ်သည့် မျက်စိဌ္ဌမှီသည့်ဝိညာဏ် (အမြင်ဓာတ်သဘော)ကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့်လည်းကောင်း),(ဧသောဟမသ္မိ) ငါဟူ၍(မာနဖြင့်လည်းကောင်း), (ဧသော မေ အတ္တာ)ငါ၏အတ္တလိပ်ပြာတည်းဟူ၍ (ဒိဋ္ဌိဖြင့်လည်းကောင်း)အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။(ရှင်ရာဟုလာ) မသင့်ပါ မြတ်စွာဘုရား (၃)။

(ဗုဒ္ဓ) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့မှတ်ထင်အောက်မေ့ သဘောကျသနည်း။ မျက်စိဌ္ဌမှီသော အတွေ့(စက္ခုသမ္ဖဿ)သည် မြဲသလော၊ မမြဲသလော။ (ရှင်ရာဟုလာ) မမြဲပါ မြတ်စွာဘုရား။ (ဗုဒ္ဓ) မမြဲသော မျက်စိဌ္ဌမှီသော အတွေ့(စက္ခုသမ္ဖဿ)သည် ဆင်းရဲသလော၊ ချမ်းသာသလော။ (ရှင်ရာဟုလာ) ဆင်းရဲပါမြတ်စွာဘုရား။ ။(ဗုဒ္ဓ) မမြဲ,ဆင်းရဲ, ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် မျက်စိဌ္ဌမှီသော အတွေ့ (စက္ခုသမ္ဖဿ)ကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့်လည်းကောင်း), (ဧသောဟမသ္မိ) ငါဟူ၍ (မာနဖြင့်လည်းကောင်း), ဧသော မေ အတ္တာ( ငါ၏ အတ္တလိပ်ပြာတည်းဟူ၍ (ဒိဋ္ဌိဖြင့်လည်းကောင်း) အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။ (ရှင်ရာဟုလာ) မသင့်ပါ မြတ်စွာဘုရား (၄)

(ဗုဒ္ဓ) ချစ်သား ရာဟုလာ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့ သဘောကျသနည်း။ မျက်စိအတွေ့ (စက္ခုသမ္ဖဿ) ကို အကြောင်း ပြု၍ ဖြစ်ပေါ် လာသမျှသော ခံစားမှု=ဝေဒနာ သဘော, မှတ်သားမှု=သညာသဘော, ပြုပြင်မှု=သင်္ခါရသဘော, အထူးသိမှု=ဝိညာဏ်သဘော ဤလေးပါးသော

နာမ်ခန္ဓာ တရားအစုသည် မြဲသလော။ မမြဲသလော။ ။**(ရှင်ရာဟုလာ)** မမြဲပါ မြတ်စွာဘုရား၊ **(ဗုဒ္ဓ)** မမြဲသော နာမ်ခန္ဓာလေးပါး တရားအစုသည် ဆင်းရဲသလော။ ချမ်းသာ သလော။ **(ရှင်ရာဟုလာ)** ဆင်းရဲပါ မြတ်စွာဘုရား။ ။**(ဗုဒ္ဓ)**မမြဲ,ဆင်းရဲ,ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် နာမ်ခန္ဓာလေးပါး တရားအစုကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့် လည်းကောင်း), (ဧသောဟမသ္မိ) ငါဟူ၍ (မာနဖြင့် လည်းကောင်း), (ဧသော မေ အတ္တာ) ငါ၏ အတ္တ လိပ်ပြာ တည်း ဟူ၍ (ဒိဋ္ဌိဖြင့် လည်းကောင်း) အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။**(ရှင်ရာဟုလာ)**မသင့်ပါ မြတ်စွာဘုရား၊ (၅)။ ။ဤကား စက္ခုပဉ္စက **ဓမ္မဒေသနာ**တည်း။

**(ဗုဒ္ဓ)** ချစ်သားရာဟုလာ ယခု ငါဘုရား မေးမြန်းမည့်စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့သဘောကျသနည်း။ နားဟုတွင်မည် ရုပ်အကြည်သည် မြဲသလော။ မမြဲသလော။**(ရှင်ရာဟုလာ)**မမြဲပါ မြတ်စွာဘုရား။(ပေယျာလ)။ ။ဤကား သောတပဉ္စက ဓမ္မဒေသနာတည်း။

**(ဗုဒ္ဓ)** ချစ်သားရာဟုလာ ယခု ငါဘုရား မေးမြန်းမည့်စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့ သဘောကျသနည်း။ နှာခေါင်းတွင်မည် ရုပ်အကြည်သည် မြဲသလော။ မမြဲသလော။**(ရှင်ရာဟုလာ)** မမြဲပါ မြတ်စွာဘုရား။ (ပေယျာလ....ရှေးနည်းဖော်လေ)။ ။ဤကား **ဃာန**ပဉ္စက ဓမ္မဒေသနာတည်း။

**(ဗုဒ္ဓ)** ချစ်သား ရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင်အောက်မေ့ သဘောကျသနည်း။ လျှာဟုတွင်မည် ရုပ်အကြည်သည်မြဲသလော။မမြဲသလော။**(ရှင်ရာဟုလာ)** မမြဲပါ မြတ်စွာဘုရား။ (ပေယျာလ ရှေးနည်းဖော်လေ)။ ။ဤကား ဇိဝှာပဉ္စက ဓမ္မဒေသနာတည်း။

**(ဗုဒ္ဓ)** ချစ်သားရာဟုလာ၊ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့ သဘော ကျသနည်း။

ကိုယ်ဟုတွင်မည့် ရုပ်အကြည်သည်မြဲသလော။မမြဲသလော။(ရှင်ရာဟုလာ) မမြဲပါ မြတ်စွာဘုရား။ (ပေယျာလ ရှေးနည်း ဖော်လေ)။ ။ဤကား ကာယပဉ္စက မမ္မဒေသနာတည်း။

(ဗုဒ္ဓ) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့်စကားကို သင် ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့ သဘောကျ သနည်း။ မနောတွင်မည့် စိတ်အကြည်သည် မြဲသလော။မမြဲသလော။(ရှင်ရာဟုလာ) မမြဲပါ မြတ်စွာဘုရား။ ။(ဗုဒ္ဓ) မမြဲသော မနောတွင်မည့် စိတ်အကြည် သည် ဆင်းရဲသလော၊ ချမ်းသာသလော။ (ရှင်ရာဟုလာ) ဆင်းရဲပါ မြတ်စွာဘုရား။ (ဗုဒ္ဓ) မမြဲ, ဆင်းရဲ, ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် မနောတွင်မည့် စိတ်အကြည်ကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့် လည်းကောင်း), (ဧသော ဟမသ္မိ) ငါဟူ၍ (မာနဖြင့် လည်းကောင်း), (ဧသော မေ အတ္တာ) ငါ၏အတ္တ လိပ်ပြာ တည်းဟူ၍ (ဒိဋ္ဌိဖြင့် လည်း ကောင်း) အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။(ရှင်ရာဟုလာ)မသင့် ပါ မြတ်စွာဘုရား.... (၁)။

(ဗုဒ္ဓ) ချစ်သား ရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင်အောက်မေ့ သဘောကျသနည်း။ ဓမ္မာရုံမည့် ရုပ်နာမ်တို့သည် မြဲကုန်သလော။ မမြဲကုန်သလော။ (ရှင်ရာဟု လာ) မမြဲကုန်ပါ မြတ်စွာဘုရား။ ။(ဗုဒ္ဓ)မမြဲသော ဓမ္မာရုံမည့် ရုပ်နာမ် နှစ်ပါးသည် ဆင်းရဲသလော။ ချမ်းသာသလော။ (ရှင်ရာဟုလာ) ဆင်းရဲ ပါမြတ်စွာဘုရား။ ။(ဗုဒ္ဓ)မမြဲ,ဆင်းရဲ,ဖောက်လွဲဖောက်ပြန် ဖြစ်တတ် သည့် ဓမ္မာရုံခေါ်ဆို ရုပ်နာမ်နှစ်ပါးကို (ဧတံ မမ)ငါ့ဥစ္စာဟူ၍ (တဏှာ ဖြင့် လည်းကောင်း),(ဧသော ဟမသ္မိ)ငါဟူ၍ (မာနဖြင့်လည်းကောင်း), (ဧသော မေ အတ္တာ) ငါ၏ အတ္တလိပ်ပြာ တည်းဟူ၍ (ဒိဋ္ဌိဖြင့် လည်း ကောင်း) အလွဲလွဲ အချော်ချော် ရှုမျှော်သင့်သလော။ (ရှင်ရာဟုလာ) မသင့်ပါ မြတ်စွာဘုရား (၂)။

(**ဗုဒ္ဓ**) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင် အောက်မေ့ သဘောကျသနည်း။ မနောဝိညာဏ် (အထူးသိမှုသဘော) သည် မြဲသလော။ မမြဲသလော။ (**ရှင်ရာဟုလာ**)မမြဲပါ မြတ်စွာဘုရား။ (**ဗုဒ္ဓ**) မမြဲသော မနောဝိညာဏ်သည် ဆင်းရဲသလော။ ချမ်းသာသလော။ (**ရှင်ရာဟုလာ**) ဆင်းရဲပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**)မမြဲ,ဆင်းရဲ,ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် မနောဝိညာဏ်ကို (ဧတံ မမ)ငါ့ဥစ္စာဟူ၍ (တဏှာဖြင့် လည်းကောင်း), (ဧသောဟမသ္မိ) ငါဟူ၍ (မာနဖြင့်လည်းကောင်း),(ဧသောမေအတ္တာ) ငါ၏ အတ္တလိပ်ပြာတည်းဟူ၍ (ဒိဋ္ဌိဖြင့် လည်းကောင်း)အလွဲလွဲ အချော်ချော် ရှုမျှော်သင့်သလော။(**ရှင်ရာဟုလာ**) မသင့်ပါ မြတ်စွာဘုရား (၃)။

(**ဗုဒ္ဓ**) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင်အောက်မေ့ သဘောကျသနည်း။ စိတ်၌မှီသော အတွေ့ (မနောသမ္ဖဿ)သည် မြဲသလော။ မမြဲသလော။ (**ရှင်ရာဟုလာ**)မမြဲပါ မြတ်စွာဘုရား။(**ဗုဒ္ဓ**)မမြဲသော မနောသမ္ဖဿသည် ဆင်းရဲသလော။ ချမ်းသာသလော။ (**ရှင်ရာဟုလာ**) ဆင်းရဲပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**) မမြဲ, ဆင်းရဲ, ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် မနောသမ္ဖဿကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍(တဏှာဖြင့် လည်းကောင်း,) (ဧသောဟမသ္မိ)ငါဟူ၍(မာနဖြင့်လည်းကောင်း,)(ဧသော မေ အတ္တာ) ငါ၏ အတ္တလိပ်ပြာတည်းဟူ၍ (ဒိဋ္ဌိဖြင့်လည်းကောင်း) အလွဲလွဲအချော်ချော် ရှုမျှော်သင့်သလော။ (**ရှင်ရာဟုလာ**)မသင့်ပါ မြတ်စွာဘုရား (၄)။

(**ဗုဒ္ဓ**) ချစ်သားရာဟုလာ၊ ယခု ငါဘုရား မေးမြန်းမည့် စကားကို သင်ချစ်သားသည် အဘယ်သို့ မှတ်ထင်အောက်မေ့ သဘောကျသနည်း။ မနောအတွေ့ (မနောသမ္ဖဿ) ကို အကြောင်းပြု၍ ဖြစ်ပေါ်လာသမျှသော ခံစားမှု=ဝေဒနာသဘော, မှတ်သားမှု=သညာသဘော, ပြုပြင်မှု=သင်္ခါရသဘော, အထူးသိမှု=ဝိညာဏ်သဘော ဤလေးပါးသော နာမ်ခန္ဓာ တရားအစုသည် မြဲသလော။မမြဲသလော။(**ရှင်ရာဟုလာ**)မမြဲပါ မြတ်စွာဘုရား။ (**ဗုဒ္ဓ**) မမြဲသော နာမ်ခန္ဓာလေးပါး တရားအစုသည်

ဆင်းရဲသလော။ ချမ်းသာသလော။ (**ရှင်ရာဟုလာ**) ဆင်းရဲပါ မြတ်စွာဘုရား။ ။(**ဗုဒ္ဓ**) မမြဲ, ဆင်းရဲ, ဖောက်လွဲဖောက်ပြန် ဖြစ်တတ်သည့် နာမ်ခန္ဓာလေးပါး တရားအစုကို (ဧတံ မမ) ငါ့ဥစ္စာဟူ၍ (တဏှာဖြင့်လည်းကောင်း), (ဧသောဟမသ္မိ)ငါဟူ၍ (မာနဖြင့်လည်းကောင်း,)(ဧသော မေ အတ္တာ) ငါ၏အတ္တလိပ်ပြာတည်းဟူ၍(ဒိဋ္ဌိဖြင့်လည်းကောင်း)အလွဲလွဲ အချော်ချော် ရှုမြော်သင့်သလော။(**ရှင်ရာဟုလာ**)မသင့်ပါ မြတ်စွာဘုရား။ (၅)။ ။(ဤကား မနောပဉ္စက ဓမ္မဒေသနာတည်း။)

(ဤသို့ အနိစ္စအချက်, ဒုက္ခအချက်, အနတ္တအချက် ကွက်ကွက်ကွင်းကွင်း လင်းလင်းပေါ်လွင်အောင် သုံးဖန်သုံးကျော့ မေးမြန်းဟောကြားအပ်သည့် တရားဒေသနာကို "တေပရိဝဋ္ဋ ဓမ္မဒေသနာ" ဟူ၍ ခေါ်၏။)

(**နိဂုံး**) ချစ်သား ရာဟုလာ၊အကြားအမြင်များသော ငါဘုရား၏ တပည့်သာဝကသည် ဤသို့ ရှုမြင်လတ်သော် မျက်စိတွင်မည် ရုပ်အကြည်၌ ငြီးငွေ့၏။ အဆင်းမျိုးစုံ ရူပါရုံတို့၌ ငြီးငွေ့၏။ စက္ခုဝိညာဏ် (အမြင်ခာတ်သဘော)၌ ငြီးငွေ့၏။ မျက်စိအတွေ့ (စက္ခုသမ္ဖဿ)၌ ငြီးငွေ့၏။ မျက်စိအတွေ့ကို အကြောင်းပြု၍ ဖြစ်ပေါ်သမျှသော ဝေဒနာ သညာ သင်္ခါရ ဝိညာဉ် ဤလေးအင်သော နာမ်ခန္ဓာတရား၌လည်း ငြီးငွေ့၏၊ နားဟုတွင်မည် ရုပ်အကြည်၌ ငြီးငွေ့၏။ အသံမျိုးစုံ သဒ္ဒါရုံတို့၌ ငြီးငွေ့၏။(ပေယျာလ)။ နှာခေါင်းတွင်မည် ရုပ်အကြည်၌ ငြီးငွေ့၏။အနံ့မျိုးစုံ ဂန္ဓာရုံတို့၌ ငြီးငွေ့၏။ လျှာဟုတွင်မည် ရုပ်အကြည်၌ ငြီးငွေ့၏၊ အရသာမျိုးစုံ ရသာရုံတို့၌ ငြီးငွေ့၏။ ကိုယ်ဟုတွင်မည် ရုပ်အကြည်၌ ငြီးငွေ့၏၊ အတွေ့မျိုးစုံ ဖောဋ္ဌဗ္ဗာရုံတို့၌ ငြီးငွေ့၏။ မနောတွင်မည် စိတ်အကြည်၌ ငြီးငွေ့၏။ ဓမ္မာရုံတို့၌ ငြီးငွေ့၏။ မနောဝိညာဏ်၌ ငြီးငွေ့၏၊ မနောသမ္ဖဿ၌ ငြီးငွေ့၏။ မနောသမ္ဖဿကို အကြောင်းပြု၍ ဖြစ်ပေါ်သမျှသော ဝေဒနာ သညာ သင်္ခါရ ဝိညာဉ် ဤလေးအင်သော နာမ်ခန္ဓာတရား၌လည်း ငြီးငွေ့၏။ ငြီးငွေ့သည်ရှိသော် တပ်ခြင်းကင်း၏၊ တပ်ခြင်းကင်းခြင်းကြောင့် ကိလေသာမှလွတ်၏။ ကိလေသာမှ လွတ်ပြီးသော်

"ကိလေသာမှ လွတ်ပြီ"ဟု ပစ္စဝေက္ခဏာအသိဉာဏ်ဖြစ်၏။ "ပဋိသန္ဓေ နေရမှု ကုန်ပြီ၊ မြတ်သောအကျင့်ကို ကျင့်သုံးပြီးပြီ။ ပြုဖွယ် (မဂ်) ကိစ္စကို ပြုပြီးပြီ၊ ဤ (မဂ်) ကိစ္စအတွက် နောက်ထပ် ပြုဖွယ် မရှိတော့ပြီ"ဟု အဆက်ဆက်သော ပစ္စဝေက္ခဏာဉာဏ်ဖြင့် သိ၏။

ဟူ၍ ဤစူဠရာဟုလောဝါဒသုတ်ကို မြတ်စွာဘုရား ဟောကြားအပ်သည် ရှိသော် အရှင်ရာဟုလာသည် အရဟတ္တဖိုလ်၌ တည်တော် မူလေ၏။ ထောင်ပေါင်းများစွာ ကိုနတ်ဗြဟ္မာတို့သည်လည်း အချို့သောတာပန်, အချို့သကဒါဂါမ်,အချို့အနာဂါမ်,အချို့ရဟန္တာ(ပါရမီအလျောက်) အသီးအသီး ဖြစ်ကြလေသည်။

## အရှင်ရာဟုလာကို မာရ်နတ်ခြောက်လှန့်ခြင်း အကြောင်း

တနေ့သ၌ မိုးချုပ်သောအခါတွင် များစွာသော မထေရ်တို့သည် ဇေတဝန်ကျောင်းတိုက်အတွင်းသို့ ဝင်ကြကုန်၍ ရှင်ရာဟုလာမထေရ်၏ နေရာဌာနသို့ သွားရောက်ကြပြီးလျှင် နေထိုင်ကြလေသည်။ ရှင်ရာဟုလာ ကား ထေရ်ငယ် ဝါငယ်ဖြစ်၍ မိမိ၏နေရာ၌ မထေရ်ကြီးများ လာရောက် နေထိုင်ကြသည်ကို မတားမြစ်ပိုင်ပဲ အခြားနေရာတခုကို ရှာမှီးသည်တွင် နေရာမရရှိသဖြင့် မြတ်စွာဘုရားရှင်၏ ဂန္ဓကုဋီ ကျောင်းတော် မုခ်ဦး၌ လျောင်းစက်တော်မူရ၏။ ထိုအချိန်၌ အရှင်ရာဟုလာသည် အရဟတ္တဖိုလ် သို့ ရောက်ပြီးစ ဝါမရသေးသော ရဟန်းငယ်ပင် ဖြစ်လေသည်။

မာရ်နတ်သည် ဝသဝတ္တီနတ်ပြည်၌ တည်နေရင်းကပင် ဂန္ဓကုဋီ ကျောင်းတော်မုခ်ဦး၌ လျောင်းစက်နေသော အရှင်ရာဟုလာကို မြင်လေ လျှင်

"ရဟန်း ဂေါတမ၏ ထိလျှင်နာကျင်မည့် လက်ချောင်း ကလေး (=ရှင်ရာဟုလာကို ဆိုလိုသည်ကား ဂန္ဓကုဋီ ပြင်ပ၌ လျောင်းစက်နေလေပြီ၊ ရဟန်းဂေါတမကိုယ်တိုင်ကမူ ဂန္ဓကုဋီ

ကျောင်းအတွင်း၌ လျှောက်စက်နေလေပြီ၊ လက်ချောင်းကလေး
ကို နှိပ်စက်အပ်လျှင် ရဟာန်းဂေါတမကိုလည်း နှိပ်စက်အပ်သည်
ဖြစ်ပေတော့မည်”

ဟု ကြံစည်၍ ထိုမာရ်နတ်သည် ကြီးစွာသော ဆင်မင်းအသွင်ကို ဖန်ဆင်းပြီးလျှင် ရှင်ရာဟုလာအနီးသို့ လာရောက်၍ နှာမောင်းဖြင့် ရှင်ရာဟုလာ၏ ဦးခေါင်းကို ပွေ့ပိုက်ပြီးလျှင် သည်းစွာသောအသံဖြင့် ကြိုးကြာသံမြည်ဟည်းလေ၏။

မြတ်စွာဘုရားရှင်သည် ဂန္ဓကုဋီကျောင်းတော်အတွင်း ထိုင်နေတော်မူရင်းကပင် မာရ်နတ်မှန်း သိတော်မူ၍

“ဟယ် မာရ်နတ်၊ သင်ကဲ့သို့သော မာရ်နတ်တဦးတည်းကို မဆိုထားဘိ၊ မာရ်နတ်ပေါင်း တသိန်းသည်လည်း ငါ့သားတော်အား ကြောက်ရွံ့ခြင်းကို ဖြစ်စေခြင်းငှာ မစွမ်းနိုင်ချေ၊ မှန်၏၊ ငါ့သားတော်သည် ထိတ်လန့်ခြင်း အလျှင်းမရှိ၊ တဏှာကင်းပြီးသူ လုံ့လဝီရိယကြီးမားသူ ဖြစ်ပေ၏”

ဟုမိန့်တော်မူပြီးလျှင် တရားတံဆိပ် ခတ်နှိပ်တော်မူလိုသဖြင့်

နိဋ္ဌင်္ဂတော အသန္တာသီ
ဝီတတဏှော အနင်္ဂဏော။
အစ္ဆိန္ဒိ ဘဝသလ္လာနိ
အန္တိမောယံ သမုဿယော။

(မာရ=နှောင့်ယှက်လာလတ် ဟယ်မာရ်နတ်။ မမ ပုတ္တော=ငါဘုရား၏ သားချစ်သည်းလျှာ ရာဟုလာသည်)။ နိဋ္ဌင်္ဂတော=ဖြဟ္မစရိယ ပရိယောသာနခေါ်ဆို အရဟတ္တဖိုလ် တည်းဟူသော အပြီးအဆုံးသို့ ရောက်ပြီးသူ ဖြစ်ပေ၏။ အသန္တာသီ=ထိတ်လန့်ကြောက်ရွံ့ခြင်း အလျှင်းမရှိ။ ဝီတတဏှော=တဏှာအစစ် တရာ့ရှစ်ပါး စင်စစ်ကင်းပြီးသူလည်းဖြစ်ပေ၏။အနင်္ဂဏော=တထောင်ငါးရာ [illegible] လာသာအညစ်အကြေး ကင်းဝေးသူလည်း ဖြစ်ပေ၏။ ဘဝသလ္လာန်=ကာမ,

ရူပ, အရူပဟု ဘဝခပင်း ပြောင့်တံသင်းတို့ကို။ အစ္စိန္ဒိ=အမြစ်မကျန် ပယ်လှန်ဖြုတ်တောက်ပြီးပြီ။ (အဿ=ရာဟုလာတွင်ခေါ် ထို ငါ့သား တော်၏)။ အယံ=ယခုဘဝ ရရှိနေဆဲ ခန္ဓာကိုယ်သည်။ အန္တိမော သမုဿယော=ပစ္ဆိမဘဝ နောက်ဆုံးရသည့် ခန္ဓာကိုယ်တည်း။

ဝီတတဏှော အနာဒါနော
နိရုတ္တိပဒကောဝိဒေါ။
အက္ခရာနံ သန္နိပါတံ
ဇညာ ပုဗ္ဗာပရာနိ စ။
သ ဝေ အန္တိမသာရီရော
မဟာပညော မဟာပုရိသောတိ ဝုစ္စတိ။

(ယော=အကြင်သူသည်)။ဝီတတဏှော=တဏှာအစစ် တရာ့ရှစ်မှ စင်စစ် ကင်းပြီးသူလည်း ဖြစ်၏။ အနာဒါနော = ရုပ်နာမ် နှစ်ဖြာ ငါးခန္ဓာ၌ ငါ, ငါ့ဥစ္စာ, ငါ့လိပ်ပြာဟု တဏှာစွဲ မာနစွဲ ဒိဋ္ဌိစွဲတို့ လည်း အလျှင်းမရှိသူ ဖြစ်၏။ နိရုတ္တိပဒကောဝိဒေါ=နိရုတ္တိပဋိသမ္ဘိဒါနှင့်တကွ အတ္ထ, ဓမ္မ, ပဋိဘာန် ပဋိသမ္ဘိဒါအမြင် ဉာဏ်လေးအင်၌ ကျွမ်းကျင် လိမ်မာ၏။ အက္ခရာနံ=သဘာဝနိရုတ္တိ မည်ရှိသည့် အက္ခရာတို့၏။ သန္နိပါတဉ္စ=အပေါင်းဖြစ်သော ပုဒ်အစုကိုလည်း။ ဇညာ=ပိုင်းခြားထင်ထင် အမှန်အတိုင်း သိမြင်၏။ (သဘာဝနိရုတ္တိကို မသိသူက ဖဿစေတသိက်ကို ရည်ညွှန်း၍ "ဖုဿော"ဟု ပုဒ်အလွဲကို ရွတ်ဆိုလျှင်လည်း "ဖဿော"ဟု သဘာဝနိရုတ္တိ ပုဒ်မှန်ကို သိ၏ဟု ဆိုလိုသည်)။ ပုဗ္ဗာပရာနိစ=နောက်အက္ခရာကို ထောက်၍ ရှေ့ဖြစ် သော အက္ခရာ,ရှေ့အက္ခရာကိုထောက်၍ နောက်ဖြစ်သော အက္ခရာ တို့ကိုလည်း။ ဇညာ=ပိုင်းခြား ထင်ထင် အမှန်အတိုင်း သိမြင်၏၊ [စေတနာဟူ၍ အက္ခရာ သုံးလုံးရှိသော သဘာဝနိရုတ္တိ ပါဠိပုဒ်ဝယ် (စေ) ဟူသော အစအက္ခရာသာထင်၍ (တ,နာ)ဟူသော အလယ် အက္ခရာ,အဆုံးအက္ခရာတို့မထင်စေကာမူထင်သောအစအက္ခရာ(စေ) ကိုထောက်၍မထင်သော(တ,နာ)အလယ်အက္ခရာ, အဆုံးအက္ခရာတို့

ကို အမှန်အတိုင်း သိသည်။ အလယ်အကျွရာသာ ထင်၍ အဆုံးအကျွရာ,အစအကျွရာ မထင်ရာ၌လည်းထိုနည်းအတူပင်တည်း။အဆုံးအကျွရာသာထင်၍ အစအကျွရာ,အလယ်အကျွရာတို့ မထင်ရာ၌လည်း ထို့အတူပင်တည်း]။ အန္တိမသာရီရော=နောက်ဆုံး ခေါ်ဆို ခန္ဓာကိုယ်ရှိသော။ သ-သော=ထိုပုဂ္ဂိုလ်ကို။ ဝေ=စင်စစ်။ မဟာပညောတိ=ကြီးမြတ်သော ပညာရှိသော ပုဂ္ဂိုလ်ဟူ၍ လည်းကောင်း။ မဟာပုရိသောတိ=တထောင့်ငါးရာ ကိလေသာမှ ကင်းလွတ်သည့် မြတ်သော ယောကျ်ားဟူ၍ လည်းကောင်း။ ဝုစ္စတိ=ခေါ်ဆိုအပ်ပေ၏”ဟူသော နှစ်ဂါထာကို ဟောကြားတော်မူလေ၏။ဒေသနာနိဂုံး ဆုံးသောအခါ၌ များစွာသောသူတို့ သောတာပတ္တိဖိုလ် စသည်တို့သို့ ရောက်ဆိုက်ကြလေသည်။

မာရ်နတ်သည်လည်း “ငါ့ကို မြတ်စွာဘုရား သိသွားတော်မူပြီ”ဟု အောက်မေ့ကာ ထိုအရပ်မှာပင် ကွယ်လေ၏။

အရှင်ရာဟုလာကို မာရ်နတ် ခြောက်လှန့်ခြင်းအကြောင်း ပြီး၏။

## တရားနှလုံး ကျင့်သုံးဆင်ခြင်ဖွယ်

(သုတ္တန်တခုခုကို ကြည့်ရှုနာယူလျှင် ထိုသုတ္တန်မှ မိမိလိုက်နာကျင့်သုံးရမည့် တရားအချက်ကို သတိပြုရန် အရေးကြီးလှ၏။ ဤစူဠရာဟုလောဝါဒသုတ်၌ မြတ်စွာဘုရားရှင်က စက္ခုပဥ္စက, သောတပဥ္စက,ဃာနပဥ္စက, ဇိဝှာပဥ္စက, ကာယပဥ္စက, မနောပဥ္စက ဤ ဆ-ပဥ္စက ဓမ္မအချက်တို့ကို တေပရိဝဋ္ဋဓမ္မဒေသနာနည်းဖြင့် ဟောကြားလတ်သည်တွင် အရှင်ရာဟုလာသည် မြတ်စွာဘုရားရှင်၏ မေးမြန်းတော် မူချက်ကို ဖြေဆိုရင်း တရားနာရင်းပင် တရားနှလုံး ကျင့်သုံးတော်မူသောကြောင့် အရဟတ္တဖိုလ်ပေါက် အရိယာအဖြစ်သို့ ရောက်တော်မူသည်။

ထို့ကြောင့် ရှင်ရာဟုလာ အရဟတ္တဖိုလ် ပေါက်ရောက်သော ကမ္မဋ္ဌာန်းကို စီးဖြန်းနှလုံးသွင်းလိုပါသည်ဟုဆိုလျှင် ဤ ဆ-ပဥ္စက ဓမ္မအချက်ကိုပင် နှလုံးသွင်းစီးဖြန်းရပေလိမ့်မည်။ နှလုံးသွင်းပုံမှာ

ပါဠိဖြင့် နှုလုံးသွင်းလိုလျှင် **(စက္ခုပဉ္စကအတွက်)** စက္ခု အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ရူပါ အနိစ္စာ ဒုက္ခာ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ စက္ခုဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ စက္ခုသမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ယမိဒံ စက္ခုသမ္ဖဿပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ၊ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ။ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။

**(သောတပဉ္စကအတွက်)** သောတံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ သဒ္ဒါ အနိစ္စာ ဒုက္ခာ အနတ္တာ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ သောတဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ။ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ သောတသမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသော ဟမသ္မိ၊ န မေ သော အတ္တာ။ ယမိဒံ သောတသမ္ဖဿပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ၊ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။

**(ဃာနပဉ္စကအတွက်)** ဃာနံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဂန္ဓာ အနိစ္စာ ဒုက္ခာ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဃာန ဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဃာနသမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ယမိဒံ ဃာနသမ္ဖဿပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ၊ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။

**(ဇိဝှါပဉ္စကအတွက်)** ဇိဝှါ အနိစ္စာ၊ ဒုက္ခာ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ရသာ အနိစ္စာ ဒုက္ခာ အနတ္တာ၊

နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဇိဝှါ ဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဇိဝှါ သမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ယမိဒံ ဇိဝှါသမ္ဖဿပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ၊ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊

**(ကာယပဉ္စက အတွက်)** ကာယော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ဖောဋ္ဌဗ္ဗာ အနိစ္စာ ဒုက္ခာ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ကာယဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ကာယသမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ၊ ယမိဒံ ကာယသမ္ဖဿ ပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ၊ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။

**(မနောပဉ္စကအတွက်)** မနော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ဓမ္မာ အနိစ္စာ ဒုက္ခာ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ မနော ဝိညာဏံ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ မနောသမ္ဖဿော အနိစ္စော ဒုက္ခော အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။ ယမိဒံ မနောသမ္ဖဿ ပစ္စယာ ဥပ္ပဇ္ဇတိ ဝေဒနာဂတံ သညာဂတံ သင်္ခါရဂတံ ဝိညာဏဂတံ တမ္ပိ အနိစ္စံ ဒုက္ခံ အနတ္တာ၊ နေတံ မမ၊ နေသောဟမသ္မိ၊ န မေ သော အတ္တာ။(ဤကဲ့သို့နှလုံးသွင်း ပွားများရပေမည်)။

မိမိက ဗုဒ္ဓဘာသာ မြန်မာလူမျိုးဖြစ်သည့်အတွက် မြန်မာဘာသာ ဓမ္မလက်ာဖြင့် နှလုံးသွင်းလိုလျှင် ဤသုံလတ္တံ့သောအတိုင်း နှလုံးသွင်း ပွားများရန် သင့်လျော်ပေသည်။

## ၁။ စက္ခုပဉ္စကအတွက်

(က) **မျက်စိတွင်မည်။** ။ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား။**

(ခ) **အဆင်းတွင်မည်။** ။ရုပ်ထိုက္ခုလည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး၊ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ **ဒုက္ခ အနတ္တပါတကား။**

(ဂ) **မျက်စိဉ္ဉ်မှို။** ။ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး၊ ပညာစက္ခု၊ မျှော်ထောက်ရှုသော်။ သူ့သဘာဝ၊ အနိစ္စသည်၊ ။**ဒုက္ခ အနတ္တပါတကား။**

(ဃ) **မျက်စိဉ္ဉ်မှို။** ။အတွေ့သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ **ဒုက္ခ အနတ္တပါတကား။**

(င) **မျက်စိအတွေ့။** ။ကြောင်းပြု၍လျှင်၊ ဖြစ်လေ့များစွာ၊ ဝေဒနာနှင့်၊ သညာသင်္ခါရ၊ ဝိညာဏဟု၊ အစုလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်

ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။ဒုက္ခ အနတ္တ ပါတကား၊

(ဤစကျ ပဋ္ဌကကို ကျေလည်အောင် နှုတ်ရဆောင်၍ ထားပါက ကျန်သော ပဋ္ဌကငါးပါးတို့အတွက် အလွယ်နှင့် နှုတ်ကက်နိုင်ပေသည်)။

## ၂။ သောတပဋ္ဌကအတွက်

(က) **နားဟုတွင်မည်။** ။ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။ဒုက္ခ အနတ္တပါတကား။

(ခ) **အသံတွင်မည်။** ။ရုပ်တို့၏လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(ဂ) **နား၌စွဲမှီ။** ။ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(ဃ) **နား၌စွဲမှီ၊** ။အတွေ့သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(င) **နား၌အတွေ့။** ။ကြောင်းပြု၍လျှင်၊ ဖြစ်လေ့များစွာ၊ ဝေဒနာနှင့်၊ သညာ သင်္ခါရ၊ ဝိညာဏဟု၊ အရေလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ **ခဏပျက်၏။ ဖြစ်ပျက်နှစ်တန် နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။ဒုက္ခ အနတ္တပါတကား။**

## ၃။ ဃာနပဉ္စကအတွက်

(က) **နှာခေါင်းတွင်မည်။** ။ရုပ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မဘည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား။**

(ခ) **အနံ့တွင်မည်။** ။ရုပ်ထိုဤလည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ။ (ရှေးနည်းအတူ ဆိုလေ)။

(ဂ) **နှာခေါင်း၌မှီ။** ။ဝိညာဏ် သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(ဃ) **နှာခေါင်း၌မှီ။** ။အတွေ့ သည်လည်း၊ မြင့်ရှည် ကာလ၊ မဘည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(င) **နှာခေါင်းအတွေ့။** ။ကြောင်းပြု၍လျှင်၊ ဖြစ်လေ့များစွာ၊ ဝေဒနာနှင့်၊ သညာသင်္ခါရ၊ ဝိညာဏဟု၊ အစုလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး....။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား။**

## ၄။ ဇိဝှာပဉ္စကအတွက်

(က) **လျှာဟုတွင်မည်။** ။ရုပ် အကြည်ကား၊ မြင့်ရှည် ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား။**

(ခ) **ရသာတွင်မည်။** ။ရုပ်ထိုဤလည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(ဂ) **လျှာ၌စွဲမှီ။** ။ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(ဃ) **လျှာ၌စွဲမှီ။** ။အတွေ့သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(င) **လျှာ၌အတွေ့။** ။ကြောင်း ပြု ၍ လျှင်၊ ဖြစ်လေ့ များစွာ။ ဝေဒနာနှင့်၊ သညာ သင်္ခါရ၊ ဝိညာဏဟု၊ အစုလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု။ မျှော်ထောက်ရှုသော်။ သူ့သဘာဝ၊ အနိစ္စသည်။ **ဒုက္ခ အနတ္တပါတကား။**

## ၅။ ကာယပဉ္စကအတွက်

(က) **ကိုယ်ဟုတွင်မည်။** ။ရုပ် အ ကြည် ကား၊ မြင့် ရှည် ကာ လ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏ ပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ။ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား**။

(ခ) **အတွေ့တွင်မည်**။ ။ရုပ်ထိုဤလည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(ဂ) **ကိုယ်၌စွဲမှီ**။ ။ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(ဃ) **ကိုယ်၌စွဲမှီ**။ ။အတွေ့သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူ ဆိုလေ)။

(င) **ကိုယ်၌အတွေ့**။ ။ကြောင်းပြု၍လျှင်၊ ဖြစ်လေ့များစွာ၊ ဝေဒနာနှင့်၊ သညာသင်္ခါရ။ ဝိညာဏဟု၊ အစုလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ။ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ **ဒုက္ခ အနတ္တပါတကား**။

## ၆။ မနောပဉ္စကအတွက်

(က) **မနောတွင်မည်**။ ။စိတ်အကြည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်၊ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏။ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ ။**ဒုက္ခ အနတ္တပါတကား**။

(ခ) **ဓမ္မတွင်မည်**။ ။ရုပ်နာမ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(ဂ) **မနောတွင်မည်**။ ။ဝိညာဏ်သည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(ဃ) **မနော၌မှီ**။ ။အတွေ့သည်လည်း၊မြင့်ရှည်ကာလ၊မတည်ထပဲ၊ (ရှေးနည်းအတူဆိုလေ)။

(င) **မနောအတွေ့**။ ။ကြောင်းပြု၍လျှင်၊ ဖြစ်လေ့များစွာ၊ ဝေဒနာနှင့်၊ သညာ သင်္ခါရ၊ ဝိညာဏဟု၊ အစုလေးမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ၊ ခဏဖြစ်လျက်၊ ခဏပျက်၏။ ဖြစ်ပျက်နှစ်တန်။ နှိပ်စက်ဒဏ်ဖြင့်၊ တရံမစဲ၊ လွန်ဆင်းရဲ၏၊ ခိုင်မြဲကျောမာ၊ နှစ်မပါဘူး။ ပညာစက္ခု၊ မျှော်ထောက်ရှုသော်၊ သူ့သဘာဝ၊ အနိစ္စသည်။ **ဒုက္ခအနတ္တပါတကား**။ ။(ဤကဲ့သို့ နှလုံးသွင်းဆင်ခြင်ပွားများရာ၏)။

ဤ''ဆ-ပဉ္စက ဓမ္မလင်္ကာ''ကို နည်းမှီး၍ ခန္ဓာငါးပါး ကမ္မဋ္ဌာန်းတရားကို အားထုတ်လိုသော သူတော်စဉ်များသည်လည်း

ရုပ်ဟု တွင်မည်၊ ခန္ဓာသည်ကား၊ မြင့်ရှည်ကာလ၊ မတည်ထပဲ (စသည်ဖြင့်လည်းကောင်း)၊ ဝေဒနာမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊မတည်ထပဲ၊ (စသည်ဖြင့်လည်းကောင်း)၊ သညာတွင်မည်၊ ခန္ဓာသည်လည်း၊မြင့်ရှည်ကာလ၊မတည်ထပဲ(စသည်ဖြင့်လည်းကောင်း)သင်္ခါရမည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ(စသည်ဖြင့်လည်းကောင်း) ဝိညာဏ်ခေါက်မည်၊ ခန္ဓာသည်လည်း၊ မြင့်ရှည်ကာလ၊ မတည်ထပဲ (စသည်ဖြင့်လည်းကောင်း) ရှေးနည်းအတူ အနိစ္စ ဒုက္ခ, အနတ္တ လက္ခဏာသုံးပါးကို အားထုတ်ဆင်ခြင်ရာ၏။

(ဤကား စူဠရာဟုလောဝါဒ သုတ်မှ ထုတ်နုတ်ကျင့်သုံး ဆင်ခြင်ဖွယ်တည်း)။



အဘိဏှရာဟုလောဝါဒသုတ်

## ဆောင်ပုဒ်လင်္ကာ

**၁။ မိတ်ကောင်းမှီစေ၊ တောရပ်နေ၊ သုံးလေ မတ္တညူ။**

(၁-မိတ်ဆွေကောင်း ပေါင်းသင်းရမည်၊ ၂-သိမ်ဖြိမ်ရာ အရပ်၌ ချဉ်းကပ် နေထိုင်ရမည်၊ ၃-အစာအာဟာရ၌ အတိုင်းအရှည်ကို သိသူ = မတ္တညူ ပုဂ္ဂိုလ်ဖြစ်ရမည်=လေးလုပ် ငါးလုပ် မလျှော့၍စားရမည်)။

**၂။ ပစ္စည်းလေးဖြာ။ မတွယ်တာ၊ တဏှာငြိ**ငြိမ်းအောင်ပြု။

(၄-သင်္ကန်း+ဆွမ်း+ကျောင်း + ဆေး=ပစ္စည်းလေးပါးတို့၌တွယ်တာတပ်မက်မှုကိုမပြုရ၊ ဤကား အခြေခံတရား ၄-ပါးတို့တည်း)။

**၃။ ပါတိမောက္ခ၊ သံဝရ၊ သီလ လုံစေမှု။**

(လူတို့၏ ငါးပါးသီလ + ရှစ်ပါးသီလ၊သာမဏေတို့၏ ဆယ်ပါးသီလ + သေခိယဝတ္တသီလ၊ ရဟန်းတို့၏ စာရိတ္တ သီလ + ဝါရိတ္တသီလတို့ကို ပါတိမောက္ခ သံဝရသီလဟု ခေါ်၏ = စောင့်ထိန်းသူကို အပါယ်ဘေး သံသရာဘေးမှ လွတ်မြောက်စေတတ်သော သီလ ဟု ဆိုလို၏)။

**၄။ တံခါးမြောက်ထွေ၊ ဣန္ဒြေ၊ ငြိမ်စေပိတ်ဆို့ပြု။**

(မျက်စိ+နား+နှာ+လျှာ+ကိုယ်+စိတ်=ဟူသောဣန္ဒြေ ၆-ပါး တို့၌ အကုသိုလ် မဖြစ်အောင် စောင့်ထိန်းလေ၊ ဤကား သီလပိုင်းတည်း)။

**၅။ သတိမြဲရာ၊ ကိုယ်၌သာ၊ ခန္ဓာငြိးငွေ့မှု။**

(ကာယဂတာ သတိကမ္မဋ္ဌာန်းဖြင့် သမာဓိဘာဝနာကို အားထုတ်လေ၊ ထိုကာယဂတာသတိ ကမ္မဋ္ဌာန်းကို နိဗ္ဗိဒါ ဉာဏ်များသူဖြစ်အောင် အားထုတ်လေ)။

**၆။ သုဘနိမိတ်၊ ခွာရှောင်ဆိတ်၊ စျာန်စိတ်ပိုင်အောင်ရှု။**

[ထိုကာယဂတာသတိ သမာဓိ ဘာဝနာ အောင်မြင် ရန်အတွက် သုဘနိမိတ်ကို ရှောင်ကြဉ်လေ၊ ထိုသမာဓိ ဘာ ဝနာကို ဥပစာရစျာန် (သို့မဟုတ်) အပ္ပနာစျာန် ရောက် အောင် အားထုတ်လေ၊ ဤကား သမာဓိပိုင်းတည်း]။

**၇။ အနိမိတ္တ၊ ထင်စေမှု၊ မာနကွာအောင်ပြု။**

(နိစ္စနိမိတ် သုခနိမိတ် အတ္တနိမိတ်တို့ကို ခွာဆိတ်စေတတ် သောကြောင့် အနိစ္စဝိပဿနာ ဒုက္ခဝိပဿနာ အနတ္တဝိပဿ နာ ဤသုံးပါးကို အနိမိတ္တဘာဝနာခေါ်၏၊ ထိုဘာဝနာကို

မာနာနုသယ အမြစ်ပြတ်သည်တိုင်အောင် အားထုတ်လေ၊
ဤကား ပညာပိုင်းစည်း)။

**၈။ ဤနည်းကျင့်ပေ၊ ဝဋ်သုံးထွေ၊ ငြိမ်းလေ မှန်သည်ဟု။**

**၉။ ရာဟုလာအား၊ တို့ဘုရား၊ ဟောကြားနေ့ နေ့မှူး။**

**အဘိဏှရာဟုလောဝါဒသုတ်လာ**

နည်းအဖြာဖြာကို အစဉ်မှီးကြလျက် ဖြည့်ကျင့်ဖွယ်ရာ တရားစု
တို့ကို ရှိသေစွာ-လိုက်နာကျင့်ကြံနိုင်ကြပါစေသော်။



**ဝိဇယသုတ္တန်**

**ဝိဇယသုတ္တန် ပထမအကြိမ် မဟာတော်မူခြင်း အကြောင်း**

ဤသုတ္တန်ကို (၁) ဝိဇယသုတ္တန်ဟူ၍ လည်းကောင်း (၂) ကာယဝိစ္ဆန္ဒနိက သုတ္တန်ဟူ၍ လည်းကောင်း (၃) နန္ဒသုတ္တန်ဟူ၍လည်းကောင်း အမည်သုံးပါးဖြင့် ခေါ်ဆိုအပ်လေသည်။ အကြောင်းကား

(၁) (၂) ကိုယ်ကာယ၌ တပ်မက်သော ဆန္ဒရာဂ (=တဏှာလောဘ)ကို အောင်နိုင်ကြောင်း ဖြစ်သောကြောင့် ဝိဇယသုတ္တန် ဟူ၍ ခေါ်ဆိုအပ်၏။ ထိုကိုယ်ကာယ၌ တပ်မက်သော ဆန္ဒရာဂ (=တဏှာလောဘ)ကို ဖြတ်ပယ်ကြောင်း ဖြစ်သောကြောင့် ကာယဝိစ္ဆန္ဒနိက သုတ္တန် (တနည်း) ကာယဝိစ္ဆန္ဒနိကသုတ္တန် ဟူ၍ ခေါ်ဆိုအပ်သည်။

ချဲ့ဦးအံ့။ ဤဝိဇယသုတ္တန်ကို ၁။ သာဝတ္ထိပြည်၌ ဇနပဒကလျာဏီ နန္ဒာထေရီကို အကြောင်းပြု၍ ပထမ အကြိမ် ဟောတော်မူသည်။ ၂။ ရာဇဂြိုဟ်ပြည်၌ သိရိမာ ပြည့်တန်းဆာမကို အကြောင်းပြု၍ဒုတိယ အကြိမ် ဟောတော်မူသည်။

၃။ ဤသိရိမာ ပြည့်တန်းဆာမ အဋ္ဌုပ္ပတ်ကား ဤသုတ္တန်ကို နှစ်ကြိမ်မြောက် (=ဒုတိယ) ဟောဆိုကြောင်းအဋ္ဌုပ္ပတ်ဖြစ်သည်။ ပထမအဋ္ဌုပ္ပတ်မှာ ဇနပဒကလျာဏီ နန္ဒာထေရီမကို အကြောင်းပြု၍ သာဝတ္ထိပြည်၌ ဤသုတ္တန်ကို မြတ်စွာဘုရား ဟောကြားတော်မူသည်။ ထို့ကြောင့် ဤသုတ္တန်ကို နန္ဒသုတ္တန်ဟူ၍လည်း ခေါ်ဆိုအပ်သည်။

ပထမအကြိမ် ဟောတော်မူသော အဋ္ဌုပ္ပတ္တိမှာ

မြတ်စွာဘုရားရှင်သည် အစဦးသဖြင့် ကပိလဝတ် နေပြည်တော်သို့ ပထမအကြိမ် ကြွရောက်၍ သာကီဝင်မင်းတို့ကို ဆုံးမတော်မူပြီးလျှင် န[illegible] မင်းသား စသည်တို့ကို ရဟန်းပြုပေးတော်မူပြီးနောက် (၅-ဝါအရေ[illegible] တွင်) မာတုဂါမများကို ရဟန်းပြုရန် ခွင့်ပြုတော်မူလတ်သော်

၁။ အရှင်အာနန္ဒာမထေရ်၏နှမ နန္ဒာ
၂။ ခေမကသာကီဝင်မင်း၏သမီး အဘိရူပနန္ဒာ
၃။ နန္ဒမင်းသား၏ဇနီးလျာ ဇနပဒကလျာဏီ နန္ဒာ

ဟူသော နန္ဒာ(သာကီဝင်)မင်းသမီး သုံးယောက်[illegible]သည်လည်း ရဟန်းမပြုကြကုန်၏။

ထိုမင်းသမီးတို့ ရဟန်းမ ပြုလုပ်ကြသော[illegible] အခါ မြတ်စွာဘုရားရှင်သည် သာဝတ္ထိပြည်၌ နေတော်မူဆဲ ဖြစ်၏။ ထိုမင်[illegible]းသမီးတို့ ဒ[illegible]နက် ၂။ အဘိရူပနန္ဒာကား လွန်စွာအဆင်းလှသော[illegible]ကြောင့် အဘိရူပန[illegible]န္ဒာဟု တွင်သည်။ ၃။ ဇနပဒကလျာဏီ နန္ဒာသည်လည်း [illegible] အဆင်းအားဖြ[illegible]င့် မိမိနှင့်တူသောသူကို မမြင်။ ထိုဘိက္ခုနီရဟန်းမ [illegible] နှစ်ယောက်လုံးတို့ ပင် အဆင်းမာန်ယစ်ကြသောကြောင့် "မြတ်စွာဘု[illegible]ရားသည် အဆင်းကို [illegible]ကဲ့ရဲ့တော် မူ၏။ များစွာသော အကြောင်းဖြင့် [illegible] အဆင်း၌ အပြစ်ကို [illegible]ပြတော်မူ၏" ဟု

အောက်မေ့ကြကာ မြတ်စွာဘုရားထံတော်သို့ ဆည်းကပ်ရန် မသွားကြကုန်။ ဖူးမြော်ခြင်းငှာလည်း အလိုမရှိကြကုန်။

(ယင်းသို့ဖြစ်လျက် အဘယ့်ကြောင့် ရဟန်းမ ပြုကြသနည်းဟု မေးရန်ရှိ၏။ အဖြေကား လူ့ဘောင်မှာ မှီခိုကိုးစား အားထားရာ မရှိသောကြောင့် ရဟန်းမ ပြုကြခြင်း ဖြစ်သည်။

ထင်ရှားစေဦးအံ့။ အဘိရူပနန္ဒာ သာကီဝင် မင်းသမီး၏ လင်ယောက်ျားဖြစ်သော သာကီဝင် မင်းသားသည် ထိမ်းမြားသော နေ့မှာပင် သေလွန်လေသည်။ ထိုအခါ မိဖတို့သည် အဘိရူပနန္ဒာကို သူမအလိုမရှိပဲလျက်ပင် ဘိက္ခုနီမ ပြုလုပ်ပေးကြလေသည်။

ဇနပဒ ကလျာဏီ နန္ဒာ မူကား အရှင် နန္ဒမထေရ်သည် အရဟတ္တဖိုလ်သို့ ရောက်လတ်သော် မျှော်လင့်ချက်အာသာ ကင်းပြတ်သည်ဖြစ်၍ "ငါ၏အရှင်သခင် နန္ဒမင်းသားသည် လည်းကောင်း, မယ်တော် မဟာပဇာပတိ ဂေါတမီသည် လည်းကောင်း, အခြားတပါးသော သာကီဝင် ဆွေမျိုးတို့သည် လည်းကောင်း, ရဟန်းပြုကြလေပြီ၊ ဆွေမျိုးတို့နှင့်ကင်း၍ အိမ်ရာတည်ထောင်လူ့ဘောင်၌ နေရခြင်းသည် ဆင်းရဲလှ၏" ဟု စဉ်းစားမိကာ အိမ်ရာတည်ထောင် လူ့ဘောင်ဝယ် နေခြင်း၌ သက်သာရာကို မရသည်ဖြစ်၍ ရဟန်းမ ပြုလုပ် လေသည်။ ထိုသူမ နှစ်ဦးလုံးပင် သဒ္ဓါ၍ ရဟန်းမ ပြုကြသည် မဟုတ်)။

ထို့နောက် မြတ်စွာဘုရားရှင်သည် ထိုဘိက္ခုနီမ နှစ်ဦးတို့၏ ဉာဏ်ရင့်ကျက်ခြင်းကို သိတော်မူ၍ "အားလုံးသော ဘိက္ခုနီမတို့သည် အစဉ်အတိုင်း အဆုံးအမခံယူရန် လာရောက်ကြရမည်"ဟု မိထွေးတော် မဟာပဇာပတိ ဂေါတမီထေရီကို မိန့်တော်မူ၏။ ထိုဘိက္ခုနီမ နှစ်ဦးတို့ကား မိမိတို့အလှည့် ရောက်လတ်သော် သူတပါးကို ကိုယ်စားပြုကာ စေလွှတ်ကြကုန်၏။ ထိုအခါ မြတ်စွာဘုရားရှင်သည် "အလှည့်ရောက်လျှင် ကိုယ်တိုင်လာရမည်၊ သူတပါးကို မစေလွှတ်ရ" ဟု ထပ်၍ မိန့်တော်မူရပြန်၏။

ထို့နောက် တနေ့သ၌ အဘိရူပနန္ဒာထေရီမသည် မြတ်စွာဘုရားရှင်တော်ထံသို့ အဆုံးအမခံယူရန် လာရောက်လေ၏။မြတ်စွာဘုရားရှင်သည် ထိုအဘိရူပနန္ဒာထေရီမကို ဖန်ဆင်းအပ်သော နိမ္မိတမိန်းမ ရုပ်အဆင်းဖြင့် ထိတ်လန့်သံဝေဂ ရစေတော်မူ၍

အဋ္ဌီနံ နဂရံ ကတံ
မံသလောဟိတလေပနံ။
ယတ္ထ ဇရာ စ မစ္စု စ
မာနော မက္ခော စ ဩဟိတော။

(နန္ဒေ=ချစ်သမီး အဘိရူပနန္ဒာ ကဏ္ဍာနိ=သစ်တို့ကို။ဥဿာပေတွာ=စိုက်ထူ၍။ ဝလ္လိဗဒ္ဓံ=ကြိမ်နွယ်ဖြင့် ဖွဲ့အပ်သော။ မတ္တိကာလေပနံ=မြေစိုင်ဖြင့် လိမ်းကျံအပ်သော။ နဂရံ=ကောက်ပဲထည့်ရာ ပကတိသောကျီကြအိမ်ကို။ကရောန္တိယထာ=ပြုကုန်သကဲ့သို့။တထာ=ထို့အတူ)။အဋ္ဌီနံ=သုံးရာသော အရိုးတို့ကို။ (ဥဿာပေတွာ=စိုက်ထူ၍။ နှာရုဝိနဒ္ဓံ=ကိုးရာသော အကြောတို့ဖြင့် ဖွဲ့ယှက်ရစ်ပတ်အပ်သော)၊ မံသလောဟိတလေပနံ=ကိုးရာသော အသားတစ်, တပြည်မျှလောက်သော သွေးတို့ဖြင့် လိမ်းထေးမွမ်းမံ ကျံအပ်ပေထသော။ နဂရံ= ခန္ဓာကိုယ်တည်းဟူသော ကျီကြအိမ်ကို။ ကတံ=တဏှာယောကျ်ား လက်သမားသည် တည်ထားဆောက်လုပ်အပ်ပြီ။ ယတ္ထ=အကြင်ခန္ဓာအိမ်၌။ဇရာစ=ဆိုးရွား ဟောင်းမြင်း အိုမင်းမှည့်ပျော် ရင့်ရော်ခြင်း=ဇရာတရားကိုလည်းကောင်း။မစ္စုစ=စုတိပြတ်ကြွေသေလွန်ခြင်း=မရဏတရားကိုလည်းကောင်း။ မာနောစ=ဝင့်တကြွားကြွား ငါတကားဟု ထောင်လွှားခြင်း= မာန တရားကိုလည်းကောင်း။မက္ခောစ=ကောင်းစွာ ပြုဘူး သူ့ကျေးဇူးကို ချေဖျက်ခြင်း=မက္ခတရားကိုလည်းကောင်း။ ဩဟိတော=ထည့်သွင်း သိုလှောင်၍ ထားအပ်၏။ ။ဤသို့ လာသော ဓမ္မပဒဂါထာဖြင့်လည်းကောင်း

အာတုရံ အသုစိံ ပူတိံ
ပဿ နန္ဒေ သမုဿယံ။
ဥဂ္ဃရန္တံ ပဂ္ဃရန္တံ
ဗာလာနံ အဘိပတ္ထိတံ။ (*)

အနိမိတ္တဉ္စ ဘာဝေဟိ
မာနာနုသယမုဇ္ဇဟ။
တတော မာနာဘိသမယာ
ဥပသန္တော စရိဿ သိ။

နန္ဒေ=ချစ်သမီး အဘိရူပနန္ဒာ။ အာတုရံ= မစဲရံခါ ဆင်းရဲနာကျင်စွာသော ။အသုစိံ=မစင်ကြယ်သော။ ပူတိံ=ပုပ်သိုးသော။ ဥဂ္ဃရန္တိံ= အထက်သို့လည်း လျှံတက် ယိုစီးသော။ ပဂ္ဃရန္တိံ=အောက်သို့လည်း လျှောကျယိုစီးသော။ သမုဿယံ= ခန္ဓာကိုယ်ကို။ ပဿ-ပဿဟိ=စေ့စေ့ငုငု ဉာဏ်စက္ခုဖြင့် ကြည့်ရှုလေလော့။ (တံ=ထို ခန္ဓာကိုယ်ကို)။ ဗာလာနံ=သူမိုက်တို့သည်။ အဘိပတ္ထိတံ= လွန်စွာ ခံ့မက် နှစ်သက်တောင့်တအပ်ပေ၏။

နန္ဒေ=ချစ်သမီး အဘိရူပနန္ဒာ။ အနိမိတ္တဉ္စ=အနိမိတ္တ၊ အမည်ရသည့် အနိစ္စဘာဝနာ, ဒုက္ခဘာဝနာ, အနတ္တဘာဝနာ ကိုလည်း။ ဘာဝေဟိ= မနေမနား(သင်ချစ်သမီး) ပွားများလေလော့။ မာနာနုသယံ= အနမတဂ်သံသာစက်မှ ငုပ်လျက်ကိန်းပါငါဟူ၍မှတ်ထင်မှု=မာနာနုသယကို။ ဥဇ္ဇဟ=သမုစ္ဆေဒပဟာန်ဖြင့်ပယ်လှန်ရှင်းဖျောက်အမြစ်ပြတ်ဖြတ်တောက်လော့။ တတော မာနာဘိသ မယာ=ထိုသို့ မာနာနုသယကိုသမုစ္ဆေဒပဟာန်ဖြင့် ပယ်လှန် ရှင်းဖျောက် အမြစ်ပြတ် ဖြတ်တောက်ရသော

---

(*) ဤဂါထာ နောက်ဘက်ဝက်မှာ ထေရီဂါထာ၌ "အသုဘာယ စိတ္တံ ဘာဝေဟိ၊ ဧကဂ္ဂံ သုသမာဟိတံ" ဟူ၍ လာရှိသည်။ ထိုသို့လာရှိသော အလို- "နန္ဒေ=ချစ်သမီး အဘိရူပနန္ဒာ။အာတုရံ=မစဲရံခါ ဆင်းရဲနာကျင်စွာသော၊' အသုစိံ= မစင်ကြယ်သော။ ပုတိံ=ပုပ်သိုးသော။ သမုဿယံ=ခန္ဓာကိုယ်ကို။ပဿ -ပဿာဟိ=စေ့စေ့ငုငု ဉာဏ်စက္ခုဖြင့် ကြည့်ရှုလေလော့။ ဧကဂ္ဂံ=ဥပစာရသမာဓိဖြင့် တခုသောအာရုံရှိသော။ သုသမာဟိတံ=အပ္ပနာသမာဓိဖြင့် ကောင်းစွာ တည်ကြည်ခြင်း ရှိသော။ အသုဘာယ စိတ္တံ=သဝိညာဏက အသုဘချာန်စိတ်ကို။ ဘာဝေဟိ= ပွားများလေလော့"ဟူ၍ အနက်ရောဇနာရာ၏။

ကြောင့်။ ဥပသန္တ=ကိလေသာဟူ၊ အပူခပ်သိမ်း ငြိမ်းသည်ဖြစ်၍။ စရိယသိ= သင်ချစ်သမီး နေရလိမ့်သတည်း။

ဤသို့လာသော ထေရီဂါထာတို့ဖြင့် လည်းကောင်း၊ အဆုံးအမ ဩဝါဒပေးတော်မူသဖြင့် အဘိရူပနန္ဒာထေရီ ဘိက္ခုနီမကို အစဉ်အတိုင်း အရဟတ္တဖိုလ်၌ တည်စေတော်မူ၏။ (ဤကား အဘိရူပနန္ဒာ ထေရီမ အကြောင်းတည်း)။

## ဇနပဒကလျာဏီ နန္ဒာထေရီမကို အရဟတ္တဖိုလ်၌ တည်စေတော်မူခြင်း

တနေ့သ၌ သာဝတ္ထိပြည်သူ လူအပေါင်းတို့သည် နံနက်အခါ အလှူကို ပေးကြ၍ ဥပုသ်ဆောက်တည်ကြပြီးလျှင် ကောင်းစွာ ဝတ်ရုံကုန်လျက် နံ့သာ၊ ပန်း စသည်တို့ကို ယူဆောင်ကြကာ တရားနာရန် ဇေတဝန်ကျောင်းတိုက်သို့ သွားရောက်ကြပြီးလျှင် တရားနာမှု ပြီးဆုံးသောအခါ၌ မြတ်စွာဘုရားရှင်ကို ရှိခိုးကြပြီး မြို့တွင်းသို့ တဖန်ပြန်၍ ဝင်ကြကုန်၏။ ဘိက္ခုနီမအပေါင်းသည်လည်း တရားနာပြီးလျှင် ဘိက္ခုနီမကျောင်းတိုက်သို့ ပြန်သွားကြလေ၏။

ထိုသာဝတ္ထိပြည်အတွင်းဝယ် လူအများရော ဘိက္ခုနီမများပါ မြတ်စွာဘုရားရှင်၏ ဂုဏ်ကျေးဇူးကို ပြောကြားကြသည်မှာ

"ရူပ, ဃောသ, လူခ, ဓမ္မ=လေးဌာနတို့ ပမာဏဂရု အလေးပြု ကြည်ညိုကြသည့် နတ်လူ အစုအဝေး၌ မြတ်စွာဘုရားရှင်ကို ဖူးမြော်ရလျှင် မကြည်ညိုသောသူ ဟူ၍ မရှိချေ။

ထင်ရှားစေရမည် ဆိုလျှင် (၁) ရုပ်ရည်အဆင်း တင့်တယ်ခြင်းကို အလေးဂရု ပမာဏပြုကာ ကြည်ညိုကြသည့်= ရူပပ္ပမာဏိက နစ်လူအပေါင်းတို့သည် မြတ်စွာဘုရားရှင်၏ လက္ခဏာတော်ကြီးငယ် ရောင်ခြည်တော် ခြောက်သွယ်တို့ဖြင့် တင့်တယ်သော အဆင်းတော်ကို ဖူးမြော်ကြရ၍ ကြည်ညိုကြကုန်၏။

(၂) ဂုဏ်ကျေးဇူးသတင်း ကောင်းခြင်း(နှင့်)အသံကောင်းခြင်း၌ အလေးဂရုပမာဏပြုကာ ကြည်ညိုကြသည့်=ဃောသပ္ပမာဏိက နတ်လူအပေါင်းတို့သည် များစွာသော ဇာတ်တော်တို့၌ လာရှိသော မြတ်စွာဘုရား အလောင်း၏ ဂုဏ်ကျေးဇူး ကျော်စော သတင်းနှင့် တကွ အင်္ဂါရှစ်ပါးရှိသော မြတ်စွာဘုရားရှင်၏ အသံတော်ကို ကြားနာကြရ၍ ကြည်ညိုကြကုန်၏။

(၃) ပစ္စည်းလေးဖြာ, ကိလေသာ ခေါင်းပါးခြင်းကို အလေးဂရု ပမာဏ ပြုကာ ကြည် ညို ကြ သည့် = လူခပ္ပမာဏိက နတ်လူအပေါင်းတို့သည် မြတ်စွာဘုရားရှင်၏ အသမ္ဘိန္နခတ္တိယနွယ်စင် သာကီဝင် မင်းသားမြတ် ဖြစ်ပါလျက် ပစ္စည်းလေးပါး ခေါင်းပါးခြိုးခြံပုံ ဒုက္ကရစရိယာ အကျင့်တော်မြတ် ခေါင်းပါးပုံများကို တွေ့သိရ၍ ကြည်ညိုကြကုန်၏။

(၄) သီလ, သမာဓိ, ပညာ စသော တရားကို အလေးဂရု ပမာဏပြုကာ ကြည်ညိုကြသည့်=ဓမ္မပ္ပမာဏိကနတ်လူအပေါင်းတို့သည် မြတ်စွာဘုရားရှင်၏ သူ့မတူတန်သော သီလဂုဏ်,သမာဓိဂုဏ်,ပညာဂုဏ်,ဝိမုတ္တိဂုဏ်,ဝိမုတ္တိဉာဏဒဿန ကျေးဇူးဂုဏ် ငါးပါးတို့အနက် တပါးပါးသော မြဲဂုဏ်ကျေးဇူးတို့ကို စူးစမ်းဆင်ခြင်ကြ၍ ကြည်ညိုကြကုန်၏"

ဤသို့ စသည်ဖြင့် နေရာတိုင်းမှာပင် မြတ်စွာဘုရားရှင်၏ ဂုဏ်ကျေးဇူးစကားကို တဖွာဖွာ ခံတွင်းမဆံ့ ချီးအံ့ပြောဆိုလျက် ရှိကြလေသည်။

[ဤ၌ အထူးမှတ်ဖွယ်ကား ၁။ သတ္တဝါ အားလုံးတို့ကို သုံးပုံ ပုံလျှင် နှစ်ပုံသော သတ္တဝါတို့သည် ရုပ်ရည်အဆင်း တင့်တယ်ခြင်း၌ ကြည်ညိုကြသည့်=ရူပပ္ပမာဏိက ပုဂ္ဂိုလ်တို့ ဖြစ်ကြ၏။ (တရာလျှင် ၆၆-ယောက်ဖြစ်သည်)။ ၂။ သတ္တဝါအားလုံးတို့ကို ငါးပုံ ပုံလျှင် လေးပုံသော သတ္တဝါတို့သည် ကျေးဇူးသတင်း ကောင်းခြင်းနှင့် အသံကောင်းခြင်း၌ ကြည်ညိုကြသည့်=ဃောသပ္ပမာဏိက ပုဂ္ဂိုလ်တို့ ဖြစ်ကြ၏။(တရာလျှင် ၈၀-ယောက်ဖြစ်သည်)။ ၃။ သတ္တဝါအားလုံး

တို့ကို ဆယ်ပုံပုံလျှင် ကိုးပုံသော သတ္တဝါတို့သည် ပစ္စည်းလေးဖြာ ကိုလေသာခေါင်းပါးခြင်း၌ ကြည်ညိုကြသည့်=လူခပ္ပမာဏိကပုဂ္ဂိုလ်တို့ဖြစ်ကြ၏။ (တရာလျှင် ၉၀-ယောက် ဖြစ်သည်)။ ၄။ သတ္တဝါအားလုံးတို့လို အပုံတသိန်းပုံလျှင် တပုံသော သတ္တဝါတို့သည် သီလ, သမာဓိ,ပညာ တည်းဟူသော တရား၌ ကြည်ညိုကြသည့် = ဓမ္မပ္ပမာဏိက ပုဂ္ဂိုလ်တို့ဖြစ်ကြ၏။(လူတသိန်းမှ တယောက်သာ ဓမ္မပ္ပမာဏိက ပုဂ္ဂိုလ် ဖြစ်သည်ဟု ဆိုလိုသည်)။

သတ္တဝါတွေ မည်မျှပင်များနေစေကာမူ ဤနည်းဖြင့် ခွဲဝေလျှင် လေးမျိုးလေးစု၌ အကုန်ဝင်လေ၏။

ထိုသတ္တဝါလေးစုတို့ အနက် ဘုရားရှင်တို့အား မကြည်ညိုသူတို့ကား နည်းလှကုန်၏။ ကြည်ညိုသူတို့သာ များလှကုန်၏။ ထင်ရှားစေဦးအံ့။ ၁။ ရူပပ္ပမာဏိက ပုဂ္ဂိုလ်များအဖို့ရာ မြတ်စွာဘုရား၏ အဆင်းတော်ထက် ပိုလွန်၍ ကြည်ညိုဖွယ်ကို ဆောင်သော အဆင်းဟူ၍ မရှိ။ ၂။ ဃောသပ္ပမာဏိက ပုဂ္ဂိုလ်များအဖို့ရာ မြတ်စွာဘုရားရှင်တို့၏ ဂုဏ်ကျေးဇူး ကျော်စောသံ ပကတိ အသံတော် တို့ထက် သာလွန်ပိုမို၍ ကြည်ညိုဖွယ်ကိုဆောင်သော အသံဟူ၍မရှိ။ ၃။ လူခပ္ပမာဏိကပုဂ္ဂိုလ်များအဖို့ရာမှာလည်း ကာသိတိုင်းဖြစ် နူးညံ့သော အဝတ်များ,စားတော် ရွှေခွက်ကြီးများ, ဥတုသုံးပါးအား လျော်ကပ်သည့် သုံးဆောင်ဖွယ် ကာမစည်းစိမ်အမျိုးမျိုးနှင့် ပြည့်စုံသော ရွှေနန်းမသုံးဆောင်တို့ကို စွန့်ပယ်၍ ပံသုကူသင်္ကန်း,ကျောက်သပိတ်, သစ်ပင်ရင်းစသော ကျောင်းကို မှီဝဲသုံးဆောင်တော်မူသည့် မြတ်စွာဘုရား၏ ပစ္စည်းလေးပါး ခေါင်းပါးမှုထက် သာလွန်ပိုမို၍ ကြည်ညိုဖွယ်ကို ဆောင်သော အခြား ခေါင်းပါးမှု ဟူ၍ မရှိ။ ၄။ ဓမ္မပ္ပမာဏိက ပုဂ္ဂိုလ်များအဖို့ရာ တလောကလုံး၌ အတုမရှိသော သီလစသော ဂုဏ်ကျေးဇူးနှင့် ပြည့်စုံတော်မူသော မြတ်စွာဘုရားရှင်၏ သီလစသော ဂုဏ်ကျေးဇူးထက် သာလွန်ပိုမို၍ ကြည်ညိုဖွယ်ကို ဆောင်သော အခြား သီလ စသော ဂုဏ်ကျေးဇူးဟူ၍ မရှိ။ ဤသို့

လျှင် မြတ်စွာဘုရားရှင်သည် စတုပ္ပမာဏိက ဤသတ္တလောကကြီး တခုလုံးကို လက်ဆုပ်ဖြင့် ဆုပ်ကိုင်သိမ်းဆည်း၍ ထားသကဲ့သို့ ဖြစ်ပေ၏။ ။ဤကွင်းအတွင်း စကားရပ်များမှာ အဘိဓ္ဓ၊ ၃၊ စာမျက်နှာ ၁၀,၁၁-တို့မှ ဖြစ်သည်။ ကျန်သော စကားရပ်စုမှာ သုတ္တနိပါတ် အဋ္ဌကထာ ပထမအုပ် စာမျက်နှာ ၂၃၄-မှ ဖြစ်သည်]။

ဇနပဒကလျာဏီ ရူပနန္ဒာထေရီမသည် ဘိက္ခုနီမ ကျောင်းတိုက်သို့ ရောက်လျှင်လည်း များစွာသော အကြောင်းတို့ဖြင့် မြတ်စွာဘုရားရှင်၏ ကျေးဇူးစကား ပြောကြားကြသော ထိုသူတို့၏ စကားကို ကြားရ၍ "ဤသူတို့သည် ငါ့ခမောင်တော်ကြီး(=မြတ်စွာဘုရား)၏ဂုဏ်ကို ခံတွင်း မဆံ့ ချီးအံ့ပြောဆိုကြ၏။ မြတ်စွာဘုရားသည် ကန္နေပတ်လုံး ငါ့အား အဆင်း၌အပြစ်ကို ဟောတော်မူစေကာမူ အဘယ်မျှ ဟောတော်မူလိမ့် မည်နည်း။ ငါသည် ရဟန်းမတို့နှင့် အတူတကွ သွား၍ ကိုယ်ကိုမပြ ပဲ မြတ်စွာဘုရားကို ဖူးမြော်ပြီးလျှင် တရားတော်ကိုနာ၍ ပြန်လာရမူ ကောင်းလေစွ"ဟု ကြံစည်ပြီးသော် "ယနေ့ ငါသည်လည်း တရား နာလိုက်အံ့"ဟု ဘိက္ခုနီမတို့အား ပြောကြားလေ၏။ ဘိက္ခုနီမတို့သည် "ဤရူပနန္ဒာ ဘိက္ခုနီမ၏ မြတ်စွာဘုရားအထံသို့ ဆည်းကပ်ရန်သွားလို မှုကား အလွန်ကြာမြင့်မှ ဖြစ်ပေါ်လာချေသည်။ ယနေ့ မြတ်စွာဘုရား သည် ဤရူပနန္ဒာ ဘိက္ခုနီမကို အကြောင်းပြု၍ နည်းမျိုးစုံစွာ ဆန်း ကြယ်သော တရားဒေသနာကို ဟောတော်မူလိမ့်မည်"ဟု အောက်မေ့ ဝမ်းမြောက်ကြကာ ဇနပဒကလျာဏီ ရူပနန္ဒာထေရီကို ခေါ်ဆောင်၍ သွားကြလေကုန်၏။

မြတ်စွာဘုရားရှင်သည် စောစောကပင် ရူပနန္ဒာထေရီမ လိုက်ပါ လာသည်ကို ကြိုတင်သိမြင်တော်မူ၍ဆူးဖြင့်ဆူးကိုထွင်သောယောက်ျား, မယ်န (ပရစ်)ဖြင့် မယ်နကိုထုတ်သော ယောက်ျားကဲ့သို့ အဆင်းဖြင့် ပင် ရူပနန္ဒာထေရီမ၏အဆင်းမာန်ကို ပယ်ဖျောက်တော်မူရန် ကိုယ်တော် မြတ်၏ တန်ခိုးအစွမ်းဖြင့် ၁၅ နှစ် ၁၆ နှစ်အရွယ် အလွန် ရှုချင်စဖွယ်ရှိ သော မိန်းမငယ်ကို ကိုယ်တော်မြတ်၏ နံပါးအနီး၌တည့်နေကာ ယပ် နှလခပ်နေဟန် ဖန်ဆင်း၍ ထားတော်မူနှင့်၏။

ရူပနန္ဒာထေရီမသည် ဘိက္ခုနီမတို့နှင့်အတူတကွ မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍မြတ်စွာဘုရားရှင်ကိုရှိခိုးပြီးလျှင် ဘိက္ခုနီသံဃာအကြား၌ ထိုင်နေလျက်ပင် ခြေတော်ဖျားမှစ၍ ဆံတော်ဖျားတိုင် မြတ်စွာဘုရားရှင်၏ ရူပကာယ အသရေတော်ကို ဖူးမြော်ရ၍လည်းကောင်း, တဖန် မြတ်စွာဘုရား၏ နံပါးတော်၌တည်နေကာ ယပ်လေခပ်နေသော ထိုနိမ္မိတ အမျိုးသမီးရုပ်ကို မြင်ရ၍လည်းကောင်း, "သြ....ဤမိန်းမငယ်ကား ရုပ်ရေအဆင်း တင့်တယ်လှဘိတကား" ဟု ကြံစည်ကာ မိမိ၏ အဆင်းမာန်ကို စွန့်ပယ်၍ ထိုနိမ္မိတအမျိုးသမီး၏အဆင်း၌ အလွန်တပ်မက်သော အလိုဆန္ဒဖြစ်ရှိလာလေသည်။

ထိုအခါ မြတ်စွာဘုရားရှင်သည် ထိုနိမ္မိတမိန်းမကို (တရားဟောရင်းကပင်) အသက်နှစ်ဆယ် အရွယ်ပမာဏရှိသည်ကိုပြ၍ ပြောင်းလဲ ဖန်ဆင်းပြတော်မူလေသည်။ မှန်၏။ မာတုဂါမသည် ၁၆-နှစ်အရွယ်ရှိစဉ်သာလျှင် တင့်တယ်၏။ ထိုမှအထက်၌ (၁၆-နှစ်လောက်) မတင့်တယ်တော့ချေ။ သို့ရကား ထိုသို့ ပြောင်းလဲ ဖန်ဆင်းပြတော်မူသောအခါ၌ ထိုနိမ္မိတမိန်းမ၏ ရုပ်ရည်အဆင်း ဆုတ်ယုတ်ခြင်းကို ကောင်းပါတွေ့မြင်ရ၍ ရူပနန္ဒာထေရီမ၏ သန္တာန်ဝယ် ထိုနိမ္မိတရုပ်၌ တပ်မက်မှု (=ဆန္ဒရာဂ) တရား စောစောကအောက် ပါး၍ပါး၍ သွားလေ၏။

ထို့နောက် မြတ်စွာဘုရားရှင်သည် သားမဖွားသေးမီ မိန်းမအဆင်း, တကြိမ် သားဖွားပြီးသော မိန်းမအဆင်း, မိန်းမလတ်အဆင်း, မိန်းမကြီးအဆင်း, ဇနောင်ဇနင်ဖြစ်လျက် တောင်ဝှေးကို လက်စွဲကာ မှည့်မည်းများ တကိုယ်လုံး စွဲကပ်နေသည့် အနှစ်တရာရှိ မိန်းမအိုအဆင်းများကို အစဉ်အတိုင်း ပြောင်းလဲ ပြောင်းလဲ ဖန်ဆင်း၍ပြပြီးသော် ရူပနန္ဒာထေရီမ ရှုကြည့်နေစဉ်ပင် ထိုနိမ္မိတမိန်းမအို၏ သေခြင်းကိုလည်းကောင်း ဖူးဖူးရောင်သော သူကောင် စသည်တို့၏ ကိုယ်ကိုလည်းကောင်း, ရနံ့ပုပ်လှောင်း စက်ဆုပ်ရွံရှာဖွယ် ကောင်းသောအဖြစ်ကိုလည်းကောင်း ဖန်ဆင်း၍ ပြတော်မူလေ၏။

ထိုနိမ္မိတရုပ်အစဉ်ကို မြင်ရလေသော် ဇနပဒကလျာဏီ ရူပနန္ဒာထေရီ၏ စိတ်သန္တာန်ဝယ် "ဤယခု ငါမြင်ရသော မိန်းမအတူပင်

ဤဖြစ်စဉ်ကား ငါရောသူပါ အားလုံးသောသတ္တဝါတို့နှင့် ဆက်ဆံသော သဘော ဖြစ်စွတကား”ဟု ရှုဆင်ခြင်ကာ အနိစ္စသညာတည်၍ ဖြစ်၍ လာလေ၏။ ထိုအနိစ္စသညာနောက်သို့ အစဉ်လိုက်ကာ ဒုက္ခသညာ အနတ္တသညာတို့လည်း စည်လာ ထင်လာ ဖြစ်ပွားလာကြလေ၏။ ဘဝ သုံးပါးတို့သည် မီးဟုန်းဟုန်းတောက်လောင်သော အိမ်ကဲ့သို့ ကိုးကွယ် ရာမဲ့သောအနေဖြင့် ထင်လာကုန်၏။

ထိုအခါ မြတ်စွာဘုရားရှင်သည်“နန္ဒာဘိက္ခုနီ၏ စိတ်ကား ကမ္မဋ္ဌာန်း အလုပ်၌ သက်ဝင်လေပြီ”ဟု သိတော်မူ၍ ထိုနန္ဒာထေရီမအား သင့် လျော်လျောက်ပတ် သပ္ပာယဖြစ်သော အစွမ်းဖြင့် ဤတရားဂါထာတို့ကို ဟောတော်မူ၏။

အာတုရံ အသုစိံ ပူတိံ၊ ပဿ နန္ဒေ သမုဿယံ။
ဥဂ္ဃရန္တံ ပဂ္ဃရန္တံ၊ ဗာလာနံ အဘိပတ္ထိတံ။
ယထာ ဣဒံ တထာ ဧတံ၊ ယထာ ဧတံ တထာ ဣဒံ။
ဓာတုတော သုညတော ပဿ၊ မာ လောကံ ပုန အာဂမိ။
ဘဝေ ဆန္ဒံ ဝိရာဇေတွာ၊ ဥပသန္တာ စရိဿသိ။

(ပထမဂါထာအနက်ကို ရှေးစာမျက်နှာ ၂၄၂-၌ ကြည့်လေ)။

နန္ဒေ=ချစ်သမီး ရူပနန္ဒာ။ ဣဒံ=ဤအဇ္ဈတ္တဖြစ်သော သင်၏ကိုယ် သည်။ အနိစ္စာဒိခမ္မံ ယထာ=အနိစ္စစသော သဘောရှိသကဲ့သို့၊ ဧတံ= ထိုဗဟိဒ္ဓ သင်မြင်ရသည့် အပြင်အပကိုယ်သည်။ တထာ=ထို့အတူ အနိစ္စစသော သဘောရှိ၏။ ဧတံ=ထိုဗဟိဒ္ဓ သင်မြင်ရသည့် အပြင် အပကိုယ်သည်။ ဥဒ္ဓုမာတကာဒိဘာဝပ္ပတ္တံ ယထာ=အစဉ် အတိုင်း အရွယ် အစုံစုံ အနုအရင့်တွေကို စွန့်ကာ ဖူးဖူးရောင်သော သူကောင် စသည် အဖြစ်သို့ရောက်သကဲ့သို့။ ဣဒံ=ဤအဇ္ဈတ္တဖြစ်သော သင်၏ ကိုယ်သည်။ တထာ=ထို့အတူ အရွယ်အစုံစုံ အနု အရင့် တွေကိုစွန့်၍ ဖူးဖူးရောင်သော သူကောင်စသည်အဖြစ်သို့ရောက်သည်။ဘဝိဿတိ= ဧကန်စင်စစ် ဖြစ်လတ္တံ့။ (တွံ=သင် ချစ်သမီးသည်။ ကာယဒွယံ=

အဇ္ဈတ္တ, ဗဟိဒ္ဓ ကိုယ်ကာယ နှစ်ပါး အပေါင်းကို)။ ခါတုတော= ပထဝီဓာတ် စသောအားဖြင့်။ သုညတော=အတ္တ,အတ္တနိယ စသည်မှ ဆိတ်သုဉ်းသောအားဖြင့်။ ပဿ-ပဿာဟိ=ဝိပဿနာ ဉာဏ်ပညာ စက္ခုဖြင့် ကြည့်ရှုလေလော့။ လောကံ=ဥပါဒါနက္ခန္ဓာဟူသော လောကသို့။ မာ ပုန အာဂမိ=တဖန် ထပ်လျှောက် ချစ်သမီး မလာ ရောက်ချင်လင့်။ ဘဝေ=ကာမ,ရူပ,အရူပအား ဘဝသုံးပါး၌။ ဆန္ဒံ= တွယ်တာခုံမက် တပ်နှစ်သက်သည့် တဏှာဆန္ဒကို။ ဝိရာဇေတွာ= သမုစ္ဆေဒပဟာန်ဖြင့် ပယ်လှန်ဖြတ်ရှင်း ကင်းစေ၍။ ဝါ-ကင်းစေသည် ရှိသော်။ (တွ=သင်ချစ်သမီးသည်)။ ဥပသန္တာ=ကိလေသာဟူ အပူ ခပ်သိမ်း အေးငြိမ်းသည်ဖြစ်၍။ စရိဿသိ=ချမ်းကြည်အေးမြ နေရ လိမ့်သတည်း။

ဂါထာအဆုံး၌ ဇနပဒကလျာဏီ ရူပနန္ဒာထေရီမသည် သောတာပတ္တိဖိုလ်၌ တည်လေ၏၊ ထိုနောက်မှ မြတ်စွာဘုရားရှင်သည် ဇနပဒကလျာဏီ ရူပနန္ဒာထေရီမအား အထက်မဂ်ဖိုလ်တို့ကို ရစေရန် သုညတ အခြံအရံရှိ သည့် ဝိပဿနာကမ္မဋ္ဌာန်းကို ဟောကြားတော်မူလို၍ ဤဝိဇယသုတ္တန်ကို (နောက်၌ ဆိုအပ်လတ္တံ့သောအတိုင်း) ဟောတော်မူ၏။

(မြတ်စွာဘုရားရှင်သည် ဤဝိဇယသုတ္တန်ကို (၁) ဇနပဒ ကလျာဏီ ရူပနန္ဒာထေရီမအား ပထမအကြိမ် ဟောတော်မူသည်ကား ၅-ဝါ, ၆-ဝါရ အချိန်လောက်တွင် ဖြစ်သည်။ (၂) သိရိမာ၌ တပ်မက်သည့် ရဟန်းကို အကြောင်းပြု၍ ဒုတိယအကြိမ် ဤဝိဇယသုတ္တန်ကို ဟောတော် မူသည်ကား သတ္တရသမ=ဆယ့်ခုနစ်ဝါမြောက်၌ ဖြစ်သည်)။

ဤဝိဇယသုတ္တန်ကို ပထမအကြိမ် ဟောတော်မူသော အဆုံး၌ ဇနပဒ ကလျာဏီ ရူပနန္ဒာထေရီမသည် "အိုး....ငါ မိုက်လှချည့်တကား၊ အကြင် ငါသည် ငါ့ကိုပင် အာရုံပြု၍ ကရုဏာကြီးစွာဖြင့် ဤသို့စင် အထူးထူး သော တရားဒေသနာကို ဟောတော် မူသော ငါ့ မောင်တော်ကြီး (=မြတ်စွာဘုရား)အား ဆည်းကပ်ရန် မလာရောက်မိချေပြီတကား" ဟု ပြင်းစွာထိတ်လန့်ခြင်း သံဝေဂသို့ ရောက်ရှိလေသည်။

ဤသို့ ထိတ်လန့် ပြီးလျှင် ထိုဝိဇယသုတ္တန် တရား ဒေသနာကိုပင် အဖန်ဖန် နှလုံးသွင်း၍ သုညတ ကမ္မဋ္ဌာန်းကို စီးဖြန်းကြိုးကုတ် အားထုတ်လတ်ရကား နှစ်ရက် သုံးရက်အတွင်း၌ပင် အရဟတ္တဖိုလ်သို့ ဆိုက်ရောက်လေသတည်း။

ဝိဇယသုတ္တန် ပထမအကြိမ် ဟောတော်မူခြင်း အကြောင်း ပြီး၏။

## သိရိမာပြည့်တန်ဆာမကို အကြောင်းပြု၍ ဝိဇယသုတ္တန် ဒုတိယအကြိမ် ဟောတော်မူခြင်း

မြတ်စွာဘုရားရှင် ရာဇဂြိုဟ်ပြည် ဝေဠုဝန်ကျောင်းတိုက်၌ သတ္တရသမ(=ဆယ့်ခုနစ်ခုမြောက်) ဝါကပ်ဆို သီတင်းသုံးနေထိုင်တော်မူသောအခါ ထိုရာဇဂြိုဟ်ပြည်၌ သိရိမာပြည့်တန်ဆာမသည် အလွန် အဆင်းလှသူ ဖြစ်လေသည်။ အထူးအားဖြင့် ထိုသိရိမာ ပြည့်တန်ဆာမသည် တခုသော ဝါတွင်း(=မိုးတွင်း) ကာလဝယ် သုမနသူဌေးကြီး၏ ချွေးမ ပုဏ္ဏသူဌေးကြီး၏သမီး သောတာပန်အရိယာဖြစ်သော ဥတ္တရာ ဥပါသိကာမအပေါ်၌ ပြစ်မှားမိ၍ ထိုဥတ္တရာကို ကြည်စေလို (=ကျေနပ်စေလို) ရကား ဥတ္တရာ၏အိမ်၌ ရဟန်း သံဃာနှင့်တကွ ဆွမ်းကိစ္စပြုတော်မူပြီးသောမြတ်စွာဘုရားရှင်ကို ကန်တော့(သည်းခံစေ)ပြီးလျှင် ထိုနေ့မှာပင် မြတ်စွာ ဘုရားရှင်၏ ဆွမ်းအနုမောဒနာတရားကို ကြားနာရ၍ "အက္ကောဓေန ဇိနေ ကောဓံ" အစရှိသော တရားဂါထာ အဆုံး၌ သောတာပတ္တိဖိုလ်သို့ ရောက်ရှိခဲ့လေသည်။ ။(ဤကား အကျဉ်းမျှတည်း၊ အကြောင်းအရာအကျယ်ကို မဟာဗုဒ္ဓဝင် သံဃရတနာခန်း ဥပါသိကာဝင် နန္ဒမာတာ ဥတ္တရာ ဥပါသိကာအခန်း၌ ကြည့်ပါလေ)။

**သိရိမာပြည့်တန်ဆာမသည် သောတာပတ္တိ ဖိုလ်သို့ ရောက်ရှိပြီးနောက်တနေ့၌ ဘုရားအမှူးရှိသော သံဃာတော်အား ပင့်ဖိတ်ကာကြီးစွာသော အလှူဒါနကို ပေးပြီးလျှင် ထိုနေ့မှအစပြု၍ သံဃာတော်**

ရှစ်ပါး ရှစ်ပါးအား နိဗဒ္ဓ ဆွမ်းအလှူကို ပေးလှူလေသည်။ ပထမ ပင့်ဖိတ်သည့်နေ့မှ အစပြုကာ နေ့စဉ် နေ့စဉ် အမြဲမပြတ် အလှည့်ကျသော ရဟန်းရှစ်ပါးတို့သည် သိရိမာ၏အိမ်သို့ ဆွမ်းအလို့ငှာ ကြွတော်မူကြရကုန်၏။ သိရိမာဒါယိကာမသည် "အရှင်ဘုရားတို့....ထောပတ်ကိုအလှူခံကြပါကုန်၊ နို့ရည်ကို အလှူခံတော်မူကြပါကုန်" ဤသို့ အစရှိသည်ဖြင့် သဒ္ဓါကြည်ညိုစကား လျှောက်ထားပြီးလျှင် ထိုအလှည့်ကျ ရဟန်းရှစ်ပါးတို့အား သပိတ်အပြည့် လောင်းလှူလေသည်။ သို့ရကား ရဟန်းတပါး (သိရိမာအိမ်မှ) ရရှိသောဆွမ်းသည် ရဟန်းသုံးပါး လေးပါး စားလောက်လေသည်။ သိရိမာသည် နေ့စဉ် နေ့စဉ်ငွေအသပြာ တဆယ့်ခြောက်ကျပ် တဆယ့်ခြောက်ကျပ် အကုန်ခံကာဆွမ်းလှူလေသည်။

တနေ့သောအခါ ရဟန်းတပါးသည် သိရိမာ၏အိမ်၌ အလှည့်ကျ ရဟန်းရှစ်ပါးတွင် တပါး အပါအဝင်ဖြစ်ကာ ဆွမ်းတဦးပေးပြီးနောက် ရာဇဂြိုဟ်ပြည်မှ သုံးယူဇနာအထက်၌ရှိသော=သုံးယူဇနာကျော် ဝေးကွာသော ကျောင်းတိုက်တခုသို့ ရောက်ရှိလေ၏။ ထိုနောက် ညနေချမ်းအခါ မဟာထေရ်ကြီးအား ဆည်းကပ်ဝတ်ပြုရာ ဌာန၌ ထိုင်နေသော ထိုအာဂန္တု ရဟန်းကို သီတင်းသုံးဖော် ရဟန်းတော်တို့က "ငါ့ရှင်....အဘယ်အရပ်၌ဆွမ်းကို ခံယူသုံးဆောင်၍ ကြွလာခဲ့သနည်း" ဟု ပဋိသန္ထာရ (အစေ့အစပ်) စကား ပြောကြား မေးမြန်းကြလေသော် အာဂန္တု ရဟန်းသည် "ငါ့ရှင်တို့....ငါသည် သိရိမာ၏ သံဃာ ရှစ်ပါးအား နိဗဒ္ဓလှူဒါန်းအပ်သောဆွမ်းကို စားပြီးလာခဲ့ပါသည်" ဟူ၍ ဖြေကြားလေ၏။ တဖန် ရဟန်းများက "ငါ့ရှင်....သိရိမာသည် နှစ်သက်ဖွယ်ဖြစ်အောင်ပြု၍ ပေးလှူပါ၏လော" ဟု မေးကြပြန်သောအခါ အာဂန္တု ရဟန်းသည် "ငါ့ရှင်တို့....ထိုသိရိမာ၏ဆွမ်းကို အကုန်အစင် ချီးမွမ်းခြင်းငှာ မတတ်နိုင်ပါ၊ အလွန်ထက်အလွန် မွန်မြတ်အောင် ကောင်းအောင်ပြု၍ လှူဒါန်းပါသည်။ ရဟန်းတပါးရရှိအပ်သော ဆွမ်းသည် ရဟန်းသုံးပါး လေးပါးပင် စားလောက်ပါသည်။ အထူးအားဖြင့် ထိုသိရိမာပြည့်တန်ဆာမ၏ လှူဖွယ်ဝတ္ထုထက် သူမကို မြင်ရခြင်းကပင် သာလွန်၍ မြတ်လှပါသည်။ မှန်၏။ ထိုသိရိမာမိန်းမသည် ဤသို့ ဤသို့

သော အဆောင်းလက္ခဏာ အင်္ဂါကြီးငယ် တင့်တယ်ပြည့်စုံသူဖြစ်ပါသည်” ဟု ထိုသိရိမာ၏ ဂုဏ်ကျေးဇူးများကို ချီးမွမ်းပြောဆိုလေ၏။

ထိုအခါရဟန်းတပါးသည် သိရိမာ၏ ဂုဏ်ကျေးဇူးနှင့် စပ်သော စကားကို ကြားရ၍ သိရိမာကို မမြင်ရပဲပင် ချစ်ခင်ခြင်းကိုဖြစ်စေလျက် “ငါသွား၍ သိရိမာကိုကြည့်ရှုမှ သင့်တော်မည်”ဟု ကြံစည် စဉ်းစားမိကာ မိမိ၏ ဝါစဉ့်ကို ထိုအာဂန္တုရဟန်းအားပြောကြား၍ ထိုအာဂန္တုရဟန်းကို (သိရိမာ၏အိမ်၌ ယခုရောက်ဆဲ သံဃာတည်းစဉ့်)= ထေရ်စဉ်ကို မေးလျှင် အာဂန္တုရဟန်းက “ငါ့ရှင်....သင်ယခုသွားလျှင် နက်ဖြန်ကာအတွက်သိရိမာ၏အိမ်၌ သံဃထေရ်ဖြစ်ကာ အဋ္ဌကဘတ် (=သံဃာရှစ်ပါးအား လှူဒါန်းအပ်သည့်ဆွမ်း)ကို ရပေလိမ့်မည်”ဟု ဖြေဆိုသည့်စကားကို ကြားသိရ၍ထိုခဏမှာပင် သပိတ်သင်္ကန်းကို ယူဆောင်ကာဖဲသွားပါသော်လည်း (ထိုနေ့ညဉ့် ရာဇဂြိုဟ်သို့ မရောက်နိုင်ပဲ ကြိုးစား၍ သွားသဖြင့် နံနက်စောစော အရုဏ်တက်ချိန်မှာပင် စာရေးတံမဲ့ရုံသို့ ပင်၍ရပ်တည်လေလျှင် သံဃထေရ်ဖြစ်၍ သိရိမာ၏အိမ်၌ အဋ္ဌကဆွမ်းကို စာရေးတံမဲ့ကျ၍ ရရှိလေသည်။

အထူးအားဖြင့် ယမန်နေ့က ဆွမ်းအလှည့်ကျ၍ သိရိမာ၏ ဆွမ်းကို ဘုဉ်းပေးပြီး ခရီးထွက်သွားသော ထိုရဟန်း၏ ခရီးထွက်သွားချိန်မှာပင် သိရိမာ၏ကိုယ်၌ သေမည့်အနာရောဂါ စွဲကပ်ဖြစ်ပွားလာလေသည်။ သို့ရကား သိရိမာသည် ဆင်ယင်မြဲဖြစ်သော အဆင်တန်းဆာတို့ကို ချွတ်၍ အိပ်ရာညောင်စောင်း၌ လျောင်းစက်ကာ နေရရှာ၏။ထို့နောက် သိရိမာ၏ အိမ်စေကျွန်မတို့သည် အဋ္ဌကဆွမ်း စာရေးတံမဲကျရရှိ၍ ကြွလာသောရဟန်းရှစ်ပါးတို့ကို မြင်ကြသဖြင့် သိရိမာအား အကြောင်းကိုပြောကြားကြလေသော် သိရိမာသည် မိမိလက်ဖြင့် (ရှေးရှေးနေ့များကကဲ့သို့)သပိတ်တို့ကို ယူ၍ ရဟန်းတို့အား နေရာပေးရန်,ပြုစုလုပ်ကျွေးရန် မတတ်နိုင်ရှာတော့သည်ဖြစ်၍ အိမ်စေကျွန်မတို့ကို “အမိတို့....အရှင်မြတ်တို့၏ သပိတ်များကို ဆီးကြိုယူငင်ကြလျက် အရှင်မြတ်တို့အား နေရာထိုင်ခင်းများ ပေးကြပြီးလျှင် ယာဂုကို ရှေးဦးစွာ ကပ်လှူကြပြီး

နောက် ခဲဖွယ်(=မုန့်)များကို ပေးလှူကြ၍ ဆွမ်းချိန်ကြသောအခါ သပိတ်များအပြည့် ဆွမ်းထည့်လှူကြပါကုန်လော့”ဟု လျှောင်းစက်ရင်း ကပင် စေခိုင်းရှာလေသည်။

အိမ်စေကျွန်မတို့သည် “ကောင်းပါပြီ အရှင်မ....”ဟု ဝန်ခံကြ၍ ရဟန်းတို့ကို အိမ်တွင်းသို့ ပင့်ခဲ့ကြပြီးလျှင် ရှေးဦးစွာ ယာဂုတိုက်ကျွေး ကြပြီးနောက် ခဲဖွယ်(=မုန့်) များကို သက်ကပ်ပေးလှူကြ၍ ဆွမ်းချိန်ကျ သောအခါ သပိတ်များအပြည့် ဆွမ်း, ဆွမ်းဟင်းများ ထည့်ပြီးသော် သိရိမာအား ထိုအကြောင်းကို ပြောကြားကြလေကုန်၏။ သိရိမာသည် “အမိတို့....ငါ့ကို ပွေ့ချီကြ၍ အရှင်မြတ်များအနီးသို့ ပို့ဆောင်ကြပါ ကုန်၊ ငါသည် အရှင်မြတ်တို့ကို ရှိခိုးပါဦးအံ့”ဟု ပြော၍ အိမ်စေကျွန်မ တို့က ပွေ့ချီကြကာ ရဟန်းများအနီးသို့ ပို့ဆောင်အပ်ရကား ပကတိ မတည်နိုင်ပဲ တုန်လှုပ်သောကိုယ်ဖြင့် ရဟန်းတို့ကို ရိုသေမြတ်နိုး ရှိခိုး လေ၏။

သိရိမာကို မမြင်ရပဲပင် ချစ်ခင်၍နေသော ထိုရဟန်းသည် သိရိမာ ကို စူးစူးစိုက်စိုက် ကြည့်ရှု၍ “မကျန်းမာပဲလျက်ပင်သော်မှလည်း ဤ သိရိမာ၏ ရုပ်ရည်အဆင်း တင့်တယ်ခြင်းသည် ဤသို့ လှပတင့်တယ် သောသဘောရှိသေး၏။ အနာရောဂါကင်းရှင်း ကျန်းမာသောအခါ၌ အလုံးစုံသော အဆင်တန်းဆာဖြင့် တန်းဆာဆင်အပ်သော ဤ သိရိမာ ၏ ရုပ်ရည်အဆင်း တင့်တယ်ခြင်း ကြက်သရေကား ဘယ်လိုများ ရှိချေ မည်နည်း”ဟု ကြံစည်မိလေ၏။ ထိုအခါ ထိုရဟန်း၏ သန္တာန်၌ နှစ်-ကုဋေ ပေါင်းများစွာ စုဆောင်း၍ ထားအပ်သကဲ့သို့သော ရာဂကိလေသာသည် ထကြွသောင်းကျန်း ဖြစ်ပွား၍ လာလေ၏။ ထိုရဟန်းသည် မည်သည့် အရာကိုမျှ မသိနိုင်တော့ပဲ ဆွမ်းကိုလည်း မစားနိုင်တော့ပဲ သပိတ်ကို ယူဆောင်၍ ကျောင်းတိုက်သို့ ပြန်သွားပြီးလျှင် သပိတ်ကိုပိတ်၍ တနေ ရာ၌ ထားပြီးသော် သင်္ကန်းကို ဖြန့်ခင်း၍ စင်းစင်းကြီး လျှောင်းစက်လေ တော့၏။ ထိုအခါ ထိုရဟန်းကို အဖော်ရဟန်းတပါးပါးကမျှ တောင်း ပန်အပ်ပါသော်လည်း ဆွမ်းစားစေခြင်းငှာ မတတ်နိုင်ပဲ ရှိလေ၏။ ထို ရဟန်းသည် ဆွမ်းအစာဖြတ် အငတ်ခံ၍ နေလေတော့၏။

ထိုနေ့ ညနေချမ်းအခါမှာပင် သိရိမာသည် စုတိပြုတ်ကြွေ သေလွန်လေ၏။ ဗိမ္ဗိသာရမင်းတရားသည် မြတ်စွာဘုရားရှင်၏ အထံတော်သို့ "ဘုန်းတော်ကြီးသော မြတ်စွာဘုရား ဆရာဇီဝကဏ်၏ နှမငယ် သိရိမာသည် စုတိပြုတ်ကြွေ သေလွန်ခဲ့ပါပြီ"ဟု သတင်းစကား ပို့သ လျှောက်ထားစေလေ၏။ မြတ်စွာဘုရားရှင်သည် ထိုအကြောင်းကို ကြားသိတော်မူ၍ မင်းကြီးထံသို့ "သိရိမာ၏ ဥတုဇ ရုပ်ကလာပ်ကို မီးသင်္ဂြိုဟ်မှု မပြုလင့်ဦး။ သုကောင်ပစ်ချရာ သုသာန်၌ ထိုသိရိမာ၏ ဥတုဇ ရုပ်ကလာပ်ကို ကျီး, ခွေး, မြေခွေး စသည်တို့ မစားနိုင်အောင် ပက်လက်သိပ်ထားလျက် စောင့်ရှောက် စေကြကုန်လော့"ဟု အမှာတော်စကား ပြန်ကြားတော်မူစေ၏။ မင်းကြီးသည်လည်း မြတ်စွာဘုရားရှင် မှာကြားတော်မူတိုင်းပင် ပြုလေ၏။

အစဉ်အတိုင်း သုံးရက်လွန်မြောက်၍ လေးရက်သို့ ရောက်လေလျှင် သိရိမာ၏ ဥတုဇ ရုပ်ကလာပ်သည် ဖူးဖူးရောင်ပွ ကြွ၍လာ၏။ ကိုးပေါက်ဒွါရ အမာဝတို့မှ ပိုးလောက်တို့သည် တဖွားဖွား ယိုထွက်၍ လာကြကုန်၏။ ဝကိုယ်လုံးသည် ကွဲအက်ကာ သလေးထမင်းအိုးကဲ့သို့ ပွက်ပွက်ထ၍ လာလေ၏။ ထိုအခါ ဗိမ္ဗိသာရမင်းတရားသည် ရာဇဂြိုဟ်မြို့တော်အတွင်း၌ "အိမ်စောင့်ရန် ကလေးသူငယ်များကိုသာ ထား၍ ကျန်သည့်လူများ သိရိမာ၏ ဥတုဇ ရုပ်ကလာပ်ကို ကြည့်ရှုရန် လာရောက်ကြရမည်။ မလာရောက်သူတို့အား ငွေအသပြာရှစ်ကျပ် ဒဏ်တပ်မည်"ဟုစည်လည်စေတော်မူ၏။ မြတ်စွာဘုရားရှင်၏ အထံတော်သို့လည်း "မြတ်စွာဘုရား အမှူးပြုသော ရဟန်းသံဃာတော် အပေါင်းသည် သိရိမာ၏ ဥတုဇ ရုပ်ကလာပ်ကို ကြည့်ရှုရန် ကြွလာတော်မူစေချင်ပါသည်"ဟုပင့်လျှောက်စေလေသည်။

မြတ်စွာဘုရားရှင်သည် ရဟန်းတို့အား "သိရိမာ၏ ဥတုဇ ရုပ်ကလာပ်ကို ကြည့်ရှုရန် သွားကြကုန်အံ့"ဟု မိန့်ကြားတော်မူလေ၏။ သိရိမာကို ချစ်ခင်၍နေသော ထိုရဟန်းငယ်သည်လည်း လေးရက်လုံးလုံး မည်သူ၏စကားကိုမျှ မနားယူပဲ အစာဖြတ် ဆွမ်းတော်ခံ၍သာ လျှောင်းကော်နေ မလ ရာဟု ။

သည်။ သပိတ်ထည်း၌ (လွန်ခဲ့သော လေးရက်က ခံယူထားအပ်သော) ဆွမ်းသည် ပုပ်သိုးလျက် ရှိချေပြီ။ သပိတ်၌ အညစ်အကြေးများ ထလျက် ရှိချေပြီ။ ထိုအခါ ထိုရဟန်းငယ်ကို သူငယ်ချင်းရဟန်းက "ငါ့ရှင်.... မြတ်စွာဘုရားရှင်သည် သိရိမာ၏ ဥတုဇရုပ်ကလာပ်ကို ကြည့်ရှုရန် ကြွတော်မူအံ့ဆဲဆဲဖြစ်သည်"ဟု ပြောကြားလေလျှင် ထိုစိတ္တဇ ရဟန်းငယ်သည် ထိုမျှလောက် ဆာလောင်မွတ်သိပ်ခြင်း အပြင်းနှိပ်စက်အပ်ပါလျက်လည်း "သိရိမာ"ဟူရုံ ပြောဆိုလိုက်လျှင်ပင် အဆောတလျင် ထ၍ "ငါ့ရှင်....ဘာကို ပြောလိုက်သနည်း" ဟု မေးမြန်းလေ၏။ သူငယ်ချင်း ရဟန်းက "ငါ့ရှင်....မြတ်စွာဘုရားရှင်သည် သိရိမာကိုကြည့်ရှုရန်ကြွသွားတော်မူအံ့ဆဲဆဲ ဖြစ်လေသည်။ ငါ့ရှင်သည်လည်း လိုက်ပါမည်လော"ဟု မေးမြန်းအပ်လေသော် "အိမ်း....ငါလိုက်မည်"ဟုပြောဆိုကာ ဆွမ်းသိုးကို စွန့်ပစ်လျက် သပိတ်ကို ဆေးကြော၍ သပိတ်အိတ်၌ ထည့်ပြီးလျှင် ရဟန်းသံဃာနှင့် အတူတကွ လိုက်ပါခဲ့လေ၏။

မြတ်စွာဘုရာရှင်သည် ရဟန်းအပေါင်းခြံရံလျက် သုသာန်အရပ်ပယ် နံပါး တဘက်၌ ရပ်တည်တော်မူလေ၏။ ရဟန်းမ အပေါင်းသည်လည်းကောင်း, မင်းပရိသတ်သည်လည်းကောင်း, ဥပါသကာ ပရိသတ်သည်လည်းကောင်း, ဥပါသိကာ ပရိသတ်သည် လည်းကောင်း နံပါး တဘက်စီ၌ နေရာယူကာ ရပ်တည်ကြလေကုန်၏။ ပရိသတ်စုံညီသောအခါ မြတ်စွာဘုရားရှင်သည် ဗိမ္ဗိသာရမင်းကြီးကို "မြတ်သော မင်းကြီး....ဤ သူမကား အဘယ်သူမ-နည်း"ဟု မေးတော်မူ၏။ မင်းကြီးက "ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ဆရာဇီဝက၏နှမ သိရိမာ အမည်ရှိသော သူငယ်မဖြစ်ပါသည်ဘုရား"ဟု လျှောက်ထားလေလျှင် မြတ်စွာဘုရားရှင်သည် "မြတ်သောမင်းကြီး၊ ဤသူမကား သိရိမာလော"ဟု အခိုင်အမာထပ်၍မေးတော်မူပြန်၏။ မင်းကြီးက "မှန်ပါသည် မြတ်စွာဘုရား" ဟု အခိုင်အမာစကား လျှောက်ထားလေလျှင် မြတ်စွာဘုရားရှင်သည်

"မြတ်သောမင်းကြီး ထိုသို့ (ဇီဝက၏နှမ သိရိမာ) ဖြစ်ခဲ့လျှင် မြို့တော်အတွင်း၌ 'အသပြာတထောင်ကိုပေး၍အလိုရှိသော သူတို့သည် သိရိမာကို ယူကြကုန်'ဟု စည်လည်စေလော့"

ဟု မိန့်ဆိုတော်မူ၏။ မင်းကြီးသည် ဘုရားရှင် မိန့်တော်မူတိုင်းပြုစေလေ၏။ တဦးတယောက်မျှ (ဟံ) ဟူ၍လည်းကောင်း, (ဟုံ) ဟူ၍လည်းကောင်း ပြောဆိုမည့်သူမရှိခဲ့ချေ။ မင်းကြီးသည် "မြတ်စွာဘုရား တဦးတယောက်မျှ ယူမည့်သူမရှိပါဘုရား" ဟု ပြန်ကြားလျှောက်ထားလေသော် မြတ်စွာဘုရားရှင်က "မြတ်သောမင်းကြီး၊ ထိုသို့ အသပြာတထောင်ဖြင့် ယူမည့်သူမရှိခဲ့လျှင် အဖိုးကိုလျှော့ချလေလော့" ဟု မိန့်တော်မူသဖြင့် မင်းကြီးသည် "အသပြာ ငါးရာတို့ကို ပေး၍ အလိုရှိသူတို့ယူကြကုန်" ဟု စည်လည်စေပြန်၍ ယူလိုသူ တဦးတယောက်ကိုမျှ မတွေ့ရှိရသဖြင့် "အသပြာနှစ်ရာ့ငါးဆယ်တို့ကို ပေး၍၊ (ပ)၊ အသပြာနှစ်ရာတို့ကိုပေး၍၊ အသပြာတရာကို၊ အသပြာ ငါးဆယ်ကို၊ အသပြာနှစ်ဆယ့်ငါးကျပ်ကို၊ အသပြာဆယ်ကျပ်တို့ကို၊ အသပြာငါးကျပ်တို့ကို၊ အသပြာတကျပ်ကို၊ ငါးမူးကို တမတ်ကို၊ တပဲကို၊ တချင်ရွေးကိုပေး၍ အလိုရှိသူတို့သည် သိရိမာကို ယူကြကုန်" ဟု စည်လည်စေသော်လည်း တဦးတယောက်မျှ လိုချင်သူမရှိချေ။ "အချည်းနှီး (=အလကား) အလိုရှိသူတို့ ယူကြကုန်" ဟု စည်လည်စေပြန်သော်လည်း (ဟံ) ဟူ၍လည်းကောင်း, (ဟုံ) ဟူ၍လည်းကောင်း ပြောဆိုမည့်သူတဦးတယောက်မျှ မရှိချေ၊

မင်းကြီးသည် "မြတ်စွာဘုရား၊ အချည်းနှီး (=အလကား) သော်မှလည်း ယူမည့်သူမရှိပါ" ဟူ၍ လျှောက်ထားလေသည်။ ထိုအခါ မြတ်စွာဘုရားရှင်သည်

"ရဟန်းတို့ လူများအပေါင်းသည် ချစ်ခင်စုံမက် နှစ်သက်အပ်သော မာတုဂါမ (=သိရိမာ) ကို သင်ချစ်သားတို့ ကြည့်ရှုကြကုန်လော့၊ ဤ ရာဇဂြိုဟ်မြို့မှာပင် ရှေးအခါက (ဆိုလျှင်) အသပြာ တထောင်ပေးမှ တနေ့တာ မြူးထူးပျော်ပါးသွားလာခွင့်ကို ရနိုင်ခဲ့ကြကုန်ပြီ၊ ယခုအခါ၌မူ အချည်းနှီး (=အလကား) သော်မှလည်း ယူမည့်သူ မရှိတော့ချေ၊ သို့စင်ကလောက် တင့်တယ်လှဘိ တန်ဖိုးရှိခဲ့သော ရုပ်အဆင်းသည် ကုန်ခြင်း ပျက်ခြင်းသို့ ရောက်ခဲ့လေပြီ၊ ရဟန်းတို့ မပြတ် မစဲ အမြဲ ကျင်နာ မခံသာသည့် ဤခန္ဓာကိုယ် အတ္တဘောကို ဉာဏ်စက္ခုဖြင့် ကြည့်ရှုကြလော့"

ဟု မိန့်တော်မူပြီးလျှင် ဤဆိုလတ္တံ့သော တရားဂါထာကို ဟောကြား တော်မူလေ၏၊

ပဿ စိတ္တကတံ ဗိမ္ဗံ၊ အရုကာယံ သမုဿိတံ။
အာတုရံ ဗဟုသင်္ကပ္ပံ၊ ယဿ နတ္ထိ ဓုဝံ ဌိတိ။

(ဘိက္ခဝေ=ရဟန်းတော်များ အိုချစ်သားတို့) ယဿ=အကြင် သို့သော ခန္ဓာကိုယ် အတ္တဘောအား။ ဓုဝံ=မယိုင်မလဲ ခိုင်မြဲသော သဘောသည်လည်းကောင်း။ ဌိတိ = ကြံ့ကြံ့ခိုင်ကုည်တည်တံ့ခြင်း သဘောသည်လည်းကောင်း။ နတ္ထိ=တစိုး တစိ မရှိပချေ။စိတ္တကတံ =အဝတ်တန်းဆာ ပန်းနံ့သာ- စသည်တို့ဖြင့် သာယာ ခုံမက်ဖွယ် အဆန်းတကြယ် ခြယ်လယ်ပြုပြင်၍ထားအပ်သော။ ဗိမ္ဗံ=ရှည်သင့်ရာ ရှည် တိုသင့်ရာဘို ထိုထိုအင်္ဂါကြီးငယ်တို့ဖြင့် တင့်တယ်သည်ဟုအမှတ် မှားပြုလောက်အောင် ပေါင်းစု၍ တည်နေသော။ သမုဿိတံ=သုံး ရာသော အရိုးများကြောင့် မားမားမြင့်ခေါင်စိုက်ထောင်ရပ်တည် နိုင်သော။ အာတုရံ=မပြတ်မစဲ အမြဲကျင်နာ မခံသာသော။ ဗဟု သင်္ကပ္ပံ=လူသူအများ ပုထုဇန် အန္ဓသားတို့ တရားမမှီ ဉာဏ်မသိ၍ တင့်တယ်သည်, ဖွယ်ရာသည်, မင်္ဂလာရှိသည်၊ ထိုဤများပြား အကြံ များအပ်သော တံ အရုကာယံ=ကိုးပေါက်ဒွာရ အမာဝမှ ယိုကျ ဖြုန်းဖြုန်း ရွံရှာဖွယ်အပြည့်ဖုံးသဖြင့် တကိုယ်လုံး အမာကြီးသဖွယ် မဘင့်တယ်သော ထိုခန္ဓာကိုယ် အတ္တဘောကို။ ပဿ - ပဿထ = ဖန်ဖန်မေ့ငှ ဉာဏ်စက္ခုဖြင့် ကြည့်ရှုကြကုန်လော့။

ဒေသနာနိဂုံး ဆုံးသောအခါ သတ္တဝါပေါင်း ရှစ်သောင်း လေး ထောင်တို့ သစ္စာလေးပါး တရားသိမြင် ကျွတ်တမ်းဝင်ကြလေသည်။ သိရိမာကို ချစ်ခင် နှစ်သက်နေသော ထိုရဟန်းငယ်သည်လည်း သော တာပတ္တိဖိုလ်၌ တည်လေ၏။

(ဤဆိုအပ်ပြီးသည်ကား ဓမ္မပဒအဋ္ဌကထာ ဒုတိယအုပ် စာမျက်နှာ ၆၆၊ ၁၁-ဇရာဝဂ်၊ ၂-သိရိမာဝတ္ထုမှ ထုတ်ဆောင်ဖော်ပြချက်တည်း။

ဤသိရိမာဝတ္ထုနှင့်စပ်၍ သုတ္တနိပါတ် အဋ္ဌကထာ ပထမအုပ် စာမျက်နှာ ၂၃၅၊ ၁၁-ဥရဂဝဂ်၊ ၁၁-ဝိဇယသုတ်အဖွင့်၌ လာရှိသည်ကိုလည်း ကြည့်ညှိုဖွယ်ကောင်းလှ၍ ဆက်လက်ဖော်ပြဦးအံ့)။

ထိုရဟန်းငယ် အစာဖြတ်၍ အငတ်ခံနေစဉ်ပင် သိရိမာသည် စုတိ ပြတ်ကြွေ သေလွန်ခဲ့၍ ယာမာနတ်ပြည်ဝယ် သုယာမနတ်မင်း၏ နတ်မိဖုရားကြီး ဖြစ်လေသည်။ ထို့နောက် သိရိမာ၏ဥတုဇရုပ်ကလာပ်ကို မီးမသင်္ဂြိုဟ်စေပဲ သုကောင်ပစ်ရာ သုသာန်၌ ဗိမ္ဗိသာရမင်းကြီး (မြတ်စွာဘုရား မိန့်ကြားချက်အရ) ထားရှိအပ်သော ဥတုဇရုပ်ကလာပ်ကို ကြည့်ရှုတော်မူရန် မြတ်စွာဘုရားရှင်သည် ရဟန်းအပေါင်းခြံရံလျက် ထိုစိတ္တဇ ရဟန်းငယ်ကိုလည်း ခေါ်ဆောင်၍ ကြွတော်မူလာ၏။ ထို့အတူ မြို့သူ မြို့သား လူအများတို့သည် လည်းကောင်း, ဗိမ္ဗိသာရ မင်းတရားသည် လည်းကောင်း လာရောက်ကြလေ၏။

ထိုသုသာန်အရပ်၌ လူအများတို့သည် "အချင်းတို့၊ ရှေးအခါတုန်းက ဆိုလျှင် ငွေအသပြာ တထောင့်ရှစ်ကျပ်ဖြင့်လည်း သိရိမာကို ကြည့်ရှုပျော်ပါးရန် အချိန်အလှည့်ကို ရခဲလှဘိ၏၊ ယခုအခါ ထိုသိရိမာကို ချင်ရွေးဖြင့်လည်း ကြည့်ရှုလိုသူ မရှိတော့ပြီတကား" ဟု ပြောဆိုကြကုန်၏။

သိရိမာနတ်မိဖုရားသည်လည်း နတ်ရထားအစီးငါးရာ ခြံရံအပ်လျက် ထိုသုသာန်အရပ်သို့ ရောက်ရှိလာလေ၏။ ထိုသုသာန်အရပ်၌ မြတ်စွာဘုရားရှင်သည် စည်းဝေးမိကြသော လူရဟန်းတို့အား တရားဟောရန် ဝိဇယသုတ္တန်ကို လည်းကောင်း, ထိုရဟန်းငယ်အား ဆုံးမတော်မူရန် (ရှေးဖော်ပြရာပါ) "ပဿ စိတ္တကတံ ဗိမ္ဗံ" အစရှိသော ဓမ္မပဒကျမ်းလာ ဤဂါထာကိုလည်းကောင်း ဟောကြားတော်မူလေ၏။

(ဤအရာ၌ တရားသားပါလှ၍ သူတော်စင် ပရိသတ်တို့ တရာနှလုံး ကျင့်သုံးပွားများ အောက်မေ့နိုင်ကြရန် ဝိဇယသုတ္တန် မြန်မာပြန်ကို ထုတ်ဆောင်ဖော်ပြဦးအံ့)။

## ဝိဇယသုတ္တန် မြန်မာပြန်

(၁) စရံ ဝါ ယဒိ ဝါ တိဋ္ဌံ
နိသိန္နော ဥဒ ဝါ သယံ။
သမိဉ္ဇေတိ ပသာရေတိ
ဧသာ ကာယဿ ဣဉ္ဇနာ။

စရံဝါ=သွားလည်းသွား၏။ ယဒိ=ထိုမျို့။ တိဋ္ဌံဝါ=ရပ်လည်း ရပ်တည်၏။ နိသိန္နော ဝါ=ထိုင်လည်းထိုင်နေ၏။ ဥဒ=ထိုမျို့။သယံ ဝါ=လျောင်းလည်းလျောင်းစက်၏။ သမိဉ္ဇေတိ=ထိုထို အဆစ်တို့ကို ကွေးလည်း ကွေးည့်တ်၏။ ပသာရေတိ=ဆန့်လည်း ဆန့်တန်း၏။ ဧသာ=ဤသွား, ရပ်, ထိုင်, လျောင်း, ရှေ့နှောင်းတက်,ဆုတ်, ကွေး ရှုပ်, ဆန့်တန်းမှု အစုစုအဖုံဖုံ အမူအရာအလုံးစုံသည်။ ကာယဿ= ကိုယ်ခန္ဓာ၏။ ဣဉ္ဇနာ=လှုပ်ရှားမှုသာတည်း။

(ဤဂါထာဖြင့် ဤဆိုလတ္တံ့သော အနက်အဓိပ္ပာယ်ကိုဖော်ပြသည်)

ဤခန္ဓာကိုယ်၌ အခြားတပါးသော တစုံတယောက်သော သွား တတ်သူ ပုဂ္ဂိုလ်သတ္တဝါ, ရပ်တတ်သူပုဂ္ဂိုလ်သတ္တဝါ၊ (ပ)၊ ဆန့်တတ် သူ ပုဂ္ဂိုလ်သတ္တဝါဟူ၍ မရှိ၊ စင်စစ်သော်ကား

**(က) သွားလိုရပ်လို၊ ထိုင်နေလို၊ အိပ်လိုစိတ်ဟုသိ။**
**(ခ) စိတ်ကြောင့် ဖြစ်သော၊ ဓာတ်ဝါယော၊ နှံ့နှော ကိုယ်ဝယ် ပြည့်။**
**(ဂ) ဝါယောပြည့်သော်၊ ရုပ်သစ်ပေါ်၊ ရုပ်သော်သွားပေ၏။**
**(ဃ) ပုဂ္ဂိုလ်မသွား၊ ငါမသွား၊ ရုပ်သွားဉာဏ်ဖြင့်သိ။**
**(င) ပုဂ္ဂိုလ်မရပ်၊ ငါမရပ်၊ ရုပ်ရပ်ဉာဏ်ဖြင့်သိ။**
**(စ) ပုဂ္ဂိုလ်မထိုင်၊ ငါမထိုင်၊ ရုပ်ထိုင်ဉာဏ်ဖြင့်သိ။**
**(ဆ) ပုဂ္ဂိုလ်မအိပ်၊ ငါမအိပ်၊ ရုပ်အိပ်ဉာဏ်ဖြင့်သိ။**
**(ဇ) ပုဂ္ဂိုလ်မကွေး၊ ငါမကွေး၊ ရုပ်ကွေးဉာဏ်ဖြင့်သိ။**
**(ဈ) ပုဂ္ဂိုလ်မဆန့်၊ ငါမဆန့်၊ ရုပ်ဆန့်ဉာဏ်ဖြင့်သိ။**

ဟူသောအတိုင်း (၁) သွားလိုသော စိတ်ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သောဝါယောဓာတ်သည် တကိုယ်လုံး၌ ပြန့်နှံ့လေသည်၊ ထိုသို့ ဝါယောဓာတ်တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ သွားလိုရာအရပ်သို့ ရွေးရှူ ဆောင်ခြင်းသည် ဖြစ်၏။ သွားလိုရာအရပ်တပါးဘက်၌ သွားသောအမူအရာအားဖြင့် ရုပ်ထူးတို့ ထင်ရှားဖြစ်ပေါ်လာကြ၏ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အဆက်ဆက် တို့၏ သွားသောအမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြသည်ကိုပင်) "သွား၏"ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၂) ထို့အတူ ရပ်လိုသောစိတ်ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ ပြန့်နှံ့လေသည်။ထိုသို့ ဝါယောဓာတ်တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏မတ်မတ်စိုက်ထောင်ခြင်းသည် ဖြစ်၏။ အထက်အထက်၌ဘနဖြင့် ရုပ်အထူးတို့၏ အဆင့်ဆင့် ဖြစ်ပေါ်ခြင်းသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အဆက်ဆက်တို့ အောက်နှင့် အထက် အဆင့်ဆင့် ရပ်သော အမူအရာဖြင့် ဖြစ်ကြလေသောကြောင့်ပင် (ဝါ-ဖြစ်သည်ကိုပင်) "ရပ်၏" ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

(၃) ထို့အတူ ထိုင်လိုသောစိတ်ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ ပြန့်နှံ့လေသည်။ ထိုသို့ ဝါယောဓာတ်တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏အောက်ပိုင်းက ကွေးသော အမူအရာ အထက်ပိုင်းကစိုက်ထောင်သော အမူအရာဖြစ်ပေါ်လာ၏။ အောက်ပိုင်း ကိုယ်ကာယက ကွေးသော အမူအရာ အထက်ပိုင်းကိုယ်ကာယက စိုက်ထောင်သော အမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှား ဖြစ်ပေါ်ကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ထိုင်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြသည်ကိုပင်) "ထိုင်၏" ဟူ၍ လောကပညတ် ခေါ်ဆို အပ်လေသည်။

(၄) ထို့အတူ လျှောင်းလို အိပ်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် တကိုယ်လုံးသို့ ပြန့်နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် တကိုယ်လုံး ပြန့်နှံ့ခြင်းကြောင့် ကိုယ်ကာယ၏ ဖီလာကန့်လန့် ဆန့်သော အခြင်းအရာဖြစ်ပေါ်လာ၏။ ဖီလာကန့်လန့်ဆန့်သော အမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှား ဖြစ်ပေါ် ကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ဖီလာကန့်လန့်ဆန့်သော အမူအရာ=လျှောင်းအိပ်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင် (ဝါ-ဖြစ်ကြသည်ကိုပင်) "လျှောင်း၏=အိပ်၏" ဟူ၍ လောကပညတ် ခေါ်ဆိုအပ်လေသည်။

ထို့အတူ "ကွေး၏, ဆန့်၏"ဟု ဆိုရာ၌လည်း ကွေးလို, ဆန့်လိုသောစိတ် ဖြစ်လတ်သော် ထိုစိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်သည် ထိုထို အဆစ်တို့သို့ ပြန့်နှံ့လေသည်။ ထိုသို့ ဝါယောဓာတ် ပြန့်နှံ့ခြင်းကြောင့် အဆစ်တို့၏ ကွေးသောအမူအရာ,ဆန့်သော အမူအရာ ဖြစ်ပေါ်လာလေသည်။ ကွေးသောအမူအရာ, ဆန့်သော အမူအရာဖြင့် ရုပ်အထူးတို့ ထင်ရှား ဖြစ်ပေါ်ကြသည်ဟု ဆိုလိုသည်။ ထိုသို့ ရုပ်အထူးတို့ ကွေးသော အမူအရာ, ဆန့်သော အမူအရာဖြင့် ဖြစ်ကြသောကြောင့်ပင်(ဝါ=ဖြစ်ကြသည်ကိုပင်) "ကွေး၏,ဆန့်၏" ဟူ၍ လောက ပညတ် ခေါ်ဆိုအပ်လေသည်။

ထို့ကြောင့် ဖော်ပြရာပါ လောကပညတ် ခေါ်ဆိုအပ်သည့် သွားမှု, ရပ်မှု, ထိုင်မှု, လျှောင်းမှု = အိပ်မှု, ကွေးမှု, ဆန့်မှု အမူအရာ အစုစုသည် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာ ဖြစ်၏။ ထိုထိုအမူအရာဖြင့် ရုပ်တရား အထူးတို့ ထင်ရှား ဖြစ်ပေါ်မှုသာ ဖြစ်၏ဟု ဆိုလိုသည်။ ဤခန္ဓာကိုယ်၌ အခြားတပါး တစုံတယောက် သွားတတ်, ရပ်တတ်, ထိုင်တတ်, လျှောင်းတတ် = အိပ်တတ်, ကွေးတတ်, ဆန့်တတ်သော ပုဂ္ဂိုလ် သတ္တဝါ အတ္တဇီဝ ဟူ၍ မရှိ။ ဤကိုယ်ခန္ဓာသည် တစုံတယောက် သွားတတ်သော ပုဂ္ဂိုလ် သတ္တဝါ ရပ်တတ်သော, ထိုင်တတ်သော, လျှောင်းတတ်=အိပ်တတ်သော,

ကွေးတတ်သော ပုဂ္ဂိုလ်သတ္တဝါ, ဆန့်တတ်သော ပုဂ္ဂိုလ် သတ္တဝါ အတ္တဇီဝမှ ဆိတ်သုဥ်း၏။ စင်စစ်သော်ကား

စိတ္တနာနတ္တမာဂမ္မ
နာနတ္တံ ဟောတိ ဝါယုနော။
ဝါယုနာနတ္တတော နာနာ
ဟောတိ ကာယဿ ဣဉ္ဇနာ။

စိတ်ထူးခြားမှုကို အစွဲပြု၍ ဝါယောဓာတ်၏ ထူးခြားမှုသည် ဖြစ်၏၊ ဝါယောဓာတ် ထူးခြားမှုကြောင့် ဤကိုယ်ခန္ဓာ၏ လှုပ်ရှားမှု အထူးထူး အထွေထွေ ဖြစ်ပေါ်လေသည်။ ။ဤကား ဤဂါထာ၌ ပရမတ္ထသဘော အနက်အဓိပ္ပာယ်တည်း။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် ဤပထမဂါထာဖြင့် အနိစ္စ လက္ခဏာ, ဒုက္ခလက္ခဏာ, အနတ္တလက္ခဏာ = သုံးပါးကို ထင်ရှား ပြတော်မူ၏။ ပြတော်မူပုံမှာ

သွား, ရပ်, ထိုင်, လျောင်း = ဣရိယာပုထ် လေးပါးတို့အနက် တခုသော ဣရိယာပုထ်၌ ကြာမြင့်စွာနေသဖြင့် ကိုယ်ဆင်းရဲ နာကျင်မှုသည် ဖြစ်ပေါ်လာ၏။ ထိုကိုယ်ဆင်းရဲ နာကျင်မှုကို ပယ်ဖျောက်ရန် အခြား ဣရိယာပုထ်တပါးသို့ ပြောင်းလဲမှုကို ပြုရတော့၏။ (ကိုယ်ဆင်းရဲ နာကျင်မှု=ဒုက္ခသဘော လက္ခဏာကို ဣရိယာပုထ် ဖြင့် ဖုံးထားအပ်လေသည်။ ဝါ-ဒုက္ခသဘောလက္ခဏာ မပေါ်နိုင် အောင် အခြား ဣရိယာပုထ်ဘပါးတပါးဖြင့် ပြောင်းလဲဖုံးအုပ်၍ ထားလေသည်။ ထို့ကြောင့် **"ဒုက္ခလက္ခဏာကို ဣရိယာပုထ် ဖုံးအုပ်သည်"**ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်)။ သို့ရကား "စရံ ဝါ ယဒိ ဝါ တိဋ္ဌံ" စသော ဂါထာ သုံးပိုဒ်ဖြင့် ဣရိယာပုထ် တမျိုး တမျိုး ပြောင်းလဲဖုံးအုပ်၍ ထားအပ်သော ဒုက္ခလက္ခဏာကို ပြတော် မူ၏။ (ကိုယ်ဆင်းရဲသောကြောင့် ဣရိယာပုထ်အမျိုးမျိုး ပြောင်းလဲ ရသည်။ သို့ရကား ဣရိယာပုထ်အမျိုးမျိုး ပြောင်းလဲရမှုတည်းဟူ

သော အကျိုးကို ဖော်ပြသဖြင့် အကြောင်းဖြစ်သည့် ကိုယ်ဆင်းရဲမှု=ဒုက္ခလက္ခဏာကို သိရလေသည်)။

ထို့အတူ သွားသောအခါ၌ ရပ်ခြင်း စသည်တို့မရှိသောကြောင့် "သော ကာယဿ ဣဉ္စနာ = ဤသွား, ရပ်, ထိုင်, လျောင်း, ရှေ့, နောင်း-တက်, ဆုတ်, ကွေးရပ်, ဆန့်တန်းမှု အစုစု အဖုံဖုံ အမူအရာ အလုံးစုံသည် ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာတည်း"ဟု ဟောတော်မူသော မြတ်စွာဘုရားရှင်သည် သန္တတိဖြင့် ဖုံးလွှမ်းအပ်သော အနိစ္စလက္ခဏာကို ပြတော်မူ၏။

ထင်ရှားစေဦးအံ့။ ရုပ်နာမ်တရားတို့၏ အဆက်မပြတ် ဖြစ်ပွားနေမှုကို သန္တတိဟူ၍ ခေါ်ဆိုသည်။ ယင်းသို့ ရုပ်နာမ်တို့၏ အဆက်မပြတ်ဖြစ်ပွားနေမှု=သန္တတိကြောင့် ထိုရုပ်နာမ်တရားတို့၏ သူ့ခဏနှင့်သူ ချုပ်ပျောက်ပျက်ဆုံး၍ သွားမှုတည်းဟူသော = အနိစ္စလက္ခဏာကို မမြင်ရခြင်းဖြစ်သည်။ ထိုအကြောင်းကို အစွဲပြု၍ **"အနိစ္စလက္ခဏာကိုသန္တတိ ဖုံးအုပ်ထားသည်"**ဟု ပညာရှိတို့ မိန့်ဆိုတော်မူကြသည်။ သော ကာယဿ ဣဉ္စနာ=ဤ သွား,ရပ်,ထိုင်,လျောင်း, ရှေ့,နောင်း တက်,ဆုတ်,ကွေးရပ်, ဆန့်တန်းမှု အစုစု အဖုံဖုံ အမူအရာ အလုံးစုံသည် ကိုယ်ခန္ဓာ၏ လှုပ်ရှားမှုသာတည်း"ဟု ဟောတော်မူလိုက်ခြင်းဖြင့်

"ဣရိယာပုထ် အမူအရာ တခုတခု၌ သဘောတူသော နာမ်ရုပ်တစုတစုတို့ အဆက်မပြတ် ဖြစ်ပေါ်နေကြသည်။ ဣရိယာပုထ်တပါး အမူအရာတပါး ပြောင်းလဲသွားသောအခါ ထို နာမ်ရုပ်တရားတို့သည် အစုလိုက် အစုလိုက်ပင် ပြောင်းလဲ၍ သွားကြသည်= ချုပ်ပျောက်၍ သွားကြသည်"ဟူသော အနက်အဓိပ္ပာယ်ကို သိစေတော်မူ၏။ထို့ကြောင့် ထိုနောက်ဆုံးစတုတ္ထပိုဒ်ဖြင့်သန္တတိဖြင့် ဖုံးလွှမ်းထားသည့် အနိစ္စလက္ခဏာကို မြတ်စွာဘုရား ထင်ရှား ပြတော်မူသည်ဟု အဓိပ္ပာယ်ကို သိရလေသည်။

ရှေး၌ ဆိုအပ်ပြီးသည့်အတိုင်း ပရမတ္ထ သဘာဝ စင်စစ်အားဖြင့် သွားလို, ရပ်လို, ထိုင်လို, လျောင်းလိုသော စိတ်ကြောင့် စိတ္တဇ ဝါယောဓာတ် ဖြစ်သည်။ ထိုဝါယောဓာတ် တကိုယ်လုံး ပြန့်နှံ့သောကြောင့် သွားသောအမူအရာ, ရပ်သောအမူအရာ, ထိုင်သော အမူအရာ, လျောင်းသောအမူအရာဖြင့် ရုပ်အထူးတို့ ဖြစ်ကြသည်။ ထိုသို့ ဖြစ်ကြသည်ကိုပင် လောကပညတ်အားဖြင့် သွားသည်, ရပ်သည်, ထိုင်သည်, လျောင်းသည်, ရှေ့သို့တက်သည်, နောက်သို့ဆုတ်သည်, ကွေးသည်, ဆန့်သည်ဟူ၍ ခေါ်ဆိုအပ်လေသည်။ ပရမတ္ထအားဖြင့်ကား ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် ရုပ်အထူးတို့ ဖြစ်ကြခြင်းသာဖြစ်သည်။ ရုပ်နာမ်နှစ်ပြား ကိုယ်ခန္ဓာ၏ ဆိုင်ရာအကြောင်း စုပေါင်းညီညွတ်သဖြင့် ထိုထို သွားခြင်း, ရပ်ခြင်းစသော အမူအရာအားဖြင့် ရုပ်အထူးတို့၏ ဖြစ်ကြခြင်းသာဟု ဆိုလိုသည်။ ဤအချက်ကို လေးနက်စွာ မသိသောကြောင့် အတ္တဝါဒသမားတို့က "အတ္တလိပ်ပြာသည်ပင် သွား၏, ရပ်၏, ထိုင်၏, လျောင်း၏"ဟု ပြောဆိုကြလေသည်။ ထိုသူတို့ အလိုအားဖြင့် "အတ္တလိပ်ပြာ၏ သွားမှု, ရပ်မှု, ထိုင်မှု, လျောင်းမှု"ဟု ဆိုကြသည်။ ထိုကို မြတ်စွာဘုရားရှင်က "အတ္တလိပ်ပြာ၏ သွားမှု, ရပ်မှု, ထိုင်မှု, လျောင်းမှု မဟုတ်၊ သောကာယဿ ဣဉ္ဇနာ = ဤအပြုအမူအလုံးစုံသည် ကိုယ်ခန္ဓာ၏ လှုပ်ရှားမှု ထိုထိုအကြောင်း စုပေါင်းညီညွတ်သဖြင့် ထိုထိုအမူအရာအားဖြင့် ရုပ်အထူးတို့၏ ထင်ရှား ဖြစ်ပွားခြင်းမျှသာဖြစ်သည်"ဟု ဟောတော်မူသည်။

ထို့ကြောင့် **ရုပ်သွား, ရုပ်ရပ်, ရုပ်တိုင်, ရုပ်အိပ်** ဟု ဆိုရာ၌လည်း (ရုပ်တရားသည် ဖြစ်ပြီးလျှင် ပျက်သော သဘောသာရှိ၏) အမှန်စင်စစ် သွားသော အခြင်းအရာ, ရပ်သော အခြင်းအရာ, ထိုင်သော အခြင်းအရာ, အိပ်သောအခြင်းအရာ, ထူးတို့ဖြင့် (ပရမတ္ထသဘော) ရုပ်တရားတို့ ဖြစ်ခြင်းကိုသာ ဆိုလိုသည်။ (ပညာမျက်စိဖြင့်သာ သိမြင်နိုင်ရာ၏)၊

## ဃန လေးပါး

ဤအရာ၌ (၁) သန္တတိဃန (၂) သမူဟဃန (၃) ကိစ္စဃန (၄) အာရမ္မဏဃန ဟူ၍ ဃန လေးပါးရှိသည်၊

(၁) ထိုလေးပါးတို့တွင် ရှေ့နောက်ဖြစ်သော ရုပ်နာမ်တရားတို့၏ အခြားမရှိ အကြားမထင်သောအားဖြင့် တရားလုံး တခုတည်းကဲ့သို့ ထင်မှတ်ယူရအောင် ဖြစ်ပွားခြင်း စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်း သည် သန္တတိဃနမည်၏။

ဤ၌ "အခြားမရှိသောအားဖြင့် ဖြစ်ခြင်း"ဟူသည်မှာ ရှေ့တရား၏ ဘင်ခဏနှင့် ပြိုင်လျက် နောက်တရားကဖြစ်ခြင်း (တနည်း)ရှေ့တရား ချုပ်သည်၏ အခြားမဲ့မှာပင် နောက်တရားက ထင်ရှားဖြစ်ခြင်းကို ဆိုလိုသည်။ ယင်းကို (ပုရိမပစ္ဆိမာနံ နိရန္တရတာ=ရှေ့တရား နောက် တရားတို့၏ အကြားမရှိ ဖြစ်သည်၏ အဖြစ်)ဟူ၍ ဋီကာဆရာကြီးများ ခေါ်ဆိုအသုံးပြုတော်မူကြသည်။ ယင်းကဲ့သို့ အခြားမရှိ အကြားမထင် အောင် ဖြစ်ပွားခြင်းဖြင့် အဖြစ်တရားဘက်က အားရှိကာ ဖုံးလွှမ်းအုပ် သကဲ့သို့ဖြစ်၍ အပျက်တရားဘက်က မထင်ရှားသောကြောင့် "ယခု တွေ့မြင်ရသော တရားသည် ယခင်တွေ့မြင်ရသော တရားပင်ဘည်း"ဟု မှတ်ယူသောအနေဖြင့် လူများအပေါင်းတို့ ဖောက်ပြန်ထွေပြား အထင် မှား အမှတ်မှားကြရသေးသည်။ ဤသဘောကို "ထင်းမီးစတခုကိုကိုင်၍ ဝှေ့ရမ်းလျှင် မီးဝိုင်းကြီးဟု ထင်ရမှု"က သက်သေခံလျက် ရှိသည်။ (ဤကား သန္တတိဃနတည်း)။

(၂) ဖဿ-အစရှိသော နာမ်တရား, ပထဝီ-အစရှိသော ရုပ် တရားတို့၏ ထိုထို နာမ်ကလာပ် ရုပ်ကလာပ်တို့၌ တပေါင်းတည်း တစုတည်း အနေဖြင့် ပရမတ္ထတရားသား တခုတည်းကဲ့သို့ ထင်မှတ် ရအောင် စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်းသည် သမူဟဃန မည်၏။

နာမ်တရား ရုပ်တရားတို့သည် ဖြစ်ပွားကြသောအခါ တရားလုံး (သဘာဝသတ္တိ) တခုတည်းသာ ဖြစ်ကြသည်မဟုတ်၊ နာမ်တရား ဘက်ကလည်း အနည်းဆုံး ရှစ်မျိုး (စက္ခုဝိညာဏ်နှင့် သဗ္ဗစိတ္တ သာဓာရဏ စေတသိက်ခုနစ်ပါးကို ဆိုလိုသည်)။ ရုပ်တရားဘက်က လည်း အနည်းဆုံး ရှစ်မျိုးပင် (အဋ္ဌကလာပ်ရုပ်ကို ရည်ညွှန်းသည်) ဖြစ်ပွားကြသည်။ ယင်းကဲ့သို့ အနည်းဆုံး သဘာဝသတ္တိ ရှစ်မျိုးတို့ သဘာဝသတ္တိ တမျိုးတည်းဟု ထင်မှတ်ယူရအောင် စုလျက် ပေါင်း လျက် တွဲလျက် ခဲလျက်ဖြစ်ပွားခြင်းကို သမူဟဃန ခေါ်သည်ဟု ဆိုလိုသည်၊ (ဤကား သမူဟဃနတည်း)။

(၃) နာမ်ကလာပ်တခုတခု ရုပ်ကလာပ်တခုတခု၌ ပါရှိကြသည့် နာမ်တရား ရုပ်တရား အသီးသီးတို့သည် ဆိုင်ရာဆိုင်ရာ မိမိ မိမိ တို့၏ ကိစ္စအလုပ်တို့ကို ပြုလုပ်ပြီးပြေစေကြလျက် ဖြစ်ပွားကြလေသည်၊ ထိုသို့ ဖြစ်ပွားကြရာ၌ (အဘိဓမ္မာ ဉာဏ်ပညာမျက်စိ မရှိသောသူတို့ အဖို့မှာ) ဤကား ဖဿ၏ အလုပ်ကိစ္စ, ဤကား ဝေဒနာ၏ အလုပ် ကိစ္စ, ဤကား သညာ၏ အလုပ်ကိစ္စ စသည်ဖြင့် လည်းကောင်း, ဤကား ပထဝီ၏ကိစ္စ, ဤကား အာပေါ၏ကိစ္စ, ဤကား ဝါယော ၏ကိစ္စ, ဤကား တေဇော၏ကိစ္စ စသည်ဖြင့် လည်းကောင်း အလုပ် ကိစ္စအထူးကို သိဖို့ရန် ခဲယဉ်းလှကုန်၏။ ယင်းသို့ နာမ်တရား ရုပ် တရားတို့၏ မိမိ မိမိတို့၏ ဆိုင်ရာ ကိစ္စအထူးကို သိနိုင်ခဲသောအနေ ဖြင့် တရားလုံး တခုတည်းဟု ထင်မှတ် ရအောင် စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားမှုကို ကိစ္စဃနခေါ်သည်။ (ဤကား ကိစ္စဃနတည်း)။

(၄) နာမ်ကလာပ် တခုတခု၌ ပါရှိသော ထိုကို နာမ်တရားတို့ ၏ အာရုံ တခုကို စု၍ ပေါင်း၍ အာရုံပြုသော အနေဖြင့် လည်း ကောင်း, ရုပ်ကလာပ် တခု တခု၌ ပါရှိသော ထိုထို ရုပ်တရားတို့၏ အာရုံတခုတည်း အနေဖြင့် လည်းကောင်း ပရမတ္ထ တရားသား (သဘာဝသတ္တိ) တခုတည်းဟု ထင်မှတ်ရအောင် စုလျက် တွဲလျက် ခဲလျက် ဖြစ်ပွားခြင်းကို အာရမ္မဏဃန ခေါ်သည်။ (ဤကား အာရမ္မဏဃနတည်း)။

အချုပ်အားဖြင့် အကြောင်း ပစ္စည်းတရား အကျိုး ပစ္စယုပ္ပန် တရားအနေဖြင့် ဖြစ်ပွားကြသည့် များစွာသော ရုပ်နာမ်တရားတို့၏ ကာလအားဖြင့် သဘာဝအားဖြင့်, ကိစ္စအားဖြင့်, အာရုံသဘော အားဖြင့် အထူးအပြားကို သိနိုင်ခဲသော အနေအားဖြင့် တရားလုံး တရားသား တခုတည်းကဲ့သို့ ထင်မှတ်ယူရအောင် ဖြစ်ပွားခြင်းကို အစဉ်အတိုင်း သန္တတိဃန, သမူဟဃန, ကိစ္စဃန, အာရမ္မဏဃနဟူ၍ ခေါ်ဆိုအပ်လေသည်။ ။(ဤ ဃန လေးပါး အကြောင်းကို ဓမ္မသင်္ဂဏီ မူလဋီကာ စာမျက်နှာ ၆၀–နှင့် ဓမ္မသင်္ဂဏီ အနုဋီကာ စာမျက်နှာ ၆၆–တို့မှ ထုတ်နုတ် ဖော်ပြအပ်သည်)။

**"ငရုတ်စေ့၌၊ စိတ်တွေ့သတ်သတ်၊ အစပ်ကိုတည့်၊ ရှုမျှော် ကြည့်သို့၊ သတ္တိကိုမျှ၊ ရှုကြည့်ရ၊ ပရမတ္ထမှာ"**

ဟူသောအတိုင်း ထိုထိုနာမ်ရုပ်တရားတို့၏ သဘာဝ သတ္တိကို ဉာဏ် မျက်စိဖြင့် ရှုကြည့်နိုင်မှ ပရမတ္ထသို့ အမြင်ဆိုက်ရောက်သည်။ ပရမတ္ထ သို့ အသိဉာဏ် အမြင်ဆိုက်ရောက်မှ ဃနပြို သည်၊ ဃနပြိုမှ အနတ္တ အသိဉာဏ်ကို ရနိုင်သည်။ သဘာဝသတ္တိကို ဉာဏ်မျက်စိဖြင့် မရှု ကြည့်က ပရမတ္ထသို့ အမြင်မဆိုက်။ ပရမတ္ထသို့ အသိဉာဏ် အမြင် မဆိုက်လျှင် ဃနမပြို၊ ဃနမပြိုလျှင် အနတ္တအသိဉာဏ်ကို မရနိုင်။ ထို့ကြောင့် "**အနတ္တလက္ခဏာကို ဃနဖုံးသည်**"ဟု ပညာရှိတို့ မိန့်ဆို တော်မူကြလေသည်။

ဤ ပထမဂါထာ၌ မြတ်စွာဘုရားရှင်သည် စတုတ္ထပါဒ"သော ကာယဿ ကူဋနာ=ဤအပြုအမူ အလုံးစုံသည် ပုဂ္ဂိုလ်သတ္တဝါ အတ္တလိပ်ပြာ၏ အပြုအမူမဟုတ်၊ စင်စစ်သော်ကား ထိုထို ရုပ်နာမ် တရား အစု၏ ဆိုင်ရာဆိုင်ရာ မိမိ မိမိတို့၏ အလုပ်ကိစ္စကို ပြုလုပ်ပြီးပြေ စေသောအားဖြင့် ဖြစ်ပွားမှု=လှုပ်ရှားမှုသာတည်း"ဟု ဟောတော် မူလိုက်သဖြင့် ဃနဖြင့် ဖုံးလွှမ်းအပ်သော အနတ္တလက္ခဏာ သဘော

ကို ပြတော်မူ၏။ (ဤအရာစုကား နက်နဲဘိတောင်း၊ သာမန် ဉာဏ် မျက်စိဖြင့် မသိနိုင်ချေ)။

ပထမဂါထာ ပြီး၏။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် လက္ခဏာရေးသုံးပါးကို ပြတော်မူသောအားဖြင့် နိစ္စသဘော, သုခသဘော, အတ္တသဘောမှ ဆိတ်သုဉ်းသည့် သုညတကမ္မဋ္ဌာန်းကို ဟောတော်မူပြီးလျှင် တဖန် သဝိညာဏက အသုဘ = သက်ရှိ အသုဘ, အဝိညာဏက အသုဘ = သက်မဲ့အသုဘ နှစ်ပါးကို ပြအံ့သောငှာ နောက်ဂါထာများကို ဆက်၍ဟောကြားတော်မူလေသည်။

(၂) အဋ္ဌိနဟာရုသံယုတ္တော
တစမံသာဝလေပနော။
ဆဝိယာ ကာယော ပဋိစ္ဆန္နော
ယထာဘူတံ န ဒိဿတိ။

· ကာယော=သဝိညာဏက ခေါ်ဆို ဤခန္ဓာကိုယ်သည်။ အဋ္ဌိနဟာရုသံယုတ္တော= (သုံးရာသော) အရိုး, အရိုးကိုဖွဲ့သည့် (ကိုးရာသော) အကြော, အရသာကို ဆောင်သည့် (ခုနစ်ထောင်သော) အကြောတို့နှင့် ဖွဲ့ယှက်ရစ်ပတ် စပ်ယှဉ်သည်ဖြစ်၍။ တစမံသာဝလေပနော=အဆင်းဖွေးဖြူ ထူသောအတွင်းရေ, ကိုးရာသောသားတစ်တို့ဖြင့် လိမ်းကျံအပ်သည်ဖြစ်၍။ (ပရမဒုဂ္ဂန္ဓ ဇေဂုစ္ဆ ပဋိကူလော=အလွန်ပင် ရနံ့ပုပ်လှောင်း စက်ဆုပ်ဖွယ် ရွံရှာဖွယ်ကောင်းလှ၏)။ ကာယော=သဝိညာဏက ခေါ်ဆို ဤခန္ဓာကိုယ်ကို။ ဆဝိယာ=အဆင်းထူးထွေ အပေါ်ရေ (=အရေပါး) ဖြင့်။ ပဋိစ္ဆန္နော= အိမ်နံရံကို အညိုစသည် ဆိုးရည်သုတ်မွှန်း ပုံနှုန်းနှုန်းလျှင် ဖုံးလွှမ်းခြယ်လှယ် အပ်သည်ဖြစ်၍။ ယထာဘူတံ=ဟုတ်မှန်လှစွာ အသုဘ အခြင်းအရာကို။ န ဒိဿတိ=ပညာအန္ဓ လူ့ဗာလတို့ လုံးဝမထင် မမြင်ကြရချေ။

(ဤကိုယ်၏ သဘောကား အိမ်၌ ထုပ်,လျှောက်, ဒိုင်း, မြှား, အမာခံများကို ရွေ့ရှားအောင် ကြိမ်နွယ်ဖြင့် တုပ်နှောင် ဖွဲ့ချည်အပ် သကဲ့သို့ အမာခံဖြစ်သော အရိုးပေါင်း သုံးရာခြောက်ဆယ် တို့ကို မရွေ့မရှားတည်ရှိအောင် ကြိမ်နွယ်နှင့် တူသော အကြောပေါင်း ကိုးရာတို့ဖြင့် ဖွဲ့ယှက်တုပ်နှောင်၍ ထားအပ်လေသည်။ ထို၏အပေါ် မှ ဘိတ္တိခေါ်သော မျက်ကွက်နံရံကို နွားချေး မြေညက်စိုင်တို့ဖြင့် မွမ်းမံလိမ်းကျံအပ်သကဲ့သို့ အသားတစ် အသားစိုင်ပေါင်း ကိုးရာ တို့ဖြင့် လိမ်းကျံမွမ်းမံအပ်လေသည်။ ထို၏အထက်မှ တဖန် အက်တေ အချောကိုင်သကဲ့သို့ အရေထူဖြင့် ရစ်ပတ်ဖွဲ့ယှက်၍ ထားအပ်လေ သည်၊ ဖော်ပြရာပါ အရိုး,အကြော, အသားတစ်, အရေထူများ ကား ပင်ကိုယ် သဘာဝအားဖြင့် ရနံ့ပုပ်လှောင်း စက်ဆုပ်ဖွယ် ရွံရှာဖွယ်ကောင်းလှ၏၊ သို့သော် အိမ်နံရံကို ကြည့်ရှု၍ ဟင့်တယ် အောင် အညို, အဝါ, အစိမ်း, အနီ စသော ဆေးအမျိုးမျိုးတို့ဖြင့် အသွေးအမျိုးမျိုးဖြစ်ရန် ခြယ်လှယ်ဖုံးအုပ်ထားသကဲ့သို့ ထို အရိုး, အကြော, အသားတစ်, အရေထူတို့ကို ဆိုးဆေးနှင့်တူသည့် အညို အရွှေ,အနီ, အဖြူ အဆင်းအမျိုးမျိုးရှိသော ယင်ကောင်၏တောင် ပံအလား (တကိုယ်လုံးကိုခွာ၍ လုံးလိုက်လျှင် ဇီးစေ့ ခန့်မျှသာ ပမာဏရှိသည့်) သိမ်မွေ့လှစွာသော အပေါ်ရံ အရေပါးက ဖုံးအုပ် ၍ ထားအပ်သောကြောင့် ပညာမျက်စိ မရှိသူတို့သည် ဟုတ်တိုင်း မှန်စွာ အသုဘ အခြင်းအရာကို မမြင်ကြရချေဟု ဆိုလိုသည်။)

ယင်းသို့ အရေပါးတည်းဟူသော ဆိုးရေတပ်စွန်းအပ်သည့် အရေ ထူဖြင့် ရစ်ပတ်ဖွဲ့ယှက်၍ ထားအပ်သောကြောင့် လူအပေါင်းအား မထင်ရှားသည့် အလွန်လျှင် မစင်ကြယ်, ရနံ့မကောင်း, စက်ဆုပ်ဖွယ်, ရွံရှာဖွယ်ကောင်းသည့် အထူးထူးသော အတွင်း အသုဘကောဋ္ဌာသတို့ ကို ပညာမျက်စိဖြင့် ထိုးဖောက်၍ ဤသို့ မြင်အောင် ကြည့်ရှုရမည်ဟု ပြတော်မူလိုသဖြင့် ဤဂါထာတို့ကို ဆက်၍ ဟောတော်မူအပ်လေသည်။

(၃) အန္တပူရော ဥဒရပူရော
ယကနပေဠဿ ဝတ္ထိနော॥
ဟဒယဿ ပပ္ဖာသဿ
ဝက္ကဿ ပိဟကဿ စ॥
(၄) သိင်္ဃာဏိကာယ ခေဠဿ
သေဒဿ စ မေဒဿ စ॥
လောဟိတဿ လသိကာယ
ပိတ္တဿ စ ဝသာယ စ၊

(အယံ ကာယော=သဝိညာဏကခေါ်ဆို ဤခန္ဓာကိုယ်သည်။ န စန္ဒနာဒိပူရော=စန္ဒကူးနံ့သာ စသည်တို့ဖြင့် ပြည့်သည်မဟုတ်။ အထ ခေါ=အဟုတ်သော်ကား)။ အယံ ကာယော=သဝိညာဏကခေါ်ဆို ဤခန္ဓာကိုယ်သည်။ အန္တပူရော=အူမဖြင့် ပြည့်၏။ (ဝါ-အန္တပူရော=ယောကျာ်းဒွတ္တိံ မိန်းမ ဌာဝီ အတောင်ရှည်သား ဖြူသည်အဆင်း ကတေအင်းသို့ သွေးကျင်းမှာခွေ ခေါင်းပြတ်မြွေလို လည်မျိုဝစ္စ ပဒေသဝယ် နှစ်ဆယ်တာတွန့် လိမ်တွန့်ရစ်နေ အူမခွေဖြင့် ပြည့်၏။ ။ဝါ-ပေါက်သည့်နောက်အနက်ကားမဟာဝိသုဒ္ဓာရာမဆရာတော်ဘုရားကြီး၏ အနက်များဖြစ်သည်။ နောက်၌လည်း ဤနည်းအတူပင်)။

ဥဒရပူရော=အစာသစ်ဖြင့်ပြည့်၏။ (ဝါ-ဥဒရပူရော= စားသည့်အစာ သွင်လျာရူပ အူမထက်ဖျားဆန့်ထုပ်လားသို့ ပ-ကား သန့်ရှင်း တွင်း-ပိန္နဲခွံ ရှုံ့ဖွယ်ဘိခြင်း တစိတွင်းနှယ် သုံးဆယ်နှစ်မျိုးပိုးတို့နေရာအူထုံးမှာဝယ် လျာရည်တံထွေး သွားမြေးအာစေးထိုထိုကြေးကို သိမ်းထွေးပေါင်းစု ထောင်းထုဝါးချေ မျိုလေဆင်းသက်ခေါက်မီးချက်၍ပရပ္ပက်ဆူ ကျိုက်ကျိုက်ဆူပွ အမြှုပ်ထကာ ပိုးစာ,လောင်မီး,ကျင်ကြီးကျင်ငယ်,တသွယ်သွေးသား ငါးပါးကွဲလျက် ခွေးစားခွက်ဝယ် ထွေးဟက် စွန့်လတ် ခွေးအန်ဖတ်တရှိ အစာသစ်ဖြင့်ပြည့်၏)။

ယကနပေဠဿ=အသည်းစိုင်ဖြင့်။ပူရော= ပြည့်၏။ (ဝါ-ယကန ပေဠဿ=ကုမုဒြာ ကြာချပ်ကျောက်နှယ် စဉ်းငယ်နီလျက် ကသစ် ရွက်သဏ္ဌာန် ဉာဏ်မဲ့ကြီးကြီး တခုတည်းသာ ပညာရှိဝယ် နှစ်,သုံး ငယ်လတ် ထနဗ္ဗန္တရေ ညာမှာနေသော အသည်းစိုင်ဖြင့်။ ပူရော= ပြည့်၏)။

ဝက္ကိနော=ကျောက်ငယ်ဖြင့်။ ပူရော=ပြည့်၏။(ဝါ-ဝက္ကိနော=ပဲပြာ ရည်ဆင်း ဆီးစတွင်းဝယ် သက်ဆင်းကိုယ်မှ မရဝင်ပေါက် ထွက် ပေါက်သာထင် စိမ့်၍ဝင်သော ကျောက်ငယ်အစုဖြင့်။ ပူရော=ရှုံ့ဖွယ်လိ လိ ပြည့်၍နေ၏)။

ဟဒယဿ=နှလုံးသားဖြင့်။ ပူရော=ပြည့်၏။ (ဝါ-ဟဒယဿ= ဆင်းမှုက်ပဒု ကျောပြင်ပုံတည်း ကြာငုံအောက်ရှု ဉာဏ်ရှိသူဝယ် စဉ်းငယ်ပွင့်တုံ, စုငုံမန္ဒ အပသန့်ရှင်း တွင်းသပွတ်ဆူ နှစ်ဆူဓာတ်မှီ နီသည်ရာဂ, ဒေါသမည်းငြား, သားဆေးရည်မောဟ, တဏှာပဲရည်, ဝါသည်သဒ္ဓါ, ပညာပွိုးပြတ် ဓာတမြက်သွင် ဖြူစင်လွန်ကဲ လက် ဆုံ့ခွဲမျှ လောဟိတသည့် ပုန္နာဂဝဋ္ဋိတွင်းမှာရှိလတ် သားမြတ်လယ်ဗွေ ရင်မှာနေသော နှလုံးသားဖြင့်။ ပူရော= ရှုံ့ဖွယ်လိလိပြည့်၍နေ၏)။

ပပ္ဖာသဿ=အဆုပ်အစုဖြင့်။ ပူရော=ပြည့်၏။(ဝါ-ပပ္ဖာသဿ= ရှမ်းမှည့်သဖန်း နီမြန်းဆင်းပန် သဏ္ဌာန်စုတ်ပဲ့ မုန့်ယှက်ကဲ့နှုန်း သည်းနှလုံးကို အုပ်ဖုံးတွဲရရွဲ အစာနဲက ထန်ကဲတေဇာ ပူလောင် လာ၍ ဩဇာမကပ် နွားဒ ါးဖတ်နှယ် သုံးဆယ်နှင့်နှစ် အသားတစ် ဟူသော အဆုပ်အစုဖြင့်။ ပူရော= ရှုံ့ဖွယ်လိလိ ပြည့်၍နေ၏)။

ဝက္ကဿ=အညို့နှစ်ခုဖြင့်။ ပူရော=ပြည့်၏။ (ဝါ-ဝက္ကဿ= ကသစ်စေ့နှယ် စဉ်းငယ်နီမှု တန္တုတည့်ာ နှစ်မြွာသရက် လည်မှ သက်သည့် ဟချက်နှစ်ခု ကျောဖွဲ့ပြုလျက် ဝတ္တုပတ်လည် ရံ၍တည် သောအညို့နှစ်ခုဖြင့်။ ပူရော=ရှုံ့ဖွယ်လိလိပြည့်၍နေ၏)။

ပိဟကဿ စ=အဖျဉ်းဖြင့်ယည်း။ ပူရော=ပြည့်၏။ (ဝါ-ပိဟ ကဿ စ=ကြောင်ပန်းပွင့်သွင် ညိုရောင်ထင်သော သတ္တဂုံလာ နွား

ရှာပုံတု ဝတ္ထုဝဲဘက် သရက်ရွက်ဝမ်းလျာ ဘေသညာ တွင်သော အဖျဉ်းအစုဖြင့်လည်း။ ပူရော= ရှုံ့ဖွယ်လိလိပြည့်၍နေ၏)။ (၃)

အယံ ကာယော=သဝိညာဏက ဤခန္ဓာကိုယ်သည်။ သိဃ်ာဏိကာယ=နှပ်အစုဖြင့်။ ပူရော=ပြည့်၏။ (ဝါ-သိဃ်ာဏိကာယ=ငိုယိုသောက်စားမာက်ချောက်ချား၍ ဖောက်ထားသိမ်းအုပ်ကြွာ ရွက်ထုပ်မှ နို့ခမ်းကျသို့ နုလှထန်းဆန် ဆင်းဟာန်မယုတ် သလိပ်ပုပ် အဖြစ် စင်စစ်ဖြစ်မြောက် ဦးနှောက်ရည်လျှင်း ဦးခေါင်းတွင်းမှ သက်ဆင်းအာစောက် အထက်ပေါက်ဖြင့် လျှောလျှောက်နှာဖူ တည်ယိုစုသော နှပ်အစုဖြင့်။ ပူရော=ရွံ့ဖွယ်လိလိပြည့်၍နေ၏)။

ခေဠဿ=တံထွေးဖြင့်။ ပူရော=ပြည့်၏။(ဝါ-ခေဠဿ=ချဉ်,ငန်, စပ်, ခါးမြင်, စား, ကြံမိ စိုစိ စက်ဆုပ် နှလုံးလှုပ်၍ ရေမြှုပ်မယွင်း ပါးမှဆင်းလျက် လျှာရင်းပြစ်ခွဲ လျှာဖျားကဲ့သည်လျှာ၌တည်သော တံထွေးဖြင့်။ ပူရော=ရွံ့ဖွယ်လိလိပြည့်၍နေ၏)။

သေဒဿ စ=ချွေးဖြင့်လည်း။ ပူရော=ပြည့်၏။ (ဝါ-သေဒဿ စ ခာတ်ဝိပရိ ပူမညီ၍ နှမ်းဆီအဆင်း ဆံမွေးတွင်းမှ သက်ဆင်းယိုကျ သောချွေးဖြင့်လည်း။ ပူရော=ရှုံ့ဖွယ်လိလိပြည့်၍နေ၏)။

မေဒဿ စ=အဆီခဲအစုဖြင့်လည်း။ ပူရော= ပြည့်၏။ (ဝါ-မေဒဿ စ=ထက်ခြမ်းခွဲသည့် နနွင်းခဲတူ ဆူသောသူအား ရေသား ကြား၌, ကြံသူအားမှာ ဆူရာရာမှီသော အဆီခဲဖြင့်လည်း။ ပူရော= ရှုံ့ဖွယ်လိလိပြည့်၍နေ၏)။

လောဟိတဿ=သွေးဖြင့်။ ပူရော=ပြည့်၏။(ဝါ-လောဟိတဿ =ချိပ်ရည်အဆင်း တခွက်ခင်းမျှ ရင်တွင်းဆုပ်ညှို့ နှလုံးတို့ထက် တစက်စက်ကျယကနအောက်နေ ဤလေးထွေကို စိုစေလျက်စုဝေး သောသွေး(သန္နိစိတ သွေးကိုဆိုလိုသည်), ကျဲသောချိပ်ရည် ပမည် ပိုက်ကျုံး ကိုယ်လုံးနှံ့ရောက် အကြောလျှောက်သော သွေး (သံသရဏ သွေးကို ဆိုလိုသည်) အားဖြင့် နှစ်ပါးသော သန္နိစိတ, သံသရဏသွေးအစုဖြင့်။ ပူရော=ရှုံ့ဖွယ်လိလိ ပြည့်၍နေ၏)။

လသိကာယ=အစေးပုပ်ဖြင့်၊ပူရော=ပြည့်၏။ (ဝါ-လသိကာယ=မဟာလေကား စေးလားသဖွယ် ရော့ရှစ်ဆယ်ဆက် အရိုးဆက်၌ ဆွတ်လျက်တည်နဲ ပြစ်ရှဲခွဲသော အစေးပုပ်ဖြင့်။ပူရော= ရွံဖွယ်လိလိ ပြည့်၍နေ၏)။

ပိတ္တဿ စ=သည်းခြေဖြင့်လည်း၊ ပူရော=ပြည့်၏။ (ဝါ-ပိတ္တဿ စ= ဆုပ်နှလုံးကြားအသည်းနား၌ ထွားထွားကြီးကြီး သပွတ်သီးနှယ် အအိမ်ဝယ်တည် မည်စည်ဆိကဲ့ အိမ်ဖွဲ့သည်းခြေ(ဗဒ္ဓသည်းခြေကို ဆိုလိုသည်), စိုလေရာရာ ရေမှာဆီဆမ်း ပဟာလှမ်းသား ညှိုးနွမ်းပျဉ်း ပွင့် ကစော့ပွင့် တောင်ကြာ ပန်းဆင်းဝါသို့ အိမ်မှာ မနေ (အဗဒ္ဓသည်းခြေကို ဆိုလိုသည်) နှစ်ပါးသော ဗဒ္ဓသည်းခြေ, အဗဒ္ဓသည်း ခြေဖြင့်လည်း။ ပူရော=ရွံဖွယ်လိလိ ပြည့်၍နေ၏)။

ဝသာယ စ=ဆီကြည်ဖြင့်လည်း။ ဝါ-ခြင်ဆီဖြင့်လည်း။ ပူရော= ပြည့်၏။ (ဝါ-ဝသာယ စ=သဘောမတူ ရှိန်ပူဆာလျှင်း နှိပ်စက် ခြင်းကြောင့် အဆင်းအုန်းဆီ ရေပေါ်ဆီသဏ္ဍာန် ပြည့်ဟန်မသွေ လက်,ခြေ,နှာစွန်း ပခုံးစွန်းမှီ ခြင်ဆီဖြင့်လည်း။ ပူရော=ရွံဖွယ်လိလိ ပြည့်၍နေ၏)။ (၄)

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် အန္တပူရော စသော နှစ်ဂါထာတို့ဖြင့် “ဤကိုယ်အတွင်း၌ ပုလဲ ပတ္တမြား-စသည်အတူ အမြတ်တနိုး ယူလောက်သည့် ကောဋ္ဌာသဟူ၍ မြူမျှမရှိ၊ စင်စစ်သော်ကား ဤကိုယ် ကောင်သည် မစင်မကြယ် ရွံဖွယ်တို့ဖြင့်သာလျှင် ပြည့်၍နေ၏”ဟု ကိုယ် တွင်း၌ဖြစ်သော ရွံရှာဖွယ်ကို ပြတော်မူပြီး၍ ထိုကိုယ်တွင်း၌ ဖြစ်သော ရွံရှာဖွယ်ကိုပင် အပ၌ ဖြစ်သော ရွံရှာဖွယ်ဖြင့် ထင်စွာပြ၍ ရှေး၌ဆိုပြီး, မဆိုရသေးသည်ကိုပါ သိမ်းရုံး၍ ပြတော်မူလိုရကား ဤဆိုလတ္တံ့သော နှစ်ဂါထာကို ဟောတော်မူသည်။

(၅) အထဿ နဝဟိ သောတေဟိ
အသုစီ သဝတိ သဗ္ဗဒါ။
အက္ခိမှာ အက္ခိဂူထကော
ကဏ္ဏမှာ ကဏ္ဏဂူထကော။

(၆) သိင်္ဃာဏိကာ စ နှာသတော
မုခေန ဝမတေကဒါ။
ပိတ္တံ သေမှဉ္စ ဝမတိ
ကာယမှာ သေဒဇလ္လိကာ။

အထ=ထိုမှတပါး။ အဿ ကာယဿ=သဝိညာဏက ခေါ်ဆို ဤခန္ဓာကိုယ်၏။ နဝဟိ သောတေဟိ=ကိုးပေါက်ဒွာရ အမာဝတို့မှ။ သဗ္ဗဒါ=နေ့နေ့ညည ခပ်သိမ်းသော ကာလ၌။ အသုစိ=မစင်မကြယ် ရွံ့ရှာဖွယ်အစုသည်။ သဝတိ=တားမရ ဆီးမရ ယိုစီး၍ကျ၏။(ကိ သဝတိ=အဘယ်သို့ ယိုစီး၍ ကျသနည်းဟူမူ)။အက္ခိမှာ=မျက်စိနှစ်ဘက်မှ။အက္ခိဂူထကော=မျက်ဝတ် မျက်ချေး အညစ်အကြေးသည်။ သဝတိ=တားဆီးမရ ယိုစီး၍ကျ၏။ ကဏ္ဏမှာ =နားတွင်းနှစ်ဘက်မှ။ ကဏ္ဏဂူထကော = နဖာနားချေး အညစ်အကြေးသည်။ သဝတိ=တားဆီးမရ ယိုစီး၍ ကျ၏။ (၅)

သိင်္ဃာဏိကာ စ = နှာရေ နှပ်ချေး အညစ် အကြေး သည်လည်း။ ကေဒါ=တရံတခါ။ နှာသတော=နှာခေါင်းနှစ်ဘက်မှ။ သဝတိ=တားဆီးမရ ယိုစီး၍ကျ၏။ ကေဒါ=တရံတခါ။ မုခေန=ခံတွင်းဖြင့်။ ဝါ-ခံတွင်းမှ။ ဝမတိ=တစိစိ တပွက်ပွက် ပျို့အန်၍ ထွက်၏။ ပိတ္တဉ္စ=ဗဒ္ဓ,အဗဒ္ဓ နှစ်ဝသောသည်းခြေသည်လည်းကောင်း။သေမှဉ္စ=သလိပ်သည် လည်းကောင်း။ (ဝါ-သေမှဉ္စ=ဝက်ချေးဘနဲ ပြစ်ခွဲရွက်ရည် ပုံပမည်သို့ ဖြူသည်အဘင်း တခွက်ခင်းမျှ အူတွင်းစာထက် စာနံ့သက်ကို ဆို့လျက် ဖုံးပိတ်သော သလိပ် အညစ်အကြေးသည် လည်းကောင်း)။ကေဒါ=တရံတခါ။ မုခေန=ခံတွင်းဖြင့်။ဝါ-ခံတွင်းမှ။ ဝမတိ=တစိစိ တပွက်ပွက် ပျို့အန်၍ ထွက်၏။ ကာယမှာ=ကိုယ်အလုံးမှ။ သေဒဇလ္လိကာ=ချွေး, ဆား, အရေလွှာ, မြူ အညစ်အကြေးသည်။သဗ္ဗဒါ=နေ့နေ့ညည ခပ်သိမ်းသောကာလ၌။သဝတိ=တားဆီးမရ ယိုစီး၍ ကျ၏၊ (၆)

(ဤ၌။ ။ဝစ္စမဂ်မှ ကျင်ကြီး, ပဿာဝမဂ်မှ ကျင်ငယ်တို့ ယိုစီး၍ ကျမှုကို လူအသိများ ထင်ရှားသောကြောင့် လည်းကောင်း။အခါ,

ပုဂ္ဂိုလ်ပရိသတ်ကို သိတော်မူသောကြောင့် လည်းကောင်း မြတ်စွာဘုရားရှင်သည် အထူးဟောတော်မမူပဲ အခြား တနည်းတဖုံအားဖြင့် တကိုယ်လုံးမှပင် မစင်မကြယ် ရွံရှာဖွယ်တို့သာ ယိုစီး၍ကျသည်ကို ပြတော်မူလိုသောကြောင့် "ကာယမှာ သေဒဇလ္လိကာ"ဟု ချုပ်၍ ပြတော်မူသည်။

ထိုဖော်ပြရာပါ နှစ်ဂါထာတို့ဖြင့် မြတ်စွာဘုရားရှင်သည် ထမင်းချက်လျှင် ဆန်ရေ အညစ်အကြေးများသည် အမြှုပ်နှင့်တကွ တက်ပြီးလျှင် ထမင်းအိုး မျက်နှာဝကို လိမ်းကျံ၍ အပသို့ လျှောကျသကဲ့သို့ ထိုအတူ စားသောက်အပ်သော အစာကို ကမ္မဇတေဇောဓာတ်မီးဖြင့် ချက်အပ်သည်ရှိသော် အစာ၏ အညစ်အကြေးများ တက်ပြီးလျှင် မျက်စိစသည်မှ မျက်ဝတ် မျက်ချေးစသော အညစ်အကြေးတို့ထွက်၍ အပသို့ ယိုစီး လျှောကျကြောင်းကို ပြတော်မူသည်)။ ၊

ယခုအခါ လောက၌ အမြတ်ဆုံးအင်္ဂါဟူ၍ သမုတ်အပ်သော အကြင်ဦးခေါင်းသည် ရှိ၏။ အလွန်ထွတ်မြတ်သောကြောင့်ပင် ယင်းဦးခေါင်းအင်္ဂါဖြင့် ခိုက်၍ ရှိခိုးထိုက်သော သူတို့အားသော်မှလည်း (မာနခံကာ တရံတခါ) ရှိခိုးမှုကို မပြုကြကုန်။ ထို ဦးခေါင်းအင်္ဂါ၏လည်း အနှစ်မရှိသည်၏အဖြစ် မစင်ကြယ်သည်၏အဖြစ်ဖြင့် ဤခန္ဓာကိုယ်၏ မစင်မကြယ် ရွံရှာဖွယ်အဖြစ်ကို ပြတော်မူလိုပြန်သောကြောင့် ဤဂါထာကို ဟောတော်မူ၏။

(၇) အထဿ သုသိရံ သီသံ
မတ္ထလုင်္ဂဿ ပူရိတံ။
သုဘတော နံ မညတိ ဗာလော
အဝိဇ္ဇာယ ပုရက္ခတော။

အထ=ထိုမှတပါး။ အဿ ကာယဿ=သဝိညာဏက ခေါ်ဆို ဤခန္ဓာကိုယ်၏။ သုသိရံ=အခေါင်းရှိသော။ သီသံ=ဦးခေါင်းသည်။ မတ္ထလုင်္ဂဿ=ဦးနှောက်ဖြင့်။ (ပါ-မတ္ထလုင်္ဂဿ = ဦးခွံထဲချောင်မှို့ခဲလှောင်သို့ ဆင်းဖျောင်ဖြူစွာ ဦးချာရွှေဆက် လေးပုံဝက်သည့်

မုန့်ညက်စိုင်အတု ဦးနှောက်အစုဖြင့်)။ ပုရိတံ=ရှံ့ဖွယ်လိလိ ပြည့်၍နေ၏။ ဗာလော=ပညာအန္ဓ လူ့ဗာလသည်။ နံ=ထိုမစင်မကြွယ် ရှံ့ဖွယ်အတိ ပြည့်၍နေသော ကိုယ်ကို။ အဝိဇ္ဇာယ=အဝိဇ္ဇာတရားသည်။ ဝါ-အဝိဇ္ဇာတရားဖြင့်။ ပုရက္ခတော=ရှေးရှုပတ်ကုံး ဖုံးလွှမ်းပိတ်ပင်အပ်သည်ဖြစ်၍။ ဝါ-ပိတ်ပင်အပ်သောကြောင့်၊ သုဘတော=ငါ့ကိုယ်ကာယ တင့်တယ်စွ၊ ငါတင့်တယ်စွ၊ ငါ၏ တင့်တယ်ခြင်းကား နိစ္စဟူ၍။ မညတိ=တဏှာ, မာန, ဒိဋ္ဌိ အားဖြင့် အမှားမှားပင် မှတ်ထင် အောက်မေ့၏။

သဝိညာဏက အသုဘခဏ်း ပြီး၏။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် သဝိညာဏက (သက်ရှိ) အသုဘခဏ်းကို ပြတော်မူပြီး၍ ယခုအခါ အဝိညာဏက (သက်မဲ့) အသုဘကို ပြတော်မူအံ့သောငှာ (တနည်း) စကြာမင်း၏ ကိုယ်ပင် သော်လည်း ဆိုအပ်ပြီးသော အပုပ်အတိ ပြည့်သည်သာတည်း။ ထို့ကြောင့် ခပ်သိမ်းသော အပြားအားဖြင့် ပြည့်စုံစွာ ဖြစ်ခြင်းတည်းဟူသော သမ္ပတ္တိဘဝ၌ အသုဘကို ပြတော်မူပြီး၍ ယခုအခါ ပျက်စီးခြင်းတည်းဟူသော ဝိပတ္တိဘဝ၌ အသုဘကို ပြတော်မူအံ့သောငှာ ဤဂါထာကို ဟောတော်မူ၏။

(၈) ယဒါစ သော မတော သေတိ
ဥဒ္ဓုမာတော ဝိနီလကော။
အပဝိဒ္ဓေါ သုသာနသ္မိံ
အနပေက္ခာ ဟောန္တိ ဉာတယော။

ယဒါစ=အကြင်အခါ၌ကား။ သော ကာယော=ထိုကိုယ်သည်။ (အာယုဥသ္မာဝိညာဏာပဂမေန=ရုပ်နာမ်ဇီဝိတ, ကမ္မဇတေဇော, စိတ်ဝိညာဏ် တည်းဟူသော သုံးပါးသော တရားတို့ကင်းသဖြင့်)။ မတော=စုတိပြတ်ကြွေ သေလွန်သည်ဖြစ်၍။ ဥဒ္ဓုမာတော=သေသည်မှ အထက်၌ လေပြည့်သော သားရေအိတ်ကဲ့သို့ ဖူးဖူးရောင်ပွ

လျက်။ ဝိနီလကော=နဂိုရ်အဆင်း ပျက်ယွင်းယုတ်ယို မည်းညိုသော အဆင်းရှိသည်ဖြစ်၍။ သုသာနသ္မိ=သုကောင်ပစ်ချ သုသာန်တစ သင်းချိုင်းဝ၌။ အပဝိဒ္ဓော=စွန့်ပစ်အပ်သည်ဖြစ်၍။ သေတိ=မသာ ခေါင်းဝယ် လျောင်းရလေ၏။ တဒါ=ထိုအခါ၌၊ ဉာတယော= မသေမီခါ ချစ်လှစွာသည့် ဆွေဉာတိရင်း မိတ်ခပင်းတို့သည်။ အနပေက္ခာ="ထိုသူ့တဖန် ပြန်၍ အသက်မဆက်တော့ပြီ မှန်လှသည်" ဟု ရှုယ်ရည် ရိုးရင်း အပြီးတိုင် ငဲ့ကွက်ခြင်း ကင်းကြကုန်သည်။ ဟောန္တိ=ဖြစ်ကုန်၏။

[ဤဂါထာ၌]။ ။"မတော=စုတိပြတ်ကြွေ သေလွန်"ဟူသော စကားရပ်ဖြင့် မမြဲသော အနိစ္စသဘောကို ပြတော်မူ၏။ "သေတိ= မသာခေါင်းဝယ် လျောင်းရလေ၏"ဟူသော စကားရပ်ဖြင့် ထိုသူ၏ လုံ့လဝီရိယ လုံးဝမရှိတော့သည်ကို ပြတော်မူ၏။ ထိုနှစ်ပါးစုံဖြင့် အသက်ရှင်မှုကို စွဲ၍ဖြစ်သော စိတ်တက်ကြွမှု=ဇီဝိတမာန်, အင်အား ကောင်းမှုကို စွဲ၍ဖြစ်သော စိတ်တက်ကြွမှု=ဗလမာန်=ဤမာန်နှစ်ပါး ကို ပယ်ရှားရန် တိုက်တွန်းတော်မူသည်။

"ဥဒ္ဓုမာတော=ဖူးဖူးရောင်ပွ" ဟူသော စကားရပ်ဖြင့် ပုံပန်း သဏ္ဌာန်ပျက်စီးခြင်းကို ပြတော်မူ၏။ "ဝိနီလကော=မည်းညိုသော အဆင်းရှိသည်ဖြစ်၍"ဟူသောစကားရပ်ဖြင့် ပင်ကိုယ်ကရှိရင်းအရေ အဆင်းတို့၏ ပျက်စီးခြင်းကို ပြတော်မူ၏။ ထိုနှစ်ပါးစုံဖြင့် ရုပ်ရည် အဆင်းတင့်တယ်လှပခြင်းကိုစွဲ၍ဖြစ်သော စိတ်တက်ကြွမှု=မာန်မာန ကို ပယ်ရှားရန် (နှင့်) ပုံပန်းသဏ္ဌာန် တင့်တယ်လှပမှုကိုစွဲ၍ ဖြစ် သော စိတ်တက်ကြွမှု=မာန်မာနကို ပယ်ရှားရန် တိုက်တွန်းတော် မူ၏။

"အပဝိဒ္ဓော=ပယ်စွန့်အပ်သည်ဖြစ်၍"ဟူသောစကားရပ်ဖြင့် ယူ စရာ ရစရာ ဘာမျှ မရှိတော့သည်ကို ပြတော်မူ၏။ "သုသာနသ္မိ= သုသာန်တစ သင်းချိုင်းဝ၌" ဟူသော စကားရပ်ဖြင့် အိမ်တွင်း၌ ထားရန် မထိုက်ထန်အောင်ပင် စက်ဆုပ်ရွံရှာဖွယ်အဖြစ်ကို ပြတော်

မှု၏။ ထိုနှစ်ပါးစုံဖြင့် ငါ့ဥစ္စာဟု စွဲလမ်းမှုကို ပယ်ရှားရန် (နှင့်) သုဘ=တင့်တယ်သည်ဟု မှတ်ထင်မှုကို ပယ်ရှားရန် ဘိုက်တွန်းတော်မူ၏။

"အနပေက္ခာ ဟောန္တိ ဉာတယော=ဆွေမျိုး မိတ်သင်္ဂဟ တို့က အပြီးတိုင် ငဲ့ကွက်ခြင်းကင်းကြသည်" ဟူသော စကားရပ်ဖြင့် မိမိကို ရှေးက မြတ်နိုးမှုပြုခဲ့ကြသော ဆွေမျိုးမိတ်သင်္ဂဟတို့က မြတ်နိုးမှု မပြုကြတော့ခြင်းကို ပြတော်မူ၏။ ယင်းသို့ ပြသဖြင့် အခြံအရံများမှုကို စွဲ၍ဖြစ်သော စိတ်တက်ကြွမှု=ပရိဝါရမာန်ကို ပယ်ရှားရန် တိုက်တွန်းတော်မူ၏။

ဤသို့လျှင် မြတ်စွာဘုရားရှင်သည် ဤဂါထာဖြင့် အကောင်မပျက်သေးသော အဝိညာဏက (သက်မဲ့)အသုဘကို ပြတော်မူ၏။

ယခုအခါ အကောင်ပျက်စီးသော အဝိညာဏက (သက်မဲ့)အသုဘကို ပြတော်မူလို၍ ဤဂါထာကို ဟောတော်မူ၏။

(၉) ခါဒန္တိ နံ သုဝါနာ စ
သိင်္ဂါလာ စ ဝကာ ကိမီ။
ကာကာ ဂိဇ္ဈာ စ ခါဒန္တိ
ယေ စညေ သန္တိ ပါဏိနော။

နံ ကာယံ=ထိုသုသာန်တစ သင်းချိုင်းဝ၌ ပစ်ချအပ်သော ကိုယ်ကို၊ သုဝါနာ စ=အိမ်ခွေးတို့သည် လည်းကောင်း။ သိင်္ဂါလာ စ=မြေခွေး (တောခွေး) တို့သည်လည်းကောင်း။ ဝကာ=သစ်ကျွတ်တို့သည် လည်းကောင်း။ ကိမီ=ပိုးလောက် တို့သည် လည်းကောင်း။ ခါဒန္တိ=ခဲစားကြကုန်၏။ ကာကာ စ=ကျီးတို့သည် လည်းကောင်း။ ဂိဇ္ဈာ စ=လင်းတတို့သည် လည်းကောင်း၊ ခါဒန္တိ=ခဲစားကြကုန်၏၊ အညေ=ဆိုအပ်ပြီးသည်မှ တပါးကုန်သော။ ယေ စ ပါဏိနော=အကြင်အသားစား သစ်,ကျား,သိန်း,စွန်-စသော သတ္တဝါတို့သည် လည်း။ သန္တိ=ရှိကုန်၏။ တေ စ ပါဏိနော=ထိုသတ္တဝါ တို့သည် လည်း။ ခါဒန္တိ=ခဲစားကြကုန်၏။

အဝိညာဏက အသုဘခဏ်း ပြီး၏။

ဤသို့လျှင်“စရံ ဝါ ယဒိ ဝါ တိဋ္ဌံ”စသောပထမဂါထာဖြင့် သုညတကမ္မဋ္ဌာန်း၏ အစွမ်းဖြင့်လည်းကောင်း, “အဋ္ဌိနဟာရုသံယုတ္တော” အစရှိသော ၆-ဂါထာတို့ဖြင့် သဝိညာဏက အသုဘ၏အစွမ်းဖြင့် လည်းကောင်း, “ယဒါ စသော မတော သေတိ ” အစရှိသော ၂-ဂါထာတို့ဖြင့် အဝိညာဏက အသုဘ၏ အစွမ်းဖြင့်လည်းကောင်း ဤကိုယ်၏ သဘောကိုပြပြီးလျှင် ဤသို့စင် န္ဗ္တ, သုခ, အတ္တအဖြစ်မှ ဆိတ်သုဉ်းသော စင်စစ်အသုဘဖြစ်သော ဤကိုယ်၌ “အဝိဇ္ဇာဖုံးလွှမ်းသော သူမိုက်သည် သုဘဟု အောက်မေ့ထင်မှတ်ဘိ၏” ဟု သူမိုက်၏ ဖြစ်ပုံကို ပြလျက် အဝိဇ္ဇာကို အဦးမူသဖြင့် ဝဋ္ဋကိုပြပြီးလျှင် ယခုအခါ ထိုသို့ သဘောရှိသောကိုယ်၌ ပညာရှိ၏ ဖြစ်ပုံကိုလည်းကောင်း, ပရိညာသုံးပါးကိုအဦးမူသဖြင့် ဝိဝဋ္ဋကိုလည်းကောင်း ပြတော်မူခြင်းငှာ မြတ်စွာဘုရားရှင်သည် ဤဂါထာတို့ကို ဟောတော်မူ၏။

(၁၀) သုတွာန ဗုဒ္ဓဝစနံ
ဘိက္ခု ပညာဏဝါ ဣဓ။
သော ခေါ နံ ပရိဇာနာတိ
ယထာဘူတဉှိ ပဿတိ။

ဣဓ=အံ့ဖွယ်ရှစ်ဖြာ ဤသာသနာ၌။ ဗုဒ္ဓဝစနံ=မြတ်စွာဘုရားစကားတော်ဖြစ်သော ဤဝိဇယသုတ် (တနည်း-ကာယဝိစ္ဆန္ဒနိကသုတ်) ဒေသနာတော်ကို။ သုတွာန=အသင့်အားဖြင့် နာကြားရသောကြောင့်။ ပညာဏဝါ=ဝိပဿနာ ဉာဏ်ပညာနှင့် ပြည့်စုံသော။ သောဘိက္ခု=ထိုပုထုဇန်, သေက္ခရောဂါဝစရ ရဟန်းသည်။ ဟိ-ယသ္မာ=အကြင်ကြောင့်၊ ယထာဘူတံ = ဟုတ်မှန်သောအတိုင်း။ ပဿတိ = ဝိပဿနာ ဉာဏ်ပညာစက္ခုဖြင့် ရှုမြင်၏။ တသ္မာ= ထို့ကြောင့်။ နံ ကာယံ= ထိုကိုယ်ကို။ ပရိဇာနာတိ=ဉာတ, တီရဏ, ပဟာနအား ပရိညာသုံးပါးဖြင့် ပိုင်းခြားထင်ထင် သိမြင်လေ၏။

ဤအရာ၌ ပရိညာသုံးပါးဖြင့် ဤကိုယ်ကိုသိပုံမှာ

လိမ်မာသောကုန်သည်သည် မိမိဝယ်ယူမည့် ဘဏ္ဍာအမျိုးမျိုးကို သေချာစေ့ငု ကြည့်ရှုပြီးမှ၊ "အဖိုး ဤမျှဖြင့် ဝယ်ယူလျှင် အမြတ် အစွန်း ဤမျှဖြစ်လိမ့်မည်"ဟု ရှေးဦးစွာ ဉာဏ်ဖြင့် နှိုင်းချိန် စဉ်းစား၍ ထိုသို့နှိုင်းချိန်စဉ်းစားတိုင်း ပြုပြီးလျှင် တဖန် အမြတ် အစွန်းနှင့် တကွ အရင်းဥစ္စာကိုယူလျက် ထိုဘဏ္ဍာကို ရောင်းချစွန့်လွှတ်သကဲ့သို့ ဤအတူပင် ပုထုဇဉ်, သေက္ခ ယောဂါဝစရ ရဟန်းသည် "ဤကိုယ်၌ တကယ်စင်စစ် ရှိနေသောတရားတို့ကား (ပါဠိတော်၌ တိုက်ရိုက်ထုတ်ဖော် ဟောပြတော်မူအပ်သော) အရိုး အကြော စသည် (ပါဠိတော်၌တိုက်ရိုက် မဟောအပ်သော) ဆံပင် မွေးညှင်း စသည်တို့သာတည်း" ဟု ဉာဏ်ပညာစက္ခုဖြင့် ကြည့်ရှုဆင်ခြင်သော အခါ ဉာတပရိညာဖြင့် ဤကိုယ်ကို ပိုင်းခြား၍ သိ၏။ ။ဤကိုယ်၌ ရှိကြသောတရားတို့ကား အနိစ္စ, ဒုက္ခ, အနတ္တ တရားတို့သာတည်းဟု ဝိပဿနာ ဉာဏ်ပညာစက္ခုဖြင့် ကြည့်ရှုသုံးသပ် ဆုံးဖြတ်သောအခါ တီရဏပရိညာဖြင့် ဤကိုယ်ကို ပိုင်းခြား၍သိ၏။ ဤသို့ "အနိစ္စ, ဒုက္ခ, အနတ္တတရားတို့သာတည်း"ဟု ဝိပဿနာ ဉာဏ်ပညာ စက္ခုဖြင့် ကြည့်ရှုသုံးသပ် ဆုံးဖြတ်၍ အရိယမဂ်သို့ဆိုက်ရောက်သောအခါ ဤကိုယ်ခန္ဓာ၌ တွယ်တာ တပ်မက်မှု= ဆန္ဒရာဂကို ပယ်စွန့်သော အားဖြင့် ဤကိုယ်ကို ပဟာနပရိညာဖြင့် ပိုင်းခြား၍ သိ၏။

[ဤ၌။ ။သူခပ်သိမ်းအားပင် မျက်မြင်ထင်ရှားဖြစ်သော ဤ ကိုယ်ကို (ယင်းသို့ မျက်မြင်ထင်ရှား ဖြစ်လင့်ကစား ဘုရား စကား တော်ကို မကြားနာရလျှင် သုညတ-စသော အခြင်းအရာကို ပရိညာ သုံးပါးဖြင့် ပိုင်းခြား၍ မသိနိုင်သောကြောင့်လည်းကောင်း, ဘုရား စကားတော်ကို ကြားနာရမှသာ သိနိုင်သောကြောင့်လည်းကောင်း ထိုသုညတ-စသောအခြင်းအရာကို ပရိညာသုံးပါးဖြင့်ပိုင်းခြား၍ သိ ခြင်း၏ အကြောင်းကို လည်းကောင်း, ဤသာသနာတော်မှ ပြင်ပ ဗာဟိရက အယူရှိကြသူတို့မှာ ဤသို့ရှုမြင်ခြင်းငှာ မစွမ်းနိုင်သည် ၏ အဖြစ်ကိုလည်းကောင်း ပြတော်မူလို၍ (သုက္ခာန ဗုဒ္ဓဝစနံကလမ- ဟူသော) ဤစကားရပ်တို့ကို ဟောတော်မူ၏။

နန္ဒာထေရီ ဘိက္ခုနီမကိုလည်းကောင်း, သိရိမာ၏ ရုပ်အဆင်း၌ တပ်စွန်း ဖောက်ပြန်သော စိတ်ရှိသည့် ရဟန်းကို လည်းကောင်း အကြောင်းပြု၍ ဤယခု ဝိဇယသုတ္တန် (တနည်း ကာယဝိစ္ဆန္ဒနိက သုတ္တန်) ဒေသနာတော်ကို ဟောကြား အပ်သောကြောင့် လည်းကောင်း, ပရိသတ်လေးပါးတို့တွင် ရဟန်းပရိသတ်က အမြတ်ဖြစ်သောကြောင့်လည်းကောင်း,ထိုရဟန်းပရိသတ်ကသာ ဘုရားအနားနီးပါး စွဲမြဲသောကြောင့်လည်းကောင်း,ထိုအသုဘဟု ရှုသောအကျင့်ပဋိပတ် အနိစ္စ,ဒုက္ခ,အနတ္တဟုရှုသော အကျင့်ပဋိပတ်သို့ဆိုက်ရောက်သူမှန်က ရဟန်းရှင်လူ မည်သူမဆို "ဘိက္ခု"မည်သည်၏ အဖြစ်ကို ပြတော်မူလိုသောကြောင့်လည်းကောင်း ဘိက္ခု-ဟူ၍ ဟောတော်မူ၏။ ရဟန်းများမှသာ ပရိညာသုံးပါးဖြင့် သိကောင်းသောကြောင့် ဘိက္ခု-ဟုဟောတော်မူသည်မဟုတ်။ ဤအနက် အဓိပ္ပာယ်ကိုလည်း အထူးမှတ်ယူရာ၏]။

ယခုအခါ မြတ်စွာဘုရားရှင်သည် "ယထာဘူတဉ္စ ပဿတိ"ဟူသော စကားအရ ယထာဘူတ အဟုတ် အမှန်ကျအောင် ရှုကြည့်ပုံကို ပြတော်မူလို၍ ဤဂါထာကို ဟောတော်မူ၏။

(၁၁) ယထာ ဣဒံ တထာ ဧတံ
ယထာ ဧတံ တထာ ဣဒံ။
အဇ္ဈတ္တဉ္စ ဗဟိဒ္ဓါ စ
ကာယေ ဆန္ဒံ ဝိရာဇယေ။

ဣဒံ သဝိညာဏကကာယဘံ = ဤသက်ရှိ အသုဘ ကောင်သည်။ (အာယုဥသ္မာဝိညာဏာနုပဂမာ=ရုပ်နာမ် ဇီဝိတ, ကမ္မဇတေဇော, စိတ်ဝိညာဏ် တည်းဟူသော သုံးပါးသော တရားတို့ မကင်းခြင်းကြောင့်။ စရတိ တိဋ္ဌတိ နိသီဒတိ သယတိ ယထာ=သွား,ရပ်,ထိုင်, လျောင်းသကဲ့သို့)။ တထာ=ထို့အတူ။ ဧတံ-ဧတရဟိ သုသာန သယိ ဘမ္ဘိ=ယခုသုသာန်၌လျောင်းသည့် အသက်မဲ့ အသုဘကောင်သည့်သည်း။ (ပုဒ္ဒွ=ခုသေဒိ ခုချုံးအခါက၊ ဧတသံ=ထိုဘ ရားသုံးမျိုး

တို့၏။ အနပဂမာ = မကင်းခြင်းကြောင့်။ စရဏာဒိဓမ္မ=သွား, ရပ်, ထိုင်, လျောင်းခြင်းသဘောရှိသည်။ အဟောသိ=ဖြစ်ခဲ့လေပြီ)။

တေ တေရဟိ မတသရီရံ = ယခု သေသော ထို အဝိညာဏက အသုဘအကောင်သည်။(တေသံ ဓမ္မာနံ=ထိုဆိုအပ်ပြီးတရားသုံးမျိုးတို့၏။ အပဂမာ=ချုပ်စဲ ပြတ်ကင်းခြင်းကြောင့်။ န စရဏာဒိဓမ္မံ ယထာ=သွား, ရပ်, ထိုင်, လျောင်းခြင်း သဘော မရှိသကဲ့သို့)။ တထာ=ထို့အတူ။ ဣဒံ သဝိညာဏကမ္ပိ=ဤသဝိညာဏက အသုဘအကောင်သည်လည်း။(တေသံ ဓမ္မာနံ=ထိုဆိုအပ်ပြီး တရားသုံးမျိုးတို့၏။ အပဂမာ=ချုပ်စဲ ပြတ်ကင်းခြင်းကြောင့်။ န စရဏာဒိဓမ္မံ= သွား, ရပ်, ထိုင်, လျောင်းခြင်းသဘောမရှိသည်။ ဘဝိဿတိ=ဖြစ်လတ္တံ့)။

(တေ=ဤသို့။ ပဋိပန္နော = ကျင့်သော။ ဘိက္ခု =သံသရာဘေးခန္ဓာရေးကို ထောက်တွေး မြော်မြင် ပညာ့ရှင်သည်)။ အဇ္ဈတ္တဉ္စ ကာယေ=အတွင်းအဇ္ဈတ္တ ကိုယ်ကာယ၌လည်းကောင်း။ ဗဟိဒ္ဓါ စ ကာယေ=အပြင်ဗဟိဒ္ဓ ကိုယ်ကာယ၌လည်းကောင်း။ဆန္ဒံ=တွယ်တာငြိကပ် တပ်မက်ခြင်း ဆန္ဒရာဂကို။ ဝိရာဇယေ-ဝိရာဇေယျ=လေးပါးမဂ်ဉာဏ် သမုစ္ဆေဒပဟာန်ဖြင့် ပယ်လှန်ရှင်းကာ ကင်းကွာစေနိုင်ရာ၏။

[ဤဂါထာ၌-"ယထာ ဣဒံ တထာ ဧတံ=ဤ သက်ရှိ သဝိညာဏက ငါ၏ ကိုယ်ကဲ့သို့ပင် ထိုသက်မဲ့ အဝိညာဏက အသုဘကောင်သည်လည်း ရှေးကဖြစ်ခဲ့ဘူးလေပြီ"ဟု မိမိနှင့် သေသောသူကောင်ကို ထပ်မျှပြုကာ ရှုကြည့်ခြင်းဖြင့် အပြင်ဗဟိဒ္ဓ ကိုယ်ကာယ၌ (ဖြစ်မည့်) ဒေါသကိလေသာကို ပယ်၏။

"ယထာ ဧတံ တထာ ဣဒံ=ထို သေသော သူကောင် ကဲ့သို့ပင် ဤ ငါ၏သက်ရှိ သဝိညာဏက ကိုယ်ကောင်သည်လည်း နောက်တချိန်၌ ဖြစ်လိမ့်မည်" ဟု သေသောသူကောင်နှင့် မိမိကို ထပ်မျှပြုကာ ရှုကြည့်ခြင်းဖြင့် အတွင်းအဇ္ဈတ္တ ကိုယ်ကာယ၌ (ဖြစ်မည့်) ရာဂကိလေသာကို ပယ်၏။

အဇ္ဈတ္တဗဟိဒ္ဓ ကိုယ်ကာယနှစ်ပါးကို (တနည်း) သက်ရှိ သက်မဲ့ ကိုယ်ကာယနှစ်ပါးကို ထပ်မျှပြုကာ ရှုကြည့်နိုင်ကြောင်း ဖြစ်သော အခြင်းအရာကို ပညာဖြင့်သိရကား ထိုကိုယ်ကာယ နှစ်ပါး၌ သဘော သွားကို မသိခြင်း=မောဟ ကိလေသာကို ပယ်၏။

ဤသို့လျှင် ရှေ့ပိုင်း ဝိပဿနာဉာဏ်အခိုက်၌ပင် အမှန်အတိုင်း သိမြင်သဖြင့် လောဘ, ဒေါသ, မောဟ=အကုသိုလ် မူလသုံးပါးကို တဒင်္ဂပဟာန်ဖြင့် ပယ်ရှားနိုင်ပြီးလျှင် ထို ဝိပဿနာဉာဏ်မှအထက် မဂ်လေးပါးအစဉ်ဖြင့် အလုံးစုံသော ဆန္ဒရာဂကို သမုစ္ဆေဒပဟာန် အနေအားဖြင့် အကြွင်းမဲ့ပယ်စွန့်နိုင်လေသည်ဟု ဆိုလိုရင်းအဓိပ္ပာယ် ကို သိမှတ်ရာ၏]။

ဤသို့လျှင် သေက္ခဘုံကိုပြပြီး ယခုအခါ အသေက္ခဘုံကို ပြတော်မူ လိုရကား ဤဂါထာကို ဟောတော်မူ၏။

(၁၂) ဆန္ဒရာဂဝိရတ္တော သော
ဘိက္ခု ပညာဏဝါ ဣဓ။
အဇ္ဈဂါ အမတံ သန္တိံ
နိဗ္ဗာနံ ပဒမစ္စုတံ။

ဣဓ=အံ့ဖွယ်ရှစ်ဖြာ ဤသာသနာတော်၌။ ဝါ-သဝိညာဏက အဝိညာဏက အဇ္ဈတ္တဗဟိဒ္ဓ ဖြစ်သော ဤကိုယ်ကာယ၌။ ဆန္ဒရာဂ ဝိရတ္တော=တဏှာဆန္ဒဟူသမျှကို တစမကျန် ပယ်လှန်ဖြတ်ရှင်း ကင်း တော်မူပြီးသော။ ပညာဏဝါ=အရဟတ္တမဂ် ပညာရှိသော။ သော ဘိက္ခု=ထိုမဂ္ဂါနန္တရဖိုလ်သို့ ရောက်ပြီးသော ရဟန္တာပုဂ္ဂိုလ်သည်။ အမတံ=သေခြင်းကင်းသော။ ဝါ-အမြိုက်သုဒ္ဓာ အရသာသို့ လွန်စွာ မွန်မြတ်သော။ သန္တိံ=သင်္ခါရခပ်သိမ်း ငြိမ်းရာဖြစ်သော။ ဝါ-သန္တိ လက္ခဏာ ငြိမ်းလှစွာသော။ နိဗ္ဗာနံ=တဏှာမှလွတ်မြောက်ရာ ဖြစ် သော။ အစ္စုတံ=လျှောကျသက်ကြွေ စုတေရခြင်း အလျှင်းမရှိသော။ ပဒံ=မဂ်ဉာဏ်စသည်ဖြင့် ရောက်အပ်သော နိဗ္ဗာန်သို့။ အဇ္ဈဂါ= ရောက်လေပြီ။

[ဤ၂-ဂါထာဖြင့် ဖော်ပြရာပါအတိုင်း ကျင့်ကြံ အားထုတ်သော သူသည် ဤတဏှာဆန္ဒ (=တဏှာဆန္ဒ အဦးပြုသော ကိလေသာ အပေါင်း)ကို စွန့်ပယ်၍ နိဗ္ဗာနဓာတ်နှစ်ပါးကို ရရှိကြောင်း ပြဆို တော်မူသည်]။

ဤသို့လျှင် သက်ရှိ, သက်မဲ့=သဝိညာဏက, အဝိညာဏက၏အစွမ်း ဖြင့် အသုဘကမ္မဋ္ဌာန်းကို မဂ်,ဖိုလ်,နိဗ္ဗာန်ဟူသော အပြီးအဆုံးနှင့်တကွ ဟောတော်မူပြီး၍ တဖန် အကျဉ်းချုပ်ဖြစ်သော ဒေသနာဖြင့် သို့စင် ကြီးကျယ်ဖွံ့ဖြိုး အကျိုးအာနိသင်ရှိသည့် ကမ္မဋ္ဌာန်း၏အန္တရာယ်ကို ပြု တတ်သည့် ပမာဒဝိဟာရ=မေ့လျော့စွာနေခြင်းကို ကဲ့ရဲ့ရှုတ်ချတော်မူ လိုရကား ဤနောက်ဆုံး ၂-ဂါထာကို ဟောတော်မူ၏။

(၁၃) ဒွိပါဒကောယံ အသုစိ
ဒုဂ္ဂန္ဓော ပရိဟာရတိ။
နာနာကုဏပပရိပူရော
ဝိဿဝန္တော တတော တတော။

(၁၄) ဧတာဒိသေန ကာယေန
ယော မညေ ဥဏ္ဏမေတဝေ။
ပရံ ဝါ အဝဇာနေယျ
ကိမညတြ အဒဿနာ။

ဒွိပါဒကော=အခြေ နှစ်ချောင်းရှိသော၊ အယံကာယော=ဤ လူ၏ကိုယ်သည်။ အသုစိ=မစင်မကြယ် ရွံ့ဖွယ်အတိ ပြည့်သည်ဖြစ်၍၊ ဒုဂ္ဂန္ဓော=ပုပ်နံ့ညှီဟောင်း ရနံ့မကောင်းသည်ဖြစ်၍။ ပရိဟာရတိ= ရေချိုးခြင်း, နံ့သာလိမ်းခြင်း စသည်ဖြင့် နေ့ဆက်ရက်စဉ် ပြုပြင် ဆောင်ရွက်၍ နေရ၏။(အထ=ဤသို့ နေ့ဆက်ရက်စဉ် ပြုပြင်ဆောင် ရွက်၍ ပေးနေပါလျက်)။ နာနာကုဏပပရိပူရော=အထူးထူးအပြား ပြား တပါးမက များလှစွာသော အပုပ်အတိ ပြည့်မြဲပြည့်၍ နေ၏။ တတော တတော=ထိုထိုကိုးပေါက်ဒွါရ အမာဝခပင်း ဆံမွေးတွင်း တို့မှ။ ဝိဿဝန္တော=နံ့သာလိမ်းကျံ ပန်းကိုပန်၍ ဖန်ဖန်ကြိုးကုတ် ဖုံးလွှမ်းရန် အားထုတ်သော်လည်း ပြုလုပ်သမျှ ကျိုးမရပဲ ခေဋတံ

ထွေး မျက်ဝတ်ချေးနှင့် နှပ်ချေးနဖာ ရှုံ့ဖွယ်ရာတို့ များစွာဒီးဒီး တ တွေတွေ ယိုစီးလျက် ရှိပေ၏။

တောဒိသေန=ဤသို့ မစင်မကြယ် ရွံ့ဖွယ်အတိ ပြည့်၍နေသော။ ကာယေန=ကိုယ်ဖြင့်။ ဝါ ကိုယ်ကြောင့်။ ယော=အမှတ် မထား ယောကျ်ားမိန်းမ အကြင်သို့သော လူ့ဗာလသည်။ ဥဏ္ဏမေတဝေ= မာန် တကြွားကြွား ငါတကားဟု ထောင်လွှားခြင်းငှာ။ မညေ မညေယျ=တဏှာအားဖြင့် ငါ၏ကိုယ်,မာနအားဖြင့် ငါတကား,ဒိဋ္ဌိ အားဖြင့် ငါ့ကိုယ်နိစ္စဟု တက်ကြွစိတ်ဝင် မှတ်ထင်လေရာ၏။ ပရံဝါ= သူတပါးကို မူလည်း။ အဝဇာနေယျ=ဇာတိနာမ ဂေါတ္တ-စသည် ထိုထိုသို့သော ဂုဏ်ရည်ဖြင့် မထီမဲ့မြင် ရှုတ်ချရာ၏။ (အတြ=ထိုသို့ ကိုယ့်ကိုမြှောက်လျှင်း သူ့ကိုနှိပ်ခြင်း၌)။ အဒဿနာ=သစ္စာလေး အင် အမှန်အတိုင်း မသိမြင်ခြင်းကို။ အညတြ=မယူကြဉ်ဖဲ ရှောင်လွှဲ ဖယ်ရှား အလွတ်ထား၍။ ကာရဏံ=အခြား တပါး အကြောင်း တရားသည်။ ကိံသိယာ=အဘယ်မှာလျှင် ဖြစ်ရာတော့ အံ့နည်း။ (သစ္စာလေးပါး တရားကို မသိခြင်းကြောင့်သာ ထိုကဲ့သို့ မိမိကိုယ် ကို မြှောက်ပင့်၍ သူ့ကို နှိပ်ခြင်းဖြစ်သည်ဟု ဆိုလိုသည်)။

ဒေသနာနိဂုံး ဆုံးလတ်သောအခါ သတ္တဝါပေါင်း ရှစ်သောင်းလေး ထောင်တို့ သစ္စာလေးပါး တရားသိမြင် ကျွတ်တမ်း ဝင်ကြလေသည်။ သိရိမာနတ်မိဖုရားသည်လည်း အနာဂါမိဖိုလ်သို့ ရောက်ရှိ လေသည်။ သိရိမာကို တပ်မက်သောရဟန်းသည်လည်း သောတာပတ္တိဖိုလ်၌ တည် လေ၏။

ဝိဇယသုတ္တန် ဒုတိယအကြိမ်

ဟောတော်မူခြင်းအကြောင်း ပြီး၏။

## မေတ္တာ ဘာ ဝ နာ ပွား နည်း

### ၁။ သဗ္ဗသင်္ဂါဟက မေတ္တာ(သတ္တဝါအားလုံးတို့ကို တခွန်းတည်းချုံ၍ မေတ္တာ)ပွားနည်း

**သုခိနော ဝါ ခေမိနော ဟောန္တု သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။** ။သဗ္ဗသတ္တာ=ခပ်သိမ်းဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။သုခိနော ဝါ=ကာယိက သုခနှင့် ပြည့်စုံကြကုန်သည်လည်းကောင်း။ သုခိတတ္တာ=စေတသိကသုခနှင့် ပြည့်စုံကြကုန်သည် လည်းကောင်း။ ခေမိနောဝါ=ဘေးရန်ဝေးပ အေးချမ်းကြကုန်သည်လည်းကောင်း။ ဟောန္တု ဘဝန္တု=ဖြစ်ကြ ပါစေကုန်သတည်း၊ (ဤကဲ့သို့ ပါဠိတော်ရှိတိုင်းဖြစ်စေ)

**သဗ္ဗေ သတ္တာ သုခိနော ဟောန္တု။** ။သဗ္ဗေသတ္တာ=ခပ်သိမ်းဥဿုံ အလုံးစုံသောသတ္တဝါတို့သည်။သုခိနော=ကာယိကသုခနှင့် ပြည့်စုံကြကုန်သည်။ ဟောန္တု=ဖြစ်ကြ ပါစေကုန်သတည်း။

**သဗ္ဗေ သတ္တာ ခေမိနော ဟောန္တု။** ။သဗ္ဗေ သတ္တာ=ခပ်သိမ်းဥဿုံအလုံးစုံသောသတ္တဝါတို့သည်၊ခေမိနော=ဘေးရန်ဝေးပ အေးမြ ကြကုန်သည်။ ဟောန္တု=ဖြစ်ကြ ပါစေကုန်သတည်း။

**သဗ္ဗေ သတ္တာ သုခိတတ္တာ ဟောန္တု။** ။သဗ္ဗေ သတ္တာ=ခပ်သိမ်းဥဿုံ အလုံး စုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=စေတသိကသုခနှင့် ပြည့်စုံကြကုန်သည်။ ဟောန္တု=ဖြစ်ကြပါစေကုန်သတည်း။ (ဤကဲ့သို့ တပိုဒ်စီ တခုစီခွဲ၍ဖြစ်စေ)

**လုံးစုံများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်+စိတ်မြဲပါစေ။**
**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့်ဖြစ်စေ) ပွားများနိုင်ပါသည်။



## ၂။ ဒုကမေတ္တာဘာဝနာ (သတ္တဝါတို့ကို နှစ်ပုံပြု၍ မေတ္တာ)ပွားနည်း

(က) **တသာဝါထာဝရာဝါအနဝသေသာ** တသာ ဝါ=ထိတ်လန့်ခြင်းမကင်းကြသေးသည့် **သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ** ပုထုဇန်+ သောတာပန် သကဒါဂါမိ ပုဂ္ဂိုလ်တို့သည်လည်းကောင်း။ ဟာဝရာ ဝါ=မကြောက်မလန့် ကြံ့ကြံ့ခိုင်ကျည် တည်တော်မူကြသည့် အနာဂါမ်+ရဟန္တာပုဂ္ဂိုလ်မြတ်တို့သည် လည်းကောင်း၊ အနဝသေသာ=အကြွင်းအကျန် မရှိကုန်သော။ သဗ္ဗသတ္တာ=တသ+ထာဝရအားနှစ်ထွေပြားသည့် များစွာဉသုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်စိတ်နှစ်ဖြာချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြပါစေကုန်သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက်ဖြစ်စေ)

**ကြောက်တတ်၊ မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ ချမ်းသာကိုယ်+စိတ် မြဲပါစေ။**
**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့်ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာပွားနည်းကို တသ+ထာဝရဒုက မေတ္တာပွားနည်း ဟူ၍ ခေါ်သည်)။

(ခ)။ **။ဒိဋ္ဌာဝါ အဒိဋ္ဌာဝါအနဝသေသာ သဗ္ဗသတ္တာ ဘဝန္တုသုခိတတ္တာ။** ဒိဋ္ဌာ ဝါ=မြင်ဖူးသောသတ္တဝါ တို့သည်လည်းကောင်း။ အဒိဋ္ဌာ ဝါ=မမြင်ဖူးသော သတ္တဝါတို့သည်လည်းကောင်း။ အနဝသေသာ=အကြွင်းအကျန်မရှိကုန်သော။သဗ္ဗ

သတ္တာ=ဒိဋ္ဌ+အဒိဋ္ဌအား နှစ်ထွေပြားသည့် များစွာဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။သုခိတတ္တာ=ကိုယ်+စိတ်နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြပါစေကုန်သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာရောလျက် ဖြစ်စေ)

**မြင်ဖူး+မမြင်ဖူး၊ နှစ်ဦးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်+ စိတ် မြဲပါစေ။**

**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့်ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာ ပွားနည်းကို ဒိဋ္ဌ+အဒိဋ္ဌ ဒုက မေတ္တာပွားနည်း ဟူ၍ ခေါ်သည်။)

**(ဂ)။ ။ဒူရေ ဝါ အဝိဒူရေ ဝါ အနဝသေသာ သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။ ။** ဒူရေ ဝါ=ဝါမှ ဝေးခြား အရပ်၌ ရှိကြသည့် သတ္တဝါများတို့သည် လည်းကောင်း။ အဝိဒူရေ ဝါ=ငါ၏ အနီး၌ ရှိကြသော သတ္တဝါများတို့သည် လည်းကောင်း။ အနဝသေသာ=အကြွင်း အကျန် မရှိကုန်သော။ သဗ္ဗသတ္တာ=ဒူရ+အဝိဒူရအား နှစ်ထွေပြားသည့် များစွာ ဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်+စိတ်နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြ ပါစေကုန် သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက် ဖြစ်စေ)

**ဝေးနေ+နီးနေ၊ နှစ်ထွေများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်+ စိတ် မြဲပါစေ။**

**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့်ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာ ပွားနည်းကို ဒူရ+အဝိဒူရ ဒုက မေတ္တာပွားနည်း ဟူ၍ ခေါ်သည်)။

**(ဃ)။ ။ဘူတာ ဝါ သမ္ဘဝေသီ ဝါ အနဝသေသာ သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ၊ ။** ဘူတာ ဝါ=ဘဝသံသရာ ခရီး၌ ဖြစ်ပြီးပြီ, နောက်ထပ်

ဖြစ်ရန် မရှိတော့ပြီဟု ဆိုရသော ရဟန္တာသခင် အရှင်မြတ်တို့သည် လည်းကောင်း။ သမ္ဘဝေသီ ဝါ=ဘဝသံသရာ မပြတ်သေးသဖြင့် ဘဝကိုပင် အလိုရှိနေသေးကြသည့် ပုထုဇန်+သောတာပန်+သကဒါဂါမ်+အနာဂါမ် ပုဂ္ဂိုလ် တို့သည် လည်းကောင်း။ အနဝသေသာ=အကြွင်းအကျန်မရှိကုန်သော၊ သဗ္ဗသတ္တာ=ဘူတ+သမ္ဘဝေသီအား နှစ်ထွေပြားသည့် များစွာဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်+စိတ်နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြပါစေကုန်သတည်း။
(ဤကဲ့သို့ ပါဠိ+မြန်မာရောလျက် ဖြစ်စေ)

**ဘဝဇာတ်သိမ်း၊ ပသိမ်းများစွာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်+စိတ် မြဲပါစေ။**

**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့် ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာ ပွားနည်းကို ဘူတ+သမ္ဘဝေသီ ဒုကမေတ္တာ ပွားနည်း ဟူ၍ ခေါ်သည်)။

ဤမေတ္တာပွားနည်း လေးပါးကို ဒုကမေတ္တာဘာဝနာ လေးပါးဟူ၍ ခေါ်ဆို၏။

## ၃။ တိက မေတ္တာဘာဝနာ

## (သတ္တဝါတို့ကို သုံးပုံပြု၍ မေတ္တာ) ပွားနည်း

(က)။ **။ဒီဃာ ဝါ ရဿာ ဝါ မဇ္ဈိမာ ဝါ အနဝသေသာ သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။** ။ ဒီဃာ ဝါ=ရှည်လျားသော ခန္ဓာကိုယ် = အတ္တဘော ရှိကြသည့် သတ္တဝါတို့သည် လည်းကောင်း။ ရဿာ ဝါ=တိုတောင်းသော ခန္ဓာကိုယ်=အတ္တဘောရှိကြသည့်သတ္တဝါတို့သည်လည်းကောင်း။ မဇ္ဈိမာ ဝါ=မရှည်မတို အလယ်အလတ် ခန္ဓာကိုယ် = အတ္တဘော ရှိကြသည့် သတ္တဝါတို့သည် လည်းကောင်း။ အနဝသေသာ=အကြွင်းအကျန် မရှိကုန်သော။ သဗ္ဗသတ္တာ=ဒီဃ+ရဿ+မဇ္ဈိမအား သုံးထွေပြားသည့်

များစွာဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်+စိတ် နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု = ဖြစ်ကြ ပါစေကုန် သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက် ဖြစ်စေ)

ရှည်+တို+အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်+စိတ် မြဲပါစေ။

ဥပဒ်+ရန်+ဘေး၊ ကင်းဝင်ဝေး၊ ချမ်းအေးကြပါစေ။

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့် ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာပွားနည်းကို ဒီဃ+ရဿ+မဇ္ဈိမ တိက မေတ္တာ ပွားနည်း ဟူ၍ ခေါ်သည်)။

(၁)။ ။မဟန္တာ ဝါ အဏုကာ ဝါ မဇ္ဈိမာ ဝါ မဟန္တာ ဝါ=ကြီး ကျယ်သော ခန္ဓာကိုယ်=အတ္တဘောရှိ ကြသည့် သတ္တဝါတို့သည် လည်းကောင်း။ အဏုကာ ဝါ-သေးငယ် သော ခန္ဓာကိုယ်-အတ္တဘောရှိကြသည့်သတ္တဝါတို့သည်လည်းကောင်း။ မဇ္ဈိမာ ဝါ=မကြီးမငယ် အလယ်အလတ် ခန္ဓာကိုယ်=အတ္တဘောရှိကြ သည့် သတ္တဝါတို့သည် လည်းကောင်း။ အနဝသေသာ=အကြွင်းအကျန် မရှိကုန်သော။ သဗ္ဗသတ္တာ=မဟန္တ+အဏုက+မဇ္ဈိမအားဖြင့် သုံးထွေပြား သည့် များစွာဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်+ စိတ်နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြပါစေကုန် သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက်ဖြစ်စေ)

ကြီး+ငယ်+အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်+စိတ် မြဲပါစေ။

ဥပဒ်+ရန်+ဘေး၊ ကင်းဝင်ဝေး၊ ချမ်းအေးကြပါစေ။

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့်ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာပွားနည်းကို မဟန္တ+အဏုက+မဇ္ဈိမ တိက မေတ္တာ ပွားနည်း ဟူ၍ ခေါ်သည်)။

(ဂ)။ **။ထူလာ ဝါ အဏုကာ ဝါ မဇ္ဈိမာ ဝါ** ထူလာ ဝါ = ဆူဖြိုး **အနဝသေသာ သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။** ။သေ ၁ ခန္ဓာ ကိုယ်= အတ္တ ဘော ရှိကြ သည့် သတ္တဝါတို့သည် လည်းကောင်း။ အဏုကာ ဝါ = ကြုံလှီသော ခန္ဓာကိုယ်=အတ္တဘောရှိကြသည့် သတ္တဝါတို့သည်လည်းကောင်း။မဇ္ဈိမာ ဝါ=မဆူမကြုံ အလယ် အလတ် ခန္ဓာကိုယ်=အတ္တဘော ရှိကြသည့် သတ္တဝါတို့သည် လည်းကောင်း။ အနဝသေသာ=အကြွင်းအကျန် မရှိ ကုန်သော။ သဗ္ဗသတ္တာ=ထူလ+အဏုက+မဇ္ဈိမအား သုံးထွေပြားသည့် များစွာဥဿုံ အလုံးစုံသော သတ္တဝါတို့သည်။ သုခိတတ္တာ=ကိုယ်+စိတ် နှစ်ဖြာ ချမ်းသာကြကုန်သည်။ ဘဝန္တု=ဖြစ်ကြ ပါစေ ကုန် သတည်း။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက်ဖြစ်စေ)

**ဆူ+ကြုံ+အလတ်၊ သုံးရပ် ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာ ကိုယ်+စိတ်မြဲပါစေ။**

**ဥပဒ်+ရန်+ဘေး၊ ကင်းစင်ဝေး၊ ချမ်းအေးကြပါစေ။**

(ဤကဲ့သို့ မြန်မာလင်္ကာဖြင့် ဖြစ်စေ) ပွားများနိုင်ပါသည်။

(ဤမေတ္တာပွားနည်းကို ထူလ+ အဏုက+မဇ္ဈိမ တိက မေတ္တာ ပွားနည်းဟူ၍ ခေါ်သည်)။

ဤမေတ္တာပွားနည်းသုံးပါးကို တိကမေတ္တာဘာဝနာ သုံးပါး ဟူ၍ ခေါ်ဆို၏။

## မေတ္တာဘာဝနာသုံးနည်း ဟောခြင်းအကြောင်း

ဤ၌ မေတ္တာ ဘာဝနာ သုံးနည်း ဟောတော်မူခြင်း အကြောင်းကို အဋ္ဌကထာ၌ သုံးမျိုးပြဆို၏။ ပြဆိုပုံမှာ

၁။ ၁–အမှတ်ပါ သဗ္ဗသင်္ဂါဟကမေတ္တာကား အကျဉ်းမေတ္တာ ပွား နည်းဖြစ်သည်။ နောက်နည်းများကား အကျယ်မေတ္တာ ပွား နည်းများဖြစ်ကြသည်။

ဤသို့ အကျဉ်းမေတ္တာပွားနည်း+ အကျယ်မေတ္တာ ပွားနည်းတို့ကိုပြည့်စုံအောင် ပြတော်မူလိုသောကြောင့် သဗ္ဗသင်္ဂဟက မေတ္တာပွားပုံကို ဟောပြီးနောက် ဒုကမေတ္တာပွားပုံလေးနည်း တိက မေတ္တာပွားပုံ သုံးနည်းတို့ကို ဟောတော်မူသည်။

၂။ တနည်း၊ အာရုံအမျိုးမျိုး၌ အလေ့အလာများသော စိတ်သည် စလျင်စခြင်း အာရုံတခုတည်း၌ မတည်တံ့နိုင်၊ အာရုံအမျိုးမျိုးသို့ လိုက်ကာလိုက်ကာ ပွားများအားထုတ်မှ အစဉ်သဖြင့်အာရုံတခုတည်း၌ တည်တံ့နိုင်သည်။ (ဤကား သတ္တဝါတို့ စိတ်၏ သဘောတည်း)။

ထို့ကြောင့် ထိုစိတ်၏ တသ+ထာဝရ အစရှိသော ဒုက အာရုံအမျိုးမျိုး တိကအာရုံအမျိုးမျိုး၌ ဉာဏ်အမြင်အစဉ်လိုက်ကာ လိုက်ကာ(နောက်ဆုံး၌) အာရုံတခုဘည်းဝယ် တည်တံ့ရန် သဗ္ဗသင်္ဂဟက မေတ္တာပွားပုံကို ဟောပြီးနောက် ဒုက မေတ္တာပွားပုံလေးနည်း တိကမေတ္တာပွားပုံသုံးနည်းတို့ကို ဆက်၍ ဟောတော်မူပါသည်။

၃။ တနည်း၊သတ္တဝါတို့မှာ အဇ္ဈာသယ=အလိုဆန္ဒ အမျိုးမျိုးရှိကြသည်။ အချို့မှာ သတ္တဝါ အားလုံးကို တခွန်းတည်း ချုံ၍ မေတ္တာပို့ရလျှင်ထင်လင်းသည်လည်း ရှိသည်။အချို့မှာ သတ္တဝါတို့ကို နှစ်ပုံပြု၍+သုံးပုံပြု၍ မေတ္တာပို့ရလျှင် ထင်လင်းသည်လည်း ရှိသည်။ သို့ရကား အကြင်သူ၏ စိတ်သန္တာန်၌ အကြင်အာရုံသည် ထင်လင်း၏။ ယိုသူ၏ အဖို့ရာ ကိုအာရုံ၌ စိတ်သည်တည်တံ့နိုင်၏။ ထို့ကြောင့် မေတ္တာဘာဝနာကို ပွားများကြသော ယောဂီပုဂ္ဂိုလ်တို့တွင် အကြင်ယောဂီ၏ အဖို့ရာ အကြင် သဗ္ဗသင်္ဂါဟကအာရုံ + ဒုကအာရုံ + တိကအာရုံသည် ထင်လင်း၏၊ ထိုယောဂီ၏စိတ်သည် ထိုသဗ္ဗသင်္ဂါဟကအာရုံ+ ဒုကအာရုံ+တိကအာရုံ၌ ကြံ့ကြံ့ခိုင်ကျည် တည်တံ့ရန် (ဝါ- သဗ္ဗသင်္ဂါဟကမေတ္တာကိုပွား၍ မိမိစိတ် တည်တံ့လျှင် ထိုသဗ္ဗသင်္ဂါဟကမေတ္တာကို ပွားများရန်+ ဒုကမေတ္တာကိုပွား၍ မိမိ

စိတ်တည်တံ့လျှင် ထိုဒုကမေတ္တာကိုပွားများရန်+တိက မေတ္တာကိုပွား၍ မိမိစိတ်တည်တံ့လျှင် ထိုတိကမေတ္တာကို ပွားရန်) မေတ္တာပွားနည်းသုံးပါး (အစိတ်အစိတ်အားဖြင့်ရှစ်ပါး) ကို မြတ်စွာဘုရားဟောကြားတော်မူပါသည်ဟု အထူးမှတ်ယူရာ၏။

ဤတွင် ဟိတာဓိဂမာဓိပ္ပာယမေတ္တာ=အစီး အပွားကို ရလိုသော မေတ္တာသုံးနည်း ပြီး၏။



ချမ်းသာသုခ ကောင်းကျိုး၏ အကြောင်းကို (ပါဠိလို) ဟိတဟူ၍လည်းကောင်း, (မြန်မာလို) အစီးအပွားဟူ၍လည်းကောင်း ခေါ်သည်။ ဆင်းရဲဒုက္ခ မကောင်းကျိုး=အပြစ်၏အကြောင်းကို (ပါဠိလို) အဟိတဟူ၍ (မြန်မာလို) အစီးအပွားမဲ့ ဟူ၍ ခေါ်သည်။

ဆိုခဲ့ပြီးသော မေတ္တာသုံးမျိုးတို့သည် အစီးအပွားချမ်းသာ ကောင်းကျိုးကို ရစေလိုသော စိတ်ထားရှေ့သွားပြု၍ ပွားအပ်သည့်မေတ္တာများ ဖြစ်သောကြောင့် (ပါဠိလို) ဟိတာဓိဂမာဓိပ္ပာယမေတ္တာ (မြန်မာလို) အစီးအပွားကို ရစေလိုသောမေတ္တာ-ဟု အမည်တွင်ကြလေသည်၊ (ဤ မေတ္တသုတ္တန်၌ ဤဟိတာဓိဂမာဓိပ္ပာယမေတ္တာအပြင် အစီးအပွားမဲ့ကို ပယ်ရှားလိုသော=အဟိတာပနယနာဓိပ္ပာယ မေတ္တာကိုလည်း မြတ်စွာဘုရား တဆက်တည်း ဟောကြားတော်မူအပ်သည်)။ဟောတော်မူပုံမှာ

(၁) **န ပရော ပရံ နိကုဗ္ဗေထ** (တချက်)
(၂) **နာတိမညေထ ကတ္ထစိ နံ ကဉ္စိ** (တချက်)
(၃) **ဗျာရောသနာ ပဋိဃသညာ နာညမညဿ ဒုက္ခ+မိစ္ဆေယျ** (တချက်)

ဤသုံးချက်တို့ဖြစ်သည်။ ထင်ရှားစေဦးအံ့။

သတ္တဝါတို့ ဆင်းရဲဒုက္ခ မကောင်းကျိုးရောက်ခြင်း၏အကြောင်းကား သုံးပါးရှိသည်။ အဓိကအားဖြင့် သုံးပါးတို့မှာ

**(၁) တယောက်က တယောက်ကို လိမ်လည်လှည့်ဖြားခြင်း**
**(၂) တယောက်က တယောက်ကို ထိုထိုကိစ္စ+ဌာနတို့၌ အထင်သေးခြင်း**
**(၃) တယောက်ကတယောက်၏ဆင်းရဲကို အလိုရှိခြင်း=ဤ သုံးပါးတို့တည်း။**

၁။ ။တယောက်က တယောက်ကို လိမ်လည်လှည့်ဖြားမှု ပြုလုပ်နေလျှင် အလိမ်မပေါ်သေးသမျှ အဆင်ပြေသကဲ့သို့ ထင်ရ သော်လည်း အလိမ်ပေါ်လာသောအခါ အချင်းချင်းခိုက်ရန်ဖြစ်၍ ဆင်းရဲဒုက္ခအကြီးအကျယ် ရောက်ရလေသည်။ ထို့ကြောင့် မေတ္တာဘာဝနာရှင် ယောဂီသူမွန်သည်

**န ပရော ပရံ နိကုဗ္ဗေထ။** ။ပရော=တယောက်သော သူသည်။ ပရံ=တယောက်သောသူကို။ န နိကုဗ္ဗေထ=မလိမ်လည် မလှည့်ဖြား ပါစေသား။ (ဤကဲ့သို့ ပါဠိ+မြန်မာ ရောလျက်ဖြစ်စေ)

**လူအချင်းချင်း၊ လိမ်လည်ခြင်း၊ ကင်းရှင်းကြပါစေ။**

(ဤကဲ့သို့ မြန်မာလက်ာဖြင့်ဖြစ်စေ) အဟိတာပနယနာခိပ္ပာယ=အစီးအပွားမဲ့ကို ပယ်ရှားလိုသော မေတ္တာကို ပွားရလေသည်။ ပွားကြကုန်ပါလော့။

၂။ ။တယောက်က တယောက်ကို ထိုထို ကိစ္စ+ဌာနတို့၌ အထင်သေးခြင်းအမှု ပြုလုပ်လျှင် အချင်းချင်း ခိုက်ရန်ဖြစ်၍ ဆင်းရဲဒုက္ခအကြီးအကျယ် ရောက်ရလေသည်။ ထို့ကြောင့် မေတ္တာဘာဝနာရှင် ယောဂီသူမွန်သည်

**နာတိမညေထ ကတ္ထစိ နံ ကဉ္စိ။** ။ပရော=တယောက်သော သူသည် ကဉ္စိ=တစုံတယောက်သော။ နံပရံ ထိုအခြားသူတယောက်ကို။ ကတ္ထစိ=တစုံတခုသောကိစ္စ+တစုံတခုသော ဌာနနိုက်မှာမူ။ နာတိမညေထ=မထီမဲ့မြင်မှု (အထင်သေးမှု) မပြုပါစေသား၊ (ဤကဲ့သို့ ပါဠိ+မြန်မာရောလျက် ဖြစ်စေ)

**လူ့အချင်းချင်း၊ ထင်သေးခြင်း၊ ကင်းရှင်းကြပါစေ။**

(ဤကဲ့သို့မြန်မာလင်္ကာဖြင့် ဖြစ်စေ) အဟိတာပနယနာဓိပ္ပာယ= အစီးအပွားမဲ့ကို ပယ်ရှားလိုသော မေတ္တာကို ပွားရလေသည်။ ပွားကြကုန်ပါလေ။ ။

၃။ တယောက်က တယောက်၏ဆင်းရဲမှုကို အလိုရှိနေပါက ခိုက်ရန်ဖြစ်၍ ဆင်းရဲဒုက္ခ အကြီးအကျယ် ရောက်ရလေသည်။ ထို့ကြောင့် မေတ္တာရှင် ယောဂီသူမွန်သည်

**ဗျာရောသနာ ပဋိဃသညာ** ဗျာရောသနာ= ကိုယ်နှင့်နှုတ် ချုပ်ချယ်

**နာညမညဿဒုက္ခ+မိစ္ဆေယျ။** ။လိုသဖြင့်လည်းကောင်း။ ပဋိဃသညာ = မနောဒွါရ အား ထိ ပါး လို သော အမှတ်ဖြင့်လည်းကောင်း။အညမညဿ=တယောက်သည် တယောက်၏။ ဂါ=တဦးက တဦး၏။ ဒုက္ခံ= ကိုယ် + စိတ်နှစ်သင်း ဆင်းရဲခြင်းကို။ န ဣစ္ဆေယျ=အလိုမရှိပါစေသား။ (ဤကဲ့သို့ ပါဠိ + မြန်မာ ရောလျက် ဖြစ်စေ)

**ချင်းချင်းလူဗိုလ်၊ ဆင်းရဲကို၊ အလိုမရှိကြပါစေ။**

(ဤကဲ့သို့မြန်မာလင်္ကာဖြင့်ဖြစ်စေ)အဟိတာပနယနာဓိပ္ပာယ=အစီးအပွားမဲ့ကို ပယ်ရှားလိုသော မေတ္တာတရားပွားရလေသည်။ ပွားကြကုန်ပါလေ။ ။

ဤကား အဟိတာပနယနာဓိပ္ပာယ မေတ္တာသုံးပါး ပွားပုံတည်း။

**မေတ္တသုတ်လာ မေတ္တာဘာဝနာ ပွားနည်းပြီး၏။**

(ပုံ) ဦးဝိစိတ္တသာရာဘိဝံသ

**၁၃၃၄-ခု၊ တန်ဆောင်မုန်းလဆုတ် ၁၂-ရက်။**

## သူတော်ကောင်းတို့ အားထားရမည့်
## နာထတရားနှင့် ထိန မိဒ္ဓ-ပယ်ဖျောက်ကြောင်းတရား

ဤ-ရာဟုလောဝါဒသုတ္တန်များနှင့် ဝိဇယသုတ္တန်တို့၌ ပါရှိသည့်

ဓမ္မ-သဘာဝအပေါင်းတို့ကို ဖတ်ရှု လေ့လာ ပွားများ နှလုံးသွင်း ကြကုန်သော သူတော်စဉ် အပေါင်းတို့သည်

ဖော်ပြလတ္တံ့သော၊ နာထဟာရား ဆယ်ပါးနှင့်

ထိန+မိဒ္ဓ ပယ်ဖျောက်ကြောင်းတရား ခုနစ်ပါးတို့ကို လက်ကိုင်ထား ကြလျက် မဂ်+ဖိုလ်တိုင်ရောက် ပြီးမြောက်အောင် ကျင့်ကြ ကြိုးကုတ် အားထုတ်နိုင်ကြပါစေသော်။

**(အင်္ဂုတ္တရ နိကာယ ဒသက နိပါတ်တော်လာ)**

**နာထတရား မှိခို+အားထားရာ တရား ဆယ်ပါး**

**သီလ ဂရု၊ ဗဟုဿုတ၊ သုမိတ္တ ဝါ၊ သုဝစ၊ လိမ်မာထိုထိုမှု၊ ဓမ္မကာမ၊ အာရဒ္ဓဝိ၊ သန္တုဋ္ဌိနှင့်၊ သတိနေပက်၊ ပညာထက်၊ ဆယ်ချက်နာထစု။**

၁။ **သီလဂရု** =သီလကိုအလေးပြုစောင့်ထိန်းခြင်း။

၂။ **ဗဟုဿုတ** =သီလ+သမာဓိ+ပညာနှင့်စပ်သော တရားစကားကို များစွာကြားနာခြင်း။

၃။ **သုမိတ္တဝါ** =သဒ္ဓါ + သီလ + သုတ + စာဂ + ပညာတရားတို့နှင့် ပြည့်စုံသည့် မိတ်ဆွေကောင်းကို ပေါင်းသင်းလေ့ ရှိခြင်း။

၄။ **သုဝစ** =ပညာရှိ သူတော်ကောင်း တို့က ဆို-ဆုံးမလျှင် ဆန့် ကျင်ဘက် မပြောဆိုပဲ ရိုသေစွာနာယူခြင်း။

၅။ **လိမ်မာထိုထိုမှု**-တရား ကျင့်ဖော် ကျင့်ဘက် တို့၏ အမှုကိစ္စ တို့၌ ထကြွ=လုံ့လဝီရိယရှိရှိ ကျွမ်းကျင် လိမ်မာစွာ ကူညီ ဆောင်ရွက်ခြင်း။

၆။ **ဓမ္မကာမ** =သူတော်ကောင်း တရားတို့ကို အလိုရှိခြင်း၊ တရား တော်ကို လိုလိုချင်ချင် နာယူပြောဆိုလေ့ ရှိခြင်း။

၇။ **အာရဒ္ဓဝီ** =အကုသိုလ်တရားတို့ကို ပယ်ရှားဖို့ရန် ကုသိုလ်တရားတို့၌ လုံ့လ=ဝီရိယရှိရှိ အားထုတ်ခြင်း။
၈။ **သန္တုဋ္ဌိ နှင့်** =မိမိထင်ရှားရှိသော ပစ္စည်းဖြင့်သာ တင်းတိမ်ရောင့်ရဲကျေနပ်ခြင်း၊ မိမိ၌ မရှိသည့် ပစ္စည်းများကို မလိုလား မတောင့်တခြင်း။
၉။ **သတိနေပက်** =ကာယ၊ ဝေဒနာ၊ စိတ္တ၊ ဓမ္မ လေးဌာနတို့၌ ရင့်ကျက်ထက်သန်သည့်ပညာပါရှိသော သတိနှင့် ပြည့်စုံခြင်း။
၁၀။ **ပညာထက်** =ခန္ဓာငါးပါး+ရုပ် နာမ်တရားတို့၏ အဖြစ်အပျက်ကို သိမြင် ဆင်ခြင် တတ်သော ဉာဏ်ပညာနှင့် ပြည့်စုံခြင်း။
**ဆယ်ချက်နာထစု** =ဤတရားဆယ်ပါးကို နာထတရား ဆယ်ပါး နိဗ္ဗာန်ကို ရရှိရန် စိတ်ချယုံကြည်စွာ အားကိုးပြုရသည့် တရားဆယ်ပါး ဟူ၍ ခေါ်သည်။

(ဤတရားဆယ်ပါးကို အင်္ဂုတ္တိုရ်ပါဠိတော် တရား ဆယ်မျိုးတို့ကို ဖော်ပြသည့် ဒသကနိပါတ်၌ မြတ်စွာဘုရားသည် ဟောကြား တော်မူအပ်သတည်း)။

## ထိန မိဒ္ဓ။ (ငိုက်မျဉ်းခြင်း) ပယ်ဖျောက်ကြောင်းတရား ခုနစ်ပါး-လင်္ကာ

ပယ်ဖျောက်သညာ၊ စာ နှလုံးသွင်း၊ စာအံလျှင်းတည့်၊ နားပွတ်ကိုယ်သပ်၊ အရပ်ရှုမြော်၊ အာလောကပွား၊ စကြံသွား၊ ခုနစ်ပါး ငိုက်မျဉ်း ပျောက်ကြောင်းတည်း။

၁။ **ပယ်ဖျောက်သညာ** =(တရား နှလုံးသွင်းရင်း ငိုက်မျဉ်း လာလျှင် မူလ-နှလုံးသွင်းရင်း သညာကို နှလုံးမသွင်းရ၊ ဥပမာ-အနိစ္စ သညာကို နှလုံးသွင်းရင်း ငိုက်မျဉ်းလာလျှင် ထိုအနိစ္စသညာ နှလုံးသွင်းမှုသို့ ခေတ္တ ရပ်ဆိုင်းထားရမည်)။

၂။ စာနှုတ်သွင်း =(ဤနည်းဖြင့်မှ မရလျှင် မိမိသင်ကြားလေ့လာထားသော ပရိယတ် စာပေများကို စိတ်ဖြင့် အဖန်ဖန် ကြံစည် နှုတ်သွင်းရမည်၊ မိမိ နှုတ်တက်ရရှိထားသော ဓမ္မစကြာ-အနတ္တလက္ခဏာသုတ်-စသည်ကို စိတ်ဖြင့် ကြံစည်ရမည်)။

၃။ စာအံလျှင်းတည့် =(ဤနည်းဖြင့်မှ မရလျှင် မိမိ သင်ကြား လေ့လာ ထားသော ပရိယတ် စာပေ များကို အကျယ်-နှုတ်မြွက်၍ ရွတ်အံရမည်)။

၄။ နားပျဉ်းကိုသပ် =(ဤနည်းဖြင့်မှ မရလျှင် မိမိ၏ နားပျဉ်း=နားရွက်ကို လက်ဖြင့် ဆွဲရမည်၊ ကိုယ်ကိုလက်ဖြင့် အဖန်ဖန် ပွတ်သပ် ပေးရမည်)။

၅။ အရပ်ရှုမြော် =(ဤနည်းဖြင့်မှ မရလျှင် နေရာမှထ၍ မျက်နှာသစ်ပြီးလျှင် အရပ်မျက်နှာ နက္ခတ် ကြယ်တာရာတို့ကို ကြည့်ရှုရမည်)။

၆။ အာလောကပွား =(ဤနည်းဖြင့်မှမရလျှင် အာလောကသညာကို ပွားများရမည်၊ နေ့အခါဖြစ်လျှင် နေရောင်ကို ရှု၍ ညဥ့်အခါ ဖြစ်လျှင် လရောင်ကို ရှု၍ (လမရှိလျှင်)ဆီမီးရောင်စသည်ကိုရှု၍ "အာလောကော, အာလောကော = အလင်းရောင်, အလင်းရောင်"ဟူ၍ အဖန်ဖန် ရွတ်ပွား နှုတ်ထားရမည်)။

၇။ စင်္ကြံသွား =(ဤနည်းဖြင့်မှ မရလျှင် ဣန္ဒြေတို့ကို ချုပ်တည်း၊ စိတ်ကိုလည်း ကိုယ်တွင်း၌သာ ထားကာ လူးလာ တုံ့ခေါက် စင်္ကြံ လျှောက်ရမည်)။

**ခုနစ်ပါး-ငိုက်မျဉ်းပျောက်ကြောင်းတည်း။**

(ဤ ခုနစ်ပါးသော နည်း အဆင့်ဆင့်ဖြင့် ငိုက်မျဉ်းခြင်းကို ပယ်ဖျောက်၍ မရလျှင် ကရေဇခေါ်ဆို ဤ ချပ်ကိုယ်မှာ ပင်ပန်း လှပြီ ဖြစ်၍

အနားပေးရန် အချိန်ပေးရကား....လက်ျာနံတောင်းဖြင့် လျှောင်းကာ-လက်ဝဲခြေကို လက်ျာခြေ၏ရှေ့သို့ အနည်းငယ် လွန်စေ၍ သတိသမ္ပဇဉ် လက်မလွှတ်ပဲ"ဤမည်သောအချိန်ကျလျှင် ငါထမည်"ဟူသောအမှတ်ကို နှလုံးသွင်း၍ ခြင်္သေ့မင်းပမာ တည်ကြည်စွာ အိပ်စက်ရမည်။ အိပ်ရာမှ နိုးလျှင် နိုးခြင်း "စင်း၍နေသော ချမ်းသာ, စောင်း၍နေသောချမ်းသာ, ငိုက်မျဉ်း၍နေသော ချမ်းသာတို့ကို ငါမခံစားဘူးဟဲ့"ဟု စိတ်ကို တင်းလျက် လျင်မြန်စွာ ထရမည်)။

ဤကား သတ္တကနိပါတ် အင်္ဂုတ္တိုရ် ပစလာယ မာနသုတ်လာ ငိုက်မျဉ်းခြင်း ပယ်ဖျောက်ကြောင်း တရား ခုနစ်ပါးတည်း။

**(ရှိသေစွာ လိုက်နာဖြည့်ကျင့်နိုင်ကြပါစေကုန်သတည်း)။**

**ဤတရားကျမ်းစာအုပ်နှင့်တွဲဖက်၍**

**လေ့လာရန် အထူးမှာ**

၁။ လယ်တီဆရာတော်ဘုရားကြီး၏ ခန္ဓာ, အာယတန, ဓာတ်, သစ္စာ လက်ာကျမ်းနှင့်

၂။ ပထမ ဓမ္မနာဒ ဆရာတော်ဘုရားကြီး၏ ဓာတ်ခြောက်ပါး သိမ်းဆည်းပုံ ကျမ်းတို့ကိုပါ ပူးတွဲလေ့လာပါရန်။



**ကိုယ်စွမ်းကိုယ်စ အားကိုးပါက**

**ကောင်းကျိုးရကြောင်း-သုတလက်ဆောင်**

အဓိပ္ပာယဖလံ ဧကေ
အသ္မိံ လောကသ္မိ ဒေဝတာ။
ပယောဇယန္တိ ကမ္မာနိ
တာနိ ဣဇ္ဈန္တိ ဝါ န ဝါ။

ကြုံကြုံစည်စည်၊ လူတို့ပြည်တွင်၊ ကျင်လည်ရာရာ၊ ဥစ္စာရှာဆည်း၊ ရေ့ကြည်းပတ်လျှောက်၊ ရောင်းဖောက်ကစား၊ စီးပွားမြတ်ခြင်း၊ တင်းတင်းစားစား၊ သွားလာငြင်ငြို၊ ထိုထိုအမှု၊ ပြုပြုသမျှ၊ ကြံကိစ္စဉ်၊ မိန်းမ, ယောက်ျား၊ စိတ်သွားသောလျှောက်၊ မရောက်တချို့၊ ရောက်တချို့နှင့်၊ ကိုယ့်ဖို့ပြည့်စုံ၊ မကုန်လည်းရှိ၊ ကုန်လည်းရှိ၏။ မမိလည်းဖမ်း၊ မိလည်း

ဖမ်းလျက်၊ ကိုယ်စွမ်းအားကိုး၊ ဆော်ပင့်နှိုးက၊ ကောင်းကျိုးရှိရာ စမြဲတည်း။

(မဟာဇနကဇာတ် ပါဠိတော်နှင့် မဟာဇနကပျို့၊ ပုဒ်ရေ ၄၁)

## န သာခု (မကောင်း) တရားလေးပါး
## (မကောင်းတရား ၄-ပါး၊ ကြဉ်ရှောင်ရှားလော့)

န-သာခုမျိုး၊ ဟောရိုးကျမ်းလာ၊ မှတ်အပ်စွာလည်း၊ ၁ အိမ်ရာထောင်သူ၊ လူအပျင်းကြီး၊ ၂ မော်မီးမော်မန်း၊ ရဟန်းဖြစ်လျက်၊ နှုတ်လက်မစောင့်၊ ၃ ပြည်ထောင့်သနင်း၊ မင်းဖြစ်လျက်တိ၊ မရှိဆင်ခြင်၊ ၄ ပညာရှင်လျက်၊ အမျက်ကြီးမား၊ ဤလေးပါးကား၊ ထင်ရှားလူ့ရွာ၊ မကောင်းစွာရှင့်။

(မဃဒေဝ၊ ပိုဒ်စဉ် ၂၁၀-မှ)

## လော,ဒေါ,မောဟ ပယ်ရှားကြ

လူတို့လောဘ၊ ကြီးကာလဝ်၊ ဒုဗ္ဘိက္ခဘေး၊ ငတ်မွတ်ရေးကြောင့်၊ ရိုးဖွေးတောင်မျှ၊ ပျက်စီးကြ၏။ ။ဒေါသတရား၊ ပွားလတ်သောခါ၊ မားမိုးရွာသို့၊ သတ္တဝါလူပုံ၊ ပြောဟုံအမျက်၊ စစ်မက်ပြိုင်ခင်း၊ လက်နက်ကျင်း၍၊ ချင်းချင်းသတ်ကြ။ သွေးချောင်းကျ၏။ ။မောဟလွန်ပြား၊ ဘီလူးစားသို့၊ ထူပြားရောဂါ၊ ဝေဒနာဖြင့်၊ များစွာကပ်ရောက်၊ သေပျောက်လူရှင်၊ ထူပြောဖြင့်၏။

(မဃဒေဝ၊ ပိုဒ်စဉ် ၂၃၄-မှ)

## အမျက်မထွက်သင့်ကြောင်း (မေ္ဂလက်ဆောင်)

ဤသည့်လောက၊ ဘုံဘဝဌ်၊ မိန်းမ, ယောကျ်ား, မျက်ထွက်ငြားမူ

၁။ ဖောက်ပြားယွင်းကွက်၊ ရုပ်ဆင်းပျက်၏။

၂။ အိပ်စက်သောခါ၊ မချမ်းသာဘူး။

၃။ ပြုရာကိစ္စ၊ အဝဝဌ်၊ ကောဓလွှမ်းမိုး၊ အမျက်ဆိုးကြောင့်၊ ကျိုးမဲ့ကိုစင်၊ ကျိုးရှိထင်လျက်၊ ကျိုးပင်ရှိလတ်၊ မရှိမှတ်၍၊ ချော်ချွတ်ပြုမှား၊ ကျိုး, မများတည်း။

၄။ စီးပွားယုတ်လျက်။
၅။ ဂုဏ်သိန်ပျက်၍။
၆။ မိတ်ဘက်ကင်းကွာ။
၇။ သေသော ခါလည်း၊ လေးဖြာပါယ်သို့၊ ရောက်တုံမြို့၏။ ဤသို့ဖြစ်မူ၊ ထဘက်လူ–ဟု၊ ရန်သူနှစ်ထောင်း၊ အားရကြောင်းလျှင်၊ မကောင်းတရား၊ ခုနစ်ပါးတို့ ယောက်ျား၊ မိန်းမ၊ မျက်ထွက်ကြသား၊ ထိုမျှလူ့ဌာန်၊ ရောက်၏မှန်ဟု၊ ဘုန်းသန်မမ္ဗစက်၊ ဟောဖော်မြွက်သည်....

**အမျက်မထွက်ကြလေနှင့်။**

(အင်္ဂုတ္တရနိကာယ သတ္တကနိပါတ် ကောဓနသုတ်)



**ချီးမွမ်းအပ်သည့် ဝိပဿနာ**

ယော စ ဝဿသတံ ဇီဝေ
အပဿံ ဥဒယဗ္ဗယံ။
ဧကာဟံ ဇီဝိတံ သေယျော
ပဿတော ဥဒယဗ္ဗယံ။ (မမ္မပဒ)

ရုပ်နာမ်နှစ်သင်း၊ ဖြစ်,ပျက်ခြင်းကို၊ လင်းလင်းထင်ထင်၊ မသိမြင်ပဲ၊ လူတွင်ရှည်ကြာ၊ နှစ်တရာလျှင်၊ စားကာ,ဝတ်ကာ၊ ပျော်ရွှင်ကာဖြင့်၊ အကာအဖျင်း၊ သက်ရှည်ခြင်းထက်၊ ကိုယ်တွင်းသန္တာန်အဖန်ဖန်လျှင်၊ ဖြစ်ပြန်,ပျက်လျှင်း၊ ရုပ်,နာမ်နှစ်သင်းကို၊ လင်းလင်းဉာဏ်ကူ၊ သိမြင်သူ၏၊ လူတို့အသက်၊ တနေ့ရက်မျှ၊ အားဟက်ဖွယ်လျှင်း၊ သက်ရှည်ခြင်းက၊ ဝဋ်ခင်းဖြုတ်ပယ်၊ လောကုတ်နယ်သို့၊ အလွယ်နှင့်ရောက်၊ ကျေးဇူးဆောက်သည့် အံ့လောက် ချီးမွမ်းဖွယ်တကား။

(ပုံ) ဦးဝိစိတ္တသာရာဘိဝံသ

**ကြိုးစား ကျင့်သုံး ဆောက်တည်နိုင်ကြပါစေသော်။**




## ဆုတောင်းလင်္ကာ

---

ဤသည့်ပုည ကုသလကြောင့်၊
လောဘ ဒေါသ မောဟ ကင်းကွာ၊
သံသရာဝယ် ကျင်ပါရဘိ၊
ပညာရှိနှင့် ယှဉ်မိပေါင်းသင်း၊
ဉာဏ်မဲ့ကင်း၍ ပြည့်လင်းလျှံဖွယ်၊
လှူစဉ်ဝယ်လည်း သုံးသွယ်စေတနာ၊
ဖြောင့်ညီညာသည်........၊
ခေမာအထွတ် တိုင်လိုသောဝ်။

---

(အကိစ္စိဒေဝတ်နှင့်အညီ ဆုတောင်းခြင်း ဖြစ်သည်)။